စာမူခွင့်ပြုချက်အမှတ်

၅၀၁၇၉၄၁၁၀၈

မျက်နှာဖုံးခွင့်ပြုချက်အမှတ်

၅၀၁၇၅၉၁၂၀၈

ပုံနှိပ်ခြင်း

ဒုတိယအကြိမ် (၁၀၀၀ အုပ်)

ထုတ်ဝေခြင်း

ဇန်နဝါရီလ၊ ၂၀၀၉

မျက်နှာဖုံးပန်းချီ

မုတ်သုန်

အတွင်းဖလင်

A Seven Group

ကွန်ပျူတာစာစီ

Dream City

စာအုပ်ချုပ်

ဓူဝံ

တန်ဖိုး

၁၅၀၀ ကျပ်

ဦးဝင်းချို (ဓူဝံစာအုပ်တိုက်) ၂၁၂၊ ၃၁ လမ်း၊ ရန်ကုန်မြို့က ထုတ်ဝေ၍
ဒေါ်ချိုချိုအေး (ဓူဝံပုံနှိပ်တိုက်) အမှတ် (၃၃)၊ ၅၄ လမ်း၊ ရမ်ကုန်မြို့က
အတွင်းစာသားများနှင့် မျက်နှာဖုံးကို ပုံနှိပ်ပါသည်။

# မာတိကာ

## စာရေးသူ၏ အမှာ



အိမ်ကလေးတွေကို ချစ်တတ်သော ကျွန်တော်သည် ကျွန်တော်နှင့် ထိစပ်သမျှ အိမ်ကလေးတွေအကြောင်း ရှုက်နုဝေမဂ္ဂဇင်းတွင် စရေးခဲ့ပါသည်။ ကျွန်တော့်အိမ်ကလေး စာမူများကို တကန်တကတောင်းကာ ထည့်သေးခဲ့သည့် ကိုမော်လှိုင်းနှင့် မမိုး ဇနီးမောင်နှံ၏ ကျေးဇူးတရားကိုလည်း အောက်မေ့ရပါသည်။ ကျွန်တော်က ရေးရန်ပျင်းသော်မှ စာမူကို အဆေးက အခါခါ တောင်းတတ်ကြသော သည်ဇနီးမောင်နှံကြောင့်လည်း စာအုပ်တစ်အုပ်အဖြစ် ထုတ်ထုတ်ပိုက်ပိုက် ရှိခဲ့ရကြောင်းကိုလည်း ဖော်ပြမှ ပြည့်စုံပါလိမ့်မည်။ အိမ်ကလေးစာမူ အချို့ကိုတော့ 'အမည်ခေါင်းစဉ်' တပ်ကာ အောင်ပင်လယ်မဂ္ဂဇင်း၊ Idea မဂ္ဂဇင်း၊ Family မဂ္ဂဇင်းများတွင် ဖော်ပြခဲ့သည်လည်းရှိရာ ယင်းမဂ္ဂဇင်းများ၏ အယ်ဒီတာများကိုလည်းကောင်း၊ ကျွန်တော်၏ 'အိမ်ကလေး ၁၆ လုံး' စာမူများကို စာအုပ်အဖြစ် ပထမအကြိမ် ထုတ်ဝေပေးသည့် ဒေါ်ခိုင်ခိုင်ဦး (ပုဂံစာအုပ်တိုက်)

ကောင်း၊ ဒုတိယအကြိမ် ထုတ်ဝေပေးသည့် ဦးဝင်းချို (မှဝ်စာအုပ်တိုက်) တို့အား ကျေးဇူးစကား ဆိုခွင့်ပြုစေလိုပါသည်။

ဘဝလောင်းရိပ်ထိုးနေတတ်ကြသည့် အိမ်ကလေးတွေအကြောင်း ကျွန်တော် ဆက်လက်ရေးဖြစ်နေဦးမည် ဖြစ်ပါကြောင်း ချစ်ခင်လေးစားစွာ ဖော်ပြအပ်ပါသည်။

နေဝင်းမြင့်
[၁၀ ဖေဖော်ဝါရီ၊ ၂၀၀၆၊ မန္တလေး]

## အိမ်ကလေး ၁



ကျွန်တော်တို့ တိုက်ခန်းပေါ်က လှမ်းကြည့်လျှင် မလုံးတို့ တဲစုကလေးတွေကို လှမ်းမြင်ရသည်။ စုစုပေါင်း ငါးလုံး။ အဝေးကကြည့်အောင် တဲကလေးတွေက တစ်တဲနှင့်တစ်တဲ မနီးမဝေး ထင်ရသော်လည်း ခပ်ခြားခြား ဖြစ်ပုံရပါသည်။ တဲကလေးတွေရှေ့မှာတော့ သစ်ခင်းစိမ်းစိမ်းတွေ တစ်ပြန့်တစ်လျား။ မြေပဲပင်ယောက်တွေလည်း ဖြစ်နိုင်သည်။ ပဲကြီးပဲကျား အစားစားလည်း ဖြစ်နိုင်သည်။ မလုံးတို့ တဲကလေးတွေက မြစ်ဆားမှာဆိုတော့ မြစ်ရေက တဲခြေနှင့် စတုတ်တိုက်။ ရေကလေး နည်းနည်းတိုးလျှင် သည်စိုက်ခင်းတွေထဲ မြစ်ရေဝင်တတ်၏။ ထိုအခါ စိုက်ထား ပျိုးထားသမျှ အပျော်သိကာ။ မလုံးတို့ကလည်း အဲသလောက်တော့ မညံ့ပါ။ မြစ်ရေ အတက်အကျကို သိကြသူတွေ ဖြစ်သည်။

"မစိုက်သေးပါဘူး ဆရာရယ်၊ ရေကျန်သေးတယ်၊ တန်ဆောင်မုန်းရေလေ၊ သည်ရေကျလာရင် ရေကအေးတော့ ငါးလည်း မရတော့ဘူး၊ ဆောင်းလည်း ဝင်ကရော၊ ရေကျန်လျက်ကနဲ့ သွားစိုက်ရင် ရှိတာလေးကုန်မှာ၊ ကုန်ခဲ့လှပေါ့ ဆရာနှယ်၊ သည်နှစ် ပဲစိုက်မယ်"

"မိုးက ကျန်သေးလို့လား"

"ကျန်ကောင်းကျန်ရာ ကျန်မှာပါ၊ ကျီလွှဲမိုးကလေးလောက်ပေါ့"

ကျီလွှဲမိုးဆိုတာ မကြားဖူးလို့ မလုံးကို မေးရသေးသည်။ စာရေးဆရာ လုပ်နေပြီး ကျီလွှဲမိုး မသိရလေခြင်းဆိုသည့်ပုံဖြင့် ကျွန်တော့်ကို ကြည့်လေ၏။ တလင်းပြန့်ထဲ ပုံထားသည့် စပါးတွေ၊ မြေပဲတွေ၊ ပဲတွေ မိုးရေစိုမှာ စိုးရတော့ ကျီထဲ ပုတ်ထဲ အရိပ်အောက်ရွှေ့ရလွှဲရသည့် တိမ်ပုပ်မိုးတလေးတွေကို ဆိုလိုကြောင်း ရှင်းပြသည်။

"နေပါဦး၊ တိမ်ပုပ်မိုးက ဘာလဲ၊ လုပ်ပြန်ပြီ"

"ဟောတော်... တိမ်ပုပ်မိုးမှ မသိရှာလား၊ မိုးပေါ်က မိုးရေပါတဲ့ တိမ်မည်းမည်းခဲခဲ မမှုတပုံကို ခေါ်တာပေါ့ ဆရာရဲ့၊ ခက်တော့နေပေါ့၊ အများကြီး မရွာနိုင်ပေမယ့် တိမ်ထဲရှိသလောက် ရွာတဲ့မိုးပေါ့၊ တိမ်က မည်းမှုပ်နေလို့ တိမ်ပုပ်မိုးခေါ်တာ"

စာရေးဆရာကို ဆရာလုပ်ရလေခြင်း အစိမ့်ဟာယ်ပါသည့် အပြုံးက မလုံးမျက်နှာပေါ်မှာ တိမ်ပုပ်မိုး ရွာနေလေသည်။ ကျွန်တော်တို့ကို မလုံးသူ့အခင်းက ထွက်သည့် ချဉ်ပေါင်ရွက်တွေ လာပေးတတ်သည်။ ပဲညွန့်၊ လတ်လတ်ဆတ်ဆတ်တွေ လာပေးတတ်သည်။ ဘူးညွန့်သန်သန်ကြီးတွေက အလုံးတုတ်သလောက် နူးညံ့သည်။ ကျွန်းဘူးခေါ်သည်ဆို၏။

မလုံးတို့က ပဲခင်းစောင့်ရင်း မြေနုကျွန်းပေါ်မှာ နေကြသူတွေ။ မြစ်ခြေရင်း ရေစပ်စပ်မှာ တဲကလေးတွေ ထိုးနေကြတာကြာပြီ။ မနီးမဝေးက လက်ရွေးရွာမှာ အိမ်ရှိသော်လည်း လုပ်ငန်းနှင့်နီးသည့် နေရာမှာ နေထိုင်ကြခြင်း ဖြစ်သည်။ မြစ်နဲ့နီးတော့ လှေကလေးတစ်စီး ဝယ်ထားသည်။ လှေရှိတော့ မလုံးယောက်ျား ကိုသာမောင်က ငါးဖမ်းတာမျိုး၊ ရင်တွန်းထိုးတာမျိုးလုပ်ရင်း ဟင်းစားရှာတတ်သည်။ ကျန်တာက အခင်းထဲ နွားဖွှစ်ပေါင်းလိုက်။ မလုံးက သူ့ယောက်ျားအကြောင်း ပြောလျှင်

'အိမ်က ယောက်ျားလေး' လို့ သုံးတတ်တာ များသည်။ သူ့ထက်ငယ်သည့် လင်ယောက်ျားဆိုသည့် သဘောမဟုတ်။ အရွယ်ငယ်သူ လင်ယောက်ျားကိုမဆို။ သနားစရာ လင်ယောက်ျားကို ဆိုခြင်းဖြစ်၏။ သူမကြည်လင်ရင်တော့ "အိမ်ကဟာက လက်ဖက်ရည်ဆိုင်ကို အိမ်လုပ်နေတာ ဆရာရဲ့" ဟု ဆို၏။

"အိမ်က ယောက်ျားလေး လုပ်စမ်းပါဗျာ"

"အိမ်ကဟာ... အိမ်ကဟာ... မသာကောင်"

လင်ယောက်ျားအပေါ် သဘောထား ဒီရေမြင့်သစ်။ ဘာပဲဖြစ်ဖြစ် သူတို့တဲကလေးကို သူတို့ ခုံမင်ကြသည်။ ကျွန်တော်တို့ တိုက်ခန်းပေါ်က သူတို့ တဲကလေးတွေကို ရသလောက် လှမ်းမျှော်ကြည့်တတ်သည်။ အခန်းထဲ လူဝင်နေသလား။ တဲအချင်းချင်း အကူးအသန်း လုပ်နေကြသလား။ သူ့ယောက်ျားလေး ဒါမှမဟုတ် အိမ်ကဟာကတော့ ဘာလုပ်နေသလဲ။ နွားတွေ နေပူနေသလား၊ ဘယ်သူတွေ ဘူးညွန့်ဆိတ်နေသလဲ။ တကယ်တော့ အဲသလောက် အဆေးစိတ်မြင်ရတာ မဟုတ်။ တဲလောက်၊ တဲရှေ့က ဘူးစင်လောက်၊ သစ်ခင်းလောက်၊ သစ်ခင်းထဲက နွားများနှင့် တရွရွ ရှိနေတတ်သည့် ဝိုးဝါးမကွဲ လူတွေလောက်သာ ဖြစ်သည်။

"ပြန်ဦးမှ ဆရာရှေ့၊ တဲကြီးပက်လက် ထားခဲ့ရတာ"

တဲကြီးပက်လက်။ မလုံး၏ စကားလုံးတွေကို ကျွန်တော် အင်မတန်သဘောကျပါသည်။ ဟာလာဟင်းလင်း ပိုးလိုးပက်လက် ထားခဲ့ရတာကို မြင်အောင်သုံးခြင်း ဖြစ်သည်။ ကျွန်တော်က အဝေးကြည့် မှန်ပြောင်းကို ဆုတ်လာခဲ့ပြီး သူတို့တဲကလေးတွေကို ကြည့်လျှင် မလုံး စိတ်ဝင်စားသည်။ ကျွန်တော်နှင့် မှန်ပြောင်းကို စိတ်ဝင်စားနေတတ်သည်။ မြင်ရသလားလို့ မေးသည်။ ကျွန်တော်က မှန်ပြောင်းဖြင့် ကြည့်ရင်းက မလုံးကို စသည်။

"မိန်းမတစ်ယောက်ဗျ၊ အသားမည်းမည်း အင်္ကျီအပြာနဲ့၊ နေဦး၊ ထဘီက အစင်းကျား၊ အရပ်က ပုပုရယ်၊ မလုံးတို့ ထမင်းအိုးထဲက ထမင်းတွေ ခူးနေတာ မနည်းဆေါင်ဗျာ၊ နတ်စင်က နတ်ပန်းအိုးက ပန်းတွေကလည်း လန်းလို့ပါလား၊ သုံးအိုးတောင်"

မလုံးက မျက်လုံးတွေ ဝိုင်းနေသည်။ သူ့တဲထဲက ထမင်း ဘယ်သူများ ဝင်ခူးနေပါလိမ့်။ အရပ်ပုပု၊ အင်္ကျီပြာ၊ အသားမည်းမည်း။ ဟုတ်ပြီ၊ ဒါ မှန်လောက်သည်။ နတ်ပန်းအိုးကတော့ အရေအတွက် လွဲနေသည်ကော။

"မဟုတ်မှလွဲရော စန်းတင့်နေမှာပဲ၊ ကျုပ်က ဆန်ဖြူစားနိုင်တော့ လစ်ရင် ထမင်းသိပ်ခိုးတာ၊ တစ်ခါလည်း လုံးသတ်ပြီးပြီ၊ နေနှင့်ဦး ကောင်မတော့၊ နေပါဦး ဆရာရဲ့၊ နတ်ပန်းအိုးက နှစ်လုံးတည်းပါ၊ အဖေကြီးအိုးနဲ့ အမေကြီးအိုး၊ ကိုးမြို့ရှင်နဲ့ ပုလဲယဉ်လေ၊ သေချာများ ကြည့်ပါဦးတော့၊ ပန်းက ဈေးထဲက ဂန္ဓမာလေးတွေရလို့ ထိုးထားတာ"

ကျွန်တော် နောက်တာကို မလုံး အဟုတ်ထင်နေသည်။ သူ့ယောကျ်ား ကိုသာမောင် ဘာလုပ်နေသလဲ ကြည့်ရိုင်းသည်။ ကျွန်တော်က တဲစပ်ဘူးစင်အောက်မှာ မိန်းကလေးတစ်ယောက်နှင့် ရယ်လားမောလားလုပ်နေတာ မြင်ရတယ်ဆိုတော့ မလုံး မျက်နှာညိုလေသည်။

"ဒါ စန်းတင့် ယောက်မနေမှာ၊ ကောင်မက ကလက်တက်တက်လုပ်နေတာ ကျုပ်သိသားပဲ၊ နေဦး အိမ်ကဟာတော့..."

ကျွန်တော့်စနိုးကတော့ ပြုံးနေတတ်ပါသည်။ သူကလည်း မလုံးအကြောင်း ဝတ္ထုရေးချင်သည် ဆို၏။ မလုံးတစ်ခါလာလျှင် ဇာတ်လမ်းတစ်ပုဒ်ပါသည်။ တခြားဝေးဝေးက အကြောင်းအရာများ မဟုတ်။ အနီးအပါး တဲငါးလုံးက နေထိုင်မှုဘဝတွေ။ ကျွန်တော်က လက်ရွေးစွာထဲကအိမ်မှာ နေကြရင်းက မနက်မှ စိုက်ခင်းထဲ လာကြပေါ့ဟု အကြံပေးလျှင်

လေးက လက်မခံ။ နေခြင်းဘဝထက် စားခြင်းဘဝက ပဓာနကျကြောင်း ပြောတတ်သည့်တိုင် သူ့သဘောတရားက အဲသလို ညွှန်းတတ်သည်။

"အိမ်ဆိုတာ လေးဖက်ကာ အမိုးမိုးပါ ဆရာရဲ့၊ ပညတ်တွေပါ၊ တကလေးကလည်း အိမ်ပဲ၊ မနက်တိုင်း ကူးနေဖို့ အချိန်မရဘူး၊ ဘယ်လို နေရနေရ၊ နေတတ်ရင် ပြီးတာပဲ"

မလုံးစကားကြောင့် ကျွန်တော့်မှာ တွေးစရာတွေ ရခဲ့သည်။ မလုံး ပြန်သွားတော့လည်း အတွေးမရပ်။

ကျွန်တော့်အဖေကို သတိရသည်။ အဖေက အိမ်စွဲကြီးသည်။ အိမ်ဆောက်လေ့တွေကို ယုံကြည်လွန်းသူ ဖြစ်သည်။ နေထိုင်မှု ဘဝသည် မင်္ဂလာရှိသောဘဝ ဖြစ်ရမည်ဟု လက်ခံထားသူ ဖြစ်သည်။ အညာ ကျေးလက်က ကျွန်တော်တို့အိမ်။ အခုတော့ အိပ်မက်ဖြစ်ခဲ့ရပြီ။ အိမ်လည်း မရှိတော့။ အဖေလည်း မရှိတော့။ ကျွန်တော်တို့တလည်း ကျိုလွှဲမိုး ဖြစ်ကြရပြီ။ တလင်းပြန့်ထဲက ပုတ်ထဲ၊ တောင်းထဲ ရောက်ရပြီ။ လောကဓံ တိမ်ပုပ်မိုးက မစဲစတမ်းရွာနေသည့်အခါ မိုးလောကဓံမှ လွတ်ရာလွတ် ကြောင်း ပြေးခဲ့ရပြီ။ ကျွန်တော်တို့ ညီအစ်ကိုနှစ်ယောက်မှာ အရွယ်ရောက် ကတည်းက ဝန်ထမ်းဖြစ်လာကြသူတွေ။ အလုပ်သမားတန်းလျားမှာ နေ ခဲ့ကြရသည်။ ကိုးပေပတ်လည်။ ခြောက်ဆယ်ဝပ် မီးသီးတစ်လုံး။ လစာ ထဲမှ ဖြတ်ယူသော လစာ၏ ဆယ်ရာနိုင်နှုန်းငွေက အခန်းစရိတ် ဆိုပါ တော့။ လစာက (ထိုစဉ်က) တစ်ရာကျော်ဆိုတော့ အိမ်ခန်းလခက တစ် ဆယ်ကျော်။ သည်တစ်ဆယ်ကျော်က တစ်ဘဝစာ လုံလောက်နေသလိုလို ကျွန်တော် တွေးခဲ့မြဲ။ အိမ်ကလေးတစ်လုံး ဆောက်ဦးမှဆိုသည့် တောင့်တ မှု မရှိခဲ့တာလည်း အမှန်။ ကျွန်တော့် အစ်ကိုလည်း ဝန်ထမ်းဘဝကုန်း လန်း ပင်စင်ယူခဲ့သူ ဖြစ်သည်။ ပင်စင်ယူခါနီး ဝန်ထမ်းမြေကွက်ကလေး ရတော့လည်း ရောင်းစားလိုက်ကြောင်း ကြားရသည်။ ညီအစ်ကိုဆိုသော်

လည်း ဒါက တစ်ဦးချင်း ကိစ္စတွေ။ သူ့ဘဝ စီမံချက်ကို ကျွန်တော် မသိ။ အခုကော ဝန်ထမ်းဘဝ လွတ်တော့ ဘယ်မှာ ဘယ်လိုများ နေပါလိမ့်။ ဒါလည်း ကျွန်တော် မသိ။

ညီအစ်ကိုချင်း ဒါတောင် မသိဘူးလားလို့ မေးသူရှိလျှင် ထို အမှန်တရားကိုသာ ကျွန်တော် တိုင်တည်ရတော့မည်။ ဒါဖြင့် ကျွန်တော် ကကော။ မိမိကိုယ်သည်ပင် အိမ်ကလေးတစ်လုံးသည် မသေချာသေး။ ကျွန်တော့်မှာ အိမ်မရှိ၊ စာအုပ်တွေသာ ရှိသည်။ ကျွန်တော့်မှာ မြေမရှိ၊ စာအုပ်တွေသာ ရှိသည်။ ကျွန်တော့်မှာ အနာဂတ် စိတ်ကူးစိတ်သန်း မရှိ၊ စာအုပ်တွေသာ ရှိသည်။ မီးမီတာ မရှိ၊ ရေမီတာ မရှိ၊ တယ်လီဖုန်း မရှိ၊ အိမ်ထောင်စုစာရင်း မရှိ၊ ကားလိုင်စင်၊ မော်တော်ဆိုင်ကယ် မရှိ၊ စာအုပ် တွေသာ ရှိသည်။ ယုတ်စွအဆုံး မှတ်ဆိတ်ရိတ်သည့် ဂျွတ်ကောင်းကောင်း မရှိ။ စာအုပ်တွေသာ ရှိသည်။ ကိစ္စမရှိ။ မိဘဆရာသမား မိတ်ဆွေများ ၏ မေတ္တာဖြင့်ကာမ်းသော ရုပ်ဝတ္ထုများ၊ စိတ်ဝတ္ထုများ ကျွန်တော့်ဆီ ရောက်လာတတ်သည်။ ဤသို့ဖြင့် ကျွန်တော့်အိမ်သည် ပြည့်စုံလာခဲ့သည်။ ကျေးဇူးတရားကို ထုတ်ဖော်ခြင်းသည်သာလျှင် မင်္ဂလာတရား ဖြစ်သဖြင့် ကျွန်တော် ရေးပြခြင်း ဖြစ်သည်။ ချစ်မိတ်ဆွေများ၊ မိဘဆရာသမားများ ၏ ကျေးဇူးကြောင့် လေးတိုင်စင်အိမ် (House) ဆိုတာထက် မေတ္တာဖြင့် လုံခြုံသောအိမ် (Home) ကို ကျွန်တော် ပိုင်ဆိုင်ခွင့်ရခဲ့ပြီ။ ကျေးဇူးတင် ပါသည်။

မြန်မာလေ့မှာတော့ အဖိုကလေး ခွဲယ်နေရသည့် အမိုအမိ သဉ်ကျေးမှု ရှိသည်။ မိဘက သားသမီးကို ခြံဝန်းထဲက မထွက်စေဘဲ အဖိုကလေး ချနေစေခြင်းသည်ပင် မေတ္တာအိမ် ဆောက်ပေးခြင်း ဖြစ်ပါ သည်။ အိမ်ကလေးဟောင်းလို့ အိမ်သစ်ကလေး ဆောက်ချင်တာလည်း ကြီးစွာသော မင်္ဂလာစိတ်ကူး ဖြစ်သည်။ အိမ်ဟောင်းဖယ်ပြီး ဆောက်ကြ

တာရှိသလို အိမ်သစ်သန့်သန့် ဆောက်ကြသည်လည်း ရှိသည်။ ဆောက်မည့်သစ်ကို မင်္ဂလာယူပြီး သစ်ကြိုပွဲ လုပ်ကြသည်။ ကျီးအာ၊ နတ်သက်၊ ပုစဉ်းတောင်လှွဲ၊ ဖော်လဲ၊ သစ်ကြိုတ်၊ သစ်တွဲလဲတွေ ရှောင်ကြသည်။ မအူ၊ မိကျောင်း၊ သခွပ်၊ ဆီး၊ သပြေ၊ ကလော၊ သစ်ဆိမ့်၊ လက်ပံတွေ ရှောင်ကြသည်။ ရက်ရွေးတော့လည်း တန်ခူးသာကျော်၊ ထွန်းပေါ် ကဆုန်၊ နယုန်ညွှန့်စ၊ အောင်လှဝါဆို၊ သာလိုဝါခေါင်။ သူ့လနှင့် သူ့ရက်။ ဘုရင်ရက်၊ ရက်ရာဇာ။ နဂါးလှည့်ကလည်း အမြီးကလျှောက်၊ ခေါင်းက ဖောက်ပါမှ။ နယုန်ဝါဆို၊ ဝါခေါင်ကိုလျှင် တောင်တွင် မြီးမျှား၊ ကျောကား အနောက်၊ မြောက်သို့ ခေါင်းရင်း ဖြစ်ရသည်။ နတ်တောင်ပြာသို၊ နှင်းစိုချမ်းမြ၊ တပို့တွဲကား မလွှဲသိသာ၊ ဒက္ခိဏာဟု ဆိုသည်။ မြေခံကဏ္ဍ၊ ပန္နက်ရိုက်၊ ခြင်္သေ့ခံ၊ ဆင်ခံ၊ ကြွက်ခံ၊ ပူးခံ၊ နဂါးခံ၊ ဟိုင်းခံ။ မြေခံကောင်း မြေခံညံ့ ရွေးကြရမြဲ။ အိမ်ဆောက်ဖို့ ကြိုးကိုင်တာကလည်း အားလို့လျှားလို့ မေတ္တာနှင့်ကူချင်လို့ မရပါ။ ဘာနေ့သားလည်းဆို ရှိသေးသည်။ နာမည်ကကော။ ပေလား၊ ပွားလား။ ပွား ကြိုးကိုင်ဖို့ သေချာသည်။ မင်္ဂလာရှိသော ပွားစည်းခြင်း အစိပ္ပာယ်ပါသည့်လူကို ရွေးသည်။

တိုင်သိပ်၊ ပရိတ်ထူ၊ တိုင်ထူ။ မြေကို သန့်ရသေးသည်။ အင်းတိုက်၊ အပင်းတိုက်၊ ခြေဆောင့် ဖနောင့်ပေါက် သိုက်မြှုပ်၊ အင်းမြှုပ်၊ ဓာတ်နိုက်၊ စုန်းနိုက် ဖယ်ရှားသည့်သဘော ဖြစ်သည်။ အဖေက တိုင်ထူခါနီး နဂါးဝမ်းမိုက်ပေါ် ကျပစေဟု သေချာတွက်ကြပါဦးဟု အော်တာ မှတ်မိသည်။

"ဦးခေါင်း ဂမ္ဘုန်သုတ်၊ ဝမ်းကို ကြွက်သောက်၊ အမြီး ဆင်နှင်းပစေ၊ ဥရုတိုင်၊ ကြငှန်းတိုင်၊ ညောင်ရမ်းတိုင်၊ သပြေတိုင်၊ ရေခေါင်၊ ကုမ္ဘီးတိုင် ခိုင်ပါမှ တောင့်သတဲ့"

အမေက ကြံရွက်၊ သပြေရွက်၊ အုန်းညွှန့်၊ မြေဇာညွှန့်အသင့်။

အဖေက တိုင်မယိမ်းစေနဲ့ဟ၊ အသံမပြည်စေနဲ့ဟ၊ တိုင်ချင်း မရိုက်စေနဲ့ဟ အော်သည်။ နောက်ဆုံး ကျွန်တိုင်ထူမည်ဆိုတော့ လက်သမားက ကပ်ပြီး "လေးသဖျ" ဆိုသည်။ အဖေက ငွေနှစ်ကျပ် ထုတ်ပေးမှ ထူသည်။

"မိုက်ဆုံးတော့ ယုက္ခ၊ ထီးမဆောင်းစေနဲ့၊ မှိုမပေါက်စေနဲ့၊ စို့မရိုက်စေနဲ့၊ ရင်ခွဲစေနဲ့၊ လျှာမထုတ်စေနဲ့၊ ကျိုးမနားစေနဲ့"

အဖေက ခွေးကတက်၊ လှေကား၊ အုန်းလက်တိုင်၊ သဘော်ကြမ်း၊ ခါးသန်း၊ ယက်မ၊ အိမ်အုပ်၊ ထုပ်၊ လျှောက်၊ အခြင်၊ ရနယ်၊ ကြွက်လျှောက်၊ ပန်းဆွဲ၊ မြင်းခိုရိုက်၊ ဝဲတိုင်၊ ပေါင်းကွပ် အားလုံးကို စစ်ဆေးသည်။ တစ်ဆဲတောင်၊ ဈက်နှာကြက်၊ ခေါင်အုပ်၊ ဝဲလင်း၊ ကျပ်ခိုးစင်၊ လက်ရန်း၊ ဆင်ဝင်၊ ဆင်ထပ်၊ ပန်းဆွဲ မြဲချင်တိုင်းမြဲစေသည်။ သားချီ၊ မင်းတုပ်၊ ကျီးရှင်၊ ကျီးအတ်၊ ပြတင်းကဲလား မများစေရ။ လှေကားထူတော့မည့်နေ့ ရဟန်းသံဃာတော်ကို ပင့်ဖိတ် ဆွမ်းလုပ်ကျွေးရသေးသည်။ စပါးတောင်း၊ ဝါတောင်း၊ ပဲတောင်း၊ ဆီအိုး၊ ငါးပိအိုး၊ မီးခွက်၊ လက်ဖက်ခွက်၊ ကွမ်းအစ် သစ်ချင်တိုင်းသာ သစ်ရော့။

"ရှေးကများ တို့အဖေတွေက အိမ်ဆောက်ရင် သေသေချာချာ ဆောက်တာ၊ ငါက ဘာဟုတ်လိမ့်မလဲ၊ ရေပြည့်အိုး၊ သမီးကညာ၊ မီးမယ်ဖျူး၊ တောင်းပြည့်ဆန်၊ ဆီပြည့်အိုး၊ ကော်ဇော၊ ထမင်းပွဲစုံ၊ နို့အိုး၊ ခရုသင်း၊ ကျောက်ပျဉ် ကျောက်သွား၊ လေးနဲ့မြားက အစရှာထားရတာ။ ဒါမှ အိမ်အရာမြောက်တာ"

အဖေ့အိမ်ကတော့ နေ့အလို ကျက်သရေတည်ပုံ တွက်သည်။ လာဘ်နေ နတ်နေ ရွေးသည်။ ဝါရမိတ္တာရက်ယေ် ရက်ကြီးတွက်သည်။ မဟာရက်ကြမ်းကို ရှောင်သည်။ အမြိတ္တာစုတ်ရက်၊ ရှမ်းရက်၊ သမားညှိရက်၊ သမားဖြူရက်၊ ကိန္နယုတ်ရက်၊ ပြဿဒါး၊ နဂါးလှည့်၊ ရက်ယုတ်မာ

တွက်သည်။ ရသေ့ကျော်ကိန်း၊ လဒဏ်သင့်ရက်၊ နေဒဏ်သင့်ရက် တွက်သည်။ နေ့ရက်၏ အမြစ်အညွန့် တွက်သည်။ အိမ်သူအိမ်သားတို့၏ မွေးနံ တွက်သည်။ ဒါတွေက ကျွန်တော် မှတ်မိသလောက်သာ ရှိသေးသည်။ သည်အိမ်ဆောက်တော့ လက်သမားဆရာကြီး ဦးထွန်းရက အဖေနှင့် အိမ်မှာပဲ နှစ်ပေါက်နေခဲ့တာလည်း မှတ်မိသည်။

"ကိုညို့ရဲ့ ထမ်းဆောင်အားများတဲ့ ကပ်ပျဉ်တွေမှာ သံရိုက်တာတောင် သံရဲ့စူးဝင်နှုန်းများ တွက်တတ်ရတယ်။ သံရိုက်မမှန်ရင်တောင် အကျိုးပျက်စီးတတ်တယ်။ သံပထမတစ်ချောင်းနဲ့ ဒုတိယအချောင်းရိုက်ရမယ့်နေရာ အကွာအဝေး အရေးကြီးတယ်။ သံရိုက်မြဲမှ ထမ်းအား မြဲတယ်။ သစ်ထဲဝင်တာနဲ့ စွဲတာ မဟုတ်ဘူးဗျ။ စွဲအောင်ရိုက်တတ်မှ စွဲတာ၊ ဘာမှတ်လို့တုံး"

ဘကြီးထွန်းက လေှကားဆန် မ ဂဏန်းထားမှ၊ စုံထားတော့ အိမ်ရှင်များရောဟု ဆိုသည်။ စုံထားတော့ ဘယ်က စတက်ရင် ညာခြေဆုံးမှ အိမ်ပေါ်ရောက်သည်။ ညာက စတက်တော့ ဘယ်ခြေမှာ ဆုံးတတ်တယ်။ ဘယ်စတော့ ညာဆုံး၊ ညာစတော့ ဘယ်ဆုံး။ အိမ်ပေါ်ရောက်တော့ ကြောင်စီစီဖြစ်တတ်သတဲ့။ ဘယ်စတော့ ဘယ်ဆုံး၊ ညာစတော့ ညာဆုံးမှ ကောင်းသတဲ့။ လေှကားပျဉ်သစ်များ အောက်ဘက်နေတော့ 'အမော်လန်' ဟု ဆိုသည်။ မင်္ဂလာလေှကား မဟုတ်။ လေှကားပေါင်အိသန်းမှာ သစ်မျက်ပါတော့ နိုက်တတ်သည်ဟု ဆိုသည်။ အမျက်ဆိုးရှေဆိုး ကင်းပါမှ။

"တကယ်တမ်းကျတော့ ချိန်မျှဉ်းမှန်မှ အနင်းအကျော်မှန်မှ ကောင်းသာပေါ့ဗျာ၊ လေှကားများကျတော့ အနေးအတက် ခြေလှမ်းတွက် ယူရတယ်။ လက်မအားဖြင့် သုံးဆယ့်လေးလက်မက သုံးဆယ့်ရှစ် လက်မကြားလောက်။ လေှကားဆန် အကွာအဝေး တွက်ရတယ် ဆိုပါတော့၊ ၁၆ လက်မ၊

ဒါကို ၃ နဲ့စား၊ ၂ နဲ့မြှောက်တော့ ၂၄ လက်မ၊ ဒါ အကောင်းဆုံးပဲ၊ ယော… ကလေးများများပါတဲ့ အိမ်ကျတော့ ထားပေါ့ လက်မ ၂၀၊ ၂၂ လက်မ အတော်ပဲ”

ဒါက အမေ့အိမ်တုန်းက အတွေ့အကြုံ။

သံကလေးရိုက်တာ၊ လေကားကလေးတပ်တာတောင် အဲသလောက် ဆိုလျှင် အိမ်ကြီးတစ်ဆောင်လုံး ဆိုစရာမရှိပြီ။ အိမ်ဆိုတာ စိတ်ဝတ္ထု၊ ရုပ်ဝတ္ထု နှစ်ရပ်ပေါင်းထားသော အောင်းဂူသာ ဖြစ်သည်။

မနေ့တစ်နေ့ကတော့ မလုံးတို့ တဲကလေးဆီ ကျွန်တော်တို့ သွားလည်ကြသည်။ မလုံးတို့ တဲစုကလေးတွေနားရောက်တော့ မလုံးက ဘဲစာကျွေးနေသည်။ 'သူ့ယောက်ျားလေး' က ကွန်ဖာနေသည်။ တဲနီးချင်းတွေက ပိုးနားသန်ကောင်လို ခေါင်းချင်းဆက် ကုလသမဂ္ဂ သန်းစစ်ဆေးရေး ဝင်နေကြသည်။ တဲရှေ့ဘူးစင်ကလေးမှာ ဘူးသီးတွေ ခဲနေသည်။ ပဲပင်တွေက စိမ်းစိမ်းမှောင်မှောင်။ ဘက်ထရီအိုးဟောင်းကလေးနှင့် တွဲထားသည့် ကြေး (ကြိုး) လက်ဆေးသစ် ကက်ဆက်က ကျိုကျိုကျာကျာ မြည်နေသေးသည်။ မြစ်လေက တဲပက်လက်ကလေးတွေထဲမှာ ကတမ်း ခုန် တမ်း ကစားကြလို့။ ငါးညှိနံ့ သစ်ခင်းစိမ်းနံ့က သူတို့အတွက် ငွေစက္ကူနံ့ ဖြစ်နေလိမ့်မည်။ မလုံးတို့ တဲကလေးတွေမှာတော့ မဟာရက်ကြမ်းမရှိ။ အင်းတိုက်၊ နဝင်းတိုက်၊ သိုက်တိုက်၊ မှော်တိုက် မရှိ။ ဘယ်စ ညာဆုံး လှေကား အနင်းအကျော် မရှိ။ ပျားစွဲ လင်းတနား မရှိ။ ထီးဆောင်းမှိုပေါက်၊ စို့ရိုက် မရှိ။ ဆီပြည့်အိုး ဆန်ပြည့်အိုး မရှိ။ တဲပက်လက်ဆိုသော်ငြား မေတ္တာရှိလျှင် အိမ်ဖြစ်ပြီ။

□

## အိမ်ကလေး ၂

ရွာကိုလွန်ပြီးမှ ဆိုက်ကပ်သော ပြည် ကူးတို့သင်္ဘောက နေ့ခင်းတစ်ချက်၊ နှစ်ချက်လောက်မှ ဆိုက်တတ်သည်။ သဲကုန်းပုပ္ပကို ခြေမျက်စိမြုပ်အောင် ရုန်းတက်ပြီးမှ ကမ်းပါးထိပ်ကို ရောက်ရသည်။ ကမ်းပါးထိပ်မှာ ဘာမှမရှိ။ အဝေးက သစ်စိမ်းညို့ညို့ရွာကို လှမ်းငေးရုံသာ။ ရွာဘက်ကို သင်္ဘောကြဲ့ စောင့်ပို့တတ်သော ပုံထောင်ကလေးတွေ ရှိတတ်သော်လည်း သင်္ဘောဆင်း ရွာခရီးသည်တွေက မစီးတာ များပါသည်။ သူတို့အ ဖြစ်နိုင်ခြေများသည်ကို ငွေကြေးဖြင့် လဲလှယ်ယူကြသူတွေ မဟုတ်။ ဓါလာသမျှ အထုပ်ခေါင်းပေါ် သုံးလေးဆင့် တင်မည်။ တချို့ကို ခါးဆစ်ခွင်မည်။ တချို့ကို လက်မှာချိတ်မည်။ ပစ္စည်းနည်းသူက များသူကိုကူမည်။ ဤသို့အားဖြင့် ရွာဘက်ကို လျှောက်ကြမည်။ သင်္ဘောဆိပ်နှင့်ရွာက အမြင်နီးသော်လည်း ခရီးဝေးသည့်တောင် ဆိုသလို ဖြစ်နေသည်။ ရွာကို နောက်ထပ် သွားနိုင်သည့်ယာဉ်မှာ လှည်းကြမ်းဖြစ်၏။ သင်္ဘောဆိပ်နားကရွာမှာ လှည်းကြမ်း ငှားနိုင်သည်။ သို့သော် လှည်းကြမ်းငှားရဖို့ရွာထဲ ဝင်ဖို့ကလည်း မနီးလှ၊ ဝေး၏။

"ဦးလေး လှည်းငှားမလား"

ကလေးတစ်ယောက်က လာမေးလိမ့်မည်။ ငှားမည်ဆိုလျှင် သူ့ကို မုန့်ဖိုး ၅၀၊ ၁၀၀ ပေးရမည်။ သူကလေးက ရွာဘက်ကို ပြေးမည်။ လှည်းအနွဲ့တစ်စီးဖြင့် သူပါ လိုက်လာမည်။ ထိုအခါ သူ့အတွက် ဝန်ဆောင်ခ ပေးရမည်။ လှည်းသမားကလည်း သုံးလေးရာမှ လူနှင့်ပစ္စည်းကို ကြည့်၍ ငါးရာ၊ ခြောက်ရာ တောင်းနိုင်သည်။ ကျွန်တော်ကတော့ ငှားရသည်သာ။ သဲပူပူ သစ်ပင်မဲ့လမ်းကို တစ်နာရီခွဲလောက် ကျွန်တော် မလျှောက်နိုင်။ ကိုယ်တိုင် တောသားဖြစ်သည့် ကျွန်တော့်မှာ မြို့ပြအငွေး တက်နေပြီ။ တစ်ခုတ်တိုင်စာလောက်ကို ဘတ်စ်ကားဆောင့်စီးတတ်သော သိမ်ဖျင်းဖျင်း ခြေထောက်တွေက အကျင့်ပါနေပြီ။ ဤသို့အားဖြင့် လှည်းသမားကိုကျော်အောင်နှင့် ကျွန်တော် လှည်းပေါ်မှာ မိတ်ဆွေဖြစ်ခွင့်ရပြီ။

"တခြား စီးပွားရေး ဘာလုပ်သေးလဲ"

"ဘာလုပ်လိမ့်မလဲ"

သူ့အဖြေကို ကျွန်တော် သဘောကျသည်။ ဘာလုပ်လိမ့်မလဲ။ သည်စကားစုထဲမှာ အဓိပ္ပာယ်တွေ အများကြီးပါသည်။ လှည်းခက ထမင်းစား ဖို့လောက်သည်ဆိုသည့် သဘောပါသည်။ တခြားစီးပွားရေး မလုပ်တတ်ပါဘူးဗျာဆိုသည့် သဘောလည်း ပါသည်။ ဒါ အလုပ်မဟုတ်ဘူးလားဗျ။ တခြား လုပ်စရာလိုလို့လားဆိုသည့် အငေါ်တွေးသံကလေးလည်း ပါလောက်သည်။

"လှည်းက နေ့တိုင်း လိုက်ရသလား"

"ဘာလွတ်လိမ့်မတုံး"

နေ့တိုင်းလိုက်ရသည်ဟု ဆိုတာလား။ သူ့ဖြေပုံက တုံးတိတိနိုင်သော်ငြား မျက်နှာက ပြုံးနေသည်။ လှည်းကကမ္ဘ ကကျင်းတွေကို ရှန်နေသည်။ နေကတော့ ပူချစ်ချစ်။ အနိမ့်ပိုင်းမှာတော့ မြစ်ရေတိမ်တိမ်ကို

မြင်နေရသည်။ ကြက်ဆူပင်တောကြားက လှည်းလမ်းက ကန့်သတ်မှု အကျဉ်းအကျပ်ထဲ ညပ်နေသည်။ ကိုကျောင်းမောင်းက ကျွန်တော် သွား ချင်ရာကအပြန် ထန်းလက် တိုက်ရမည်ဟု ပြောသည်။ ထန်းလက်က အိမ်မိုးဖို့၊ ပဲမှော်တိုက် မိုးဖို့ဟု ဆိုသည်။ ပဲမှော်တိုက်ဆိုသည်က နှစ်ထပ် အိမ်တစ်မျိုး ဖြစ်သည်။ နွားစာတွေက အပေါ်ဆင့်မှထားကာ နွားလွတ် အောင် မြှင့်ဆောက်ထားတော့ အောက်မှာ နွားထားနိုင်သည်။ နွားစာ ရှားပါးသည့် အရပ်၊ ရေဝင်သည့်အရပ်ဆိုတော့ တစ်နှစ်တာ ယာထဲ ကိုင်း ထဲက ထွက်သည့် ပဲမှော်ရိုး၊ ပဲမှော်ခွံ၊ ပြောင်းရိုး စသဖြင့် စုထားရသည်။ လူစာက ရှာလို့ရသော်ငြား ကျွဲစာ၊ နွားစာက မရနိုင်။ အိမ်အတွက်ရော ပဲမှော်တိုက်အတွက်ပါဆိုလျှင် သစ်၊ ဝါး၊ ထန်းလက်၊ လက်ခ မသက် သာမှာတွေ ပြောနေသည်။

"တော်တော်ကုန်မှာပဲဗျ"

"ရော်… ဆရာလေးနှယ် ဘာ ကလိမ့်မတုံး"

ကျွန်တော့်စိတ်က တွက်ထားသည့် ငွေကြေးပမာဏကို သူ မသိ ဘဲ ဘာ ကလိမ့်မတုံးဟု ဆိုနေသည်။ တစ်နည်းအားဖြင့် လျှော့တွက်ရန် ဆောဆိုသည့်သဘော။ ကျွန်တော် ပြုံးတော့ သူကလည်း ပြုံးလေ၏။ ခင်ရှား သဘောပေါက်သွားပဲဆိုသည့်အပြုံး။ သည်လိုနှင့် ကြက်ဆူတော ကြားက လှည်းလမ်းသည် မြင်ကွင်းကျယ်ထဲ ရောက်လာသည်။ ဗာဂျီး ကိုးသားဆေးခင်းများ။ ပွယောင်းယောင်း ဆေးရွက်စိမ်းများပေါ်မှာ ဖုန် တွေ တင်နေသည်။ ဆေးခင်းတွေကလည်း တစ်မျှော်တစ်ခေါ်ပါပဲ။ လှည်း က မြစ်ဘက်ကို ဆင်းသည့် ချောင်းစောက်၊ မြောင်းစောက်တွေကို ကျော် သည်။ နိမ့်လိုက်၊ မြင့်လိုက်။ ရွာဝင်ခါနီးမှာ ဘယ်သူ့အိမ်သွားမှာပါလို့ မေးသည်။

"ရွာမြောက်ဘက်က ကြီးတော်ဋ္ဌေကြည်တို့အိမ် သိသလား"

"ဘာလွဲလိမ့်မတုံး"

ဟန်တော့ကျသည်။ ကျွန်တော် ရွာမရောက်တာ လေးငါးနှစ်တော့ ရှိလိမ့်မည်။ မနှစ်က ကြီးတော်တို့အိမ်ကလေး အပါအဝင် ရွာထဲ မြစ်ရေ ဝင်သည်ဟု ဆိုသည်။ ရေက နှစ်စဉ်ဝင်တာတော့ မဟုတ်။ မြစ်ရေ တော် တော်ကလေးကြီးမှ ဝင်တတ်ခြင်း ဖြစ်သည်။ ရွာက မြစ်ရေဝင်တော့ ဒုက္ခ ရောက်ကြသော်လည်း မြစ်ရေကို မျှော်ကြရမြဲ။ မြစ်ရေဝင်မှ ယာတဲ ကိုင်းထဲ မြေနုသစ်ကျန်သည်။ သဘာဝတရားကပေးသည့် နုန်းတင်မြေနု က အဖိုးတန်သည်။ ဒုက္ခနှင့်ရင်းရသည့် သုခ။ လှည်းက ကြီးတော်တို့ ဝိုင်းတိုက်ကလေးရှေ့မှာ ကျွီခနဲ ရပ်သည်။ ကျွန်တော်တို့ လှည်းပေါ်က ဆင်းတော့ ဝန်စည်စလယ်ကလေးတွေချရင်း ကွင်းပြန့် ပဲတလင်းကို ဖြတ် သည်။ ပဲတလင်းထဲမှာ ပဲရိုးတွေ အပြန့်ကျယ်ကျယ် ဖြန့်ထားသည်။ နွားမှာတော့ မြေပဲတောင့်ပုံကလေး။ ကျွန်တော်က ထန်းလက် တံစက် မြိတ်ကို ငုံ့လိုက်ပြီး အသံပေးတော့မှ ကြီးတော်က ငေါက်ခနဲ ထထိုင်သည်။

"ဟောတော် ... မပြောမဆိုတော်၊ ဘာနဲ့လာတုံး၊ ပြည်ကူးတို့လား၊ မော်တော်ကြုံလား"

မော်တော်ကြုံဆိုတာက ဖောင်ဆွဲသစ်မော်တော် အကြုံကို ပြော ခြင်း ဖြစ်သည်။ ကြီးတော်၏ သမီးတွေကတော့ မရှိ။ ပုန်းမကြည်တင် အတင်သွားကြသည် ဆို၏။ အိမ်ကလေးထဲမှာ ဘယ်သူမှ မရှိ။ ကြီးတော် နှင့် ကျွန်တော်သာ ရှိသည်။ အိမ်ထရံတွေက ဟောင်းမြင်းလွန်းနေပြီ။ အရှေ့ဘက်ထရံက နွားတစ်ဝင်စာလောက်ကို ပွင့်လျက်။ ကျပ်ခိုးမှိုင်းတွေ သည်းထနေသည့် နောက်ဖေးဘက်က မီးခိုးငွေ့ကလေး တက်နေတာ မြင် ရသည်။ ရေညှိတက် သောက်ရေအိုးထဲက ရေကို ခပ်သောက်တော့ ကြီးတော်က အားနာဟန်တူ၏။ ကူနီနတ်ပွဲကျတော့မှ အိုးဝယ်ရမယ်ဗို့

တာ:ဖာသည်။ အောက်ထပ် ခါ:ပန်းမှာတော့ သောက်ရေသန့်ဘူးယောင်း ရား ချိတ်ထားတာ ပလုံစီနေ၏။ ပိုးသတ်ဆေးတွေ 'ဖြစ်လိမ့်မည်။

"သည်နှစ် ပဲရသားပဲ၊ ကြက်သွန်ကော"

"မဥလှဘူး ငါ့တူရဲ့၊ မျိုးဈေးကြီး မိထားပြီးရောင်းတော့ ဈေးထိုး ချလို့ သည်နှစ် မဟန်ဘူး၊ ခွက်ခွက်ကို လန်ရော"

ကျွန်တော်က ပါလာသည့်မုန့်တွေ ချကျွေးသည်။ ကြီးတော်က သည်တော့မှ လွမ်းလွန်းလို့ဆိုကာ ငိုလေသည်။ ကြီးတော်က ပါးပါးလျား လျားကလေး ဖြစ်သည်။ ဆံထုံးကလေးက တမာသီးလောက်ရှိကာ မျက်နှာကလေးက ဥသျှစ်သီးလေးလောက် ရှိသည်။ ကွပ်ပျစ်ကြီးပေါ်မှာ ငုတ်တုတ်ကလေးထိုင်ရင်း ရှေးဟောင်းနှောင်းဖြစ်တွေ ပြောတော့သည်။ အိမ်ခါ:ပန်းပြားမှာ မြေဖြူရာတွေ ရှိသည်။ သမက်ဖြစ်သူ ရေးထားမှ နသည်။ ဘုရားပွဲရက်၊ ကြက်သွန်ပျိုးရက်၊ ထန်းလက်တိုက်သည့်ရက်၊ ဘက်ထရီအိုးဝယ်သည့် ရက်စွဲများ ဖြစ်သည်။ ကြီးတော်က အိမ်ဝ 'ဧ ခုတင်' ကြီးပေါ် ပစ်လှဲလိုက်သံကြားတော့ အားနာသွားဟန်တူသည်။

"ဖုန်တွေမဟုတ်လား ငါ့တူရဲ့၊ နေပါဦး ခင်မာတို့ လာပါလိမ့် မယ်၊ သည်နှစ် အိမ်ပြင်မှာ ကြက်သွန်ဈေးကလေး 'မှာ' မလား စောင့် နေတာ"

သည်နှစ် အိမ်ပြင်မှာဆိုသော်လည်း ကြက်သွန်ဈေးကောင်းပါမှ လို့ စကားခံထားတော့ မပြင်ဖြစ်တော့မှာ သေချာနေသည်။ ကျွန်တော် က ဘာမှပြောမနေတော့ဘဲ ဧခုတင်ပေါ်က လှူးလဲထကာ ဝိုင်းထဲလျှောက် လာခဲ့သည်။ ဝိုင်းကလေးက မကျယ်ပါ။ ဖို့ထားသည့် ကုန်းမြင့်ကလေး ပေါ်မှာ ပဲမျော်တိုက် ရှိသည်။ နွားနှစ်ကောင်က စားကျင်းကို နှုတ်သီးနှင့် ခွတ်နေသည်။ ပဲပြန့်တလင်းရှေ့က ကြည့်တော့မှ ကြီးတော်အိမ်ကလေး က ယောင်းနွမ်းလွန်းနေတာ သတိထားမိသည်။ ထန်းလက် တစ်စက်မြိတ်

ပေါ်က မြင်ရသော အိမ်အပေါ်ထပ်မှာ ဘဲဥပုံ စားပွဲဟောင်းတစ်လုံး အစွန်းထွက်နေသည်။ ရှေးက ချမ်းသာခဲ့ဖူးကြောင်း ဂုဏ်ရည်ပြ စားပွဲကလေး။ အရောင်တင်ဆီ မရှိသော သစ်သားခြောက်ရောင်မှာ ဖုန်ချိုးတွေ တက်နေသည်။ အခုတော့လည်း သည်စားပွဲလေးအတွက် မအပ်မစပ်နေရာတစ်ခုကို ရောက်နေရသလို။

"ကြီးတော်တို့က ခုံမင်းကြီးမျိုးတွေ၊ သိပ်ချမ်းသာတာ၊ အမေတို့ပြောတာတော့ မြို့တို ခုံမင်းကြီးက မြင်းနဲ့ ရုံးတက်တာတဲ့၊ ရှုတ်ခမ်းမွေးကြီးနဲ့ ချောက်နှာထားတောင်းတင်းကြီးနဲ့ဆိုတော့ သူ မြင်းကြီးစီးလာတာမြင်ရင် ဝုန်းနေကြရသတဲ့"

ကြီးတော် မကြာခဏ ပြောပြတတ်သောစကား ဖြစ်သည်။ သည်စားပွဲကလေးက ခုံမင်းကြီး၏ ဘဝ တစ်စိတ်တစ်ဒေသနှင့် ပတ်သက်နေသည်လား။ လက်ရာက ဥရောပဆန်သည်။ ကနုတ်ကွေးတွေ ခနုတ်ပေါက်တွေ မပါသည့် လက်ရာဖြစ်သည်။ ကျွန်တော်တို့ ရွာကလေးထိပ်က ဘုန်းကြီးကျောင်းထဲမှာ ပိဋကတ်တိုက်ဟောင်း တစ်တိုက်ရှိသည်။ အတွင်းမှာ ဟာလာဟင်းလင်း။ တစ်ခြမ်းက မီးလောင်ထားသည်။ ဒါကလည်း ဗိသုကာဟန်က ဥရောပဟန် ဖြစ်သည်။ ကမ္ဘာလုံးပေါ် ခြူးနှစ်ကောင် မတ်တတ်ရပ်နေပုံတွေ ပါသည်။ 'ခုံမင်းကြီး ဦးသာဖန်၊ ခုံမင်းကြီးကတော် ဒေါ်စိမ်းညက် ကောင်းမှု'။

ကျွန်တော်က အိမ်ကို တစ်ပတ် ပတ်ကြည့်သည်။ ထန်းလက်မိုး မီးဖိုချောင်ကလေးက အိမ်နှင့်တွဲထားသည်။ မီးဖိုကထွက်လျှင် ကြီးတော် အိပ်သည့် ခုတင်ကလေးနား ရောက်သည်။ သည်ကမှ အိမ်အပြင်ကို ထန်းလက်တံစက်မြိတ်က ငုံ့ထွက်နိုင်သည်။ သားက သစ်သားခုံကလေးမှာ ကက်ဆက်ဟောင်းတစ်လုံး ရှိ၏။ ကက်ဆက်ခွေ အိမ်အဖုံး ကွာနေ

သည်၊ ဘက်ထရီအိုးဟောင်း နှစ်လုံးရှိသည်။ ဆောင်းဘောက်ကလေး နှစ်လုံး။ ခေါင်းရင်း ထရံမှာတော့ မဟာမုနိပုံတော်ကို နီးပြားကြီးများသုံးကာ ညှပ်ထားသည်။

ပရိဘောဂ မရှိ။ စားပွဲကြီးတစ်လုံးသာ ရှိသည်။ စားပွဲကြီးကလည်း တာဝန်တော်တော်များများ ယူထားရသည်။ သည်ပေါ်မှာပဲ ထမင်းစားကြသည်။ သည်ပေါ်မှာပဲ ဟင်းသီးဟင်းရွက် လှီးကြ ချွတ်ကြသည်။ သည်ပေါ်မှာပဲ ညှော်သည်ကို ညှော်ခံသည်။ စားပွဲကြီးပေါ်မှာ ဓာတ်ဘူးဟောင်းတစ်လုံး ရှိသည်။ ငါးသေတ္တာဘူးခွံ ဆေးလိပ်ခွက် ရှိသည်။ ဂက်စ်မီးခြစ်ဟောင်းတစ်လုံး ရှိသည်။ ညစ်ပေပေ လက်သုတ်ပဝါတစ်ထည် ရှိသည်။ ဆီခြောက်ခြောက် လက်ဖက်အစ်ကလေး တစ်အစ်ရှိသည်။ ရေနွေးကြမ်းခွက်တွေကတော့ အချိုပန်းကန်ဟောင်း ကိုင်းကျိုးတွေ။ စားပွဲကြီးနှင့်တွဲလျက်က ခုံတန်းရှည်ကြီးတစ်လုံး ဖြစ်၏။ ညာဘက် လက်တင်ပေါ်မှာ ပုဆိုးစုတ်တစ်ထည် ရှိနေတာက နေ့လယ်နေ့ခင်းအိပ်လျှင် ခေါင်းခုစရာ ဖြစ်သည်။

"ရွာထဲ မီးလန့်တော့ ကြီးတော်မှာ နေစရာမရှိဘူး၊ မီးတဲ့... မီးတဲ့ဆိုတော့ ဟဲ့... ဘယ်မှာတုံး မေးတော့လည်း မရဘူး၊ ရွာထဲမှာလည်းပဲ သိမ်းချိန်ဆိုတော့ လူက ရွာထဲမှာ ဘယ်သူမှ မရှိသလောက်ပဲ၊ ဖြစ်ချင်တော့ သမီးတွေကလည်း ခရမ်းချဉ်ဆွတ် သွားနေကြတာ၊ ကြီးတော် တစ်ယောက်တည်းရယ်"

ကြီးတော်က ခုတင်ကြီးပေါ် ဒူးကလေးနှစ်လုံးထောင်အိပ်ရင်းက ကျွန်တော်ကြားအောင် ပြောနေခြင်း ဖြစ်သည်။ ထိုနေ့ကအကြောင်းကို ကြီးတော်က ရင်တုန်ပန်းတုန် ပြောပြနေသေးသည်။ နွားတွေပဲ သွားဖြုတ်ပေးရမှာလား၊ ရှိသမျှ ပစ္စည်းကလေး ထုတ်ရသိမ်းရမှာလား။ ကိုယ်လွတ်ရုန်း ပြေးရမှာလား။ ရွာထဲမှာ လောင်စာတွေချည်း။ ရွာအိမ်ကလေး

တွေကလည်း ကြွပ်ရွနေကြသည့် အိမ်ကလေးတွေ။ မြစ်နှင့်နီးသော်လည်း ရေရှားသည့်ရွာ။ မီးကို မမြင်ရသော်လည်း လူတွေ အော်ဟစ်ပြေးလွှား နေကြတာ ကြားနေရသည်။

"ကြီးတော် ဘယ်လိုလုပ်သလဲ"

"ကြီးတော်မှ ထင်းချောင်းလောက်ရှိတာ၊ ဘာသယ်နိုင်ပြုနိုင်မှာ တုံး၊ သည်တော့ အိမ်ကလေးထဲ ယနေလိုက်တာပဲ၊ လောင်ချင်လည်း လောင်ပစေတော့လို့"

ကျွန်တော်က ကြီးတော်ခုတင်နား သွားထိုင်သည်။ ကြီးတော်၏ လက်ကလေးတွေကို ဆုပ်ချေပေးနေမိသည်။ ကြီးတော်က အမွေးအတောင် နုတ်ထားသည့် ငှက်ကလေးတစ်ကောင်နှင့်ပင် တူနေ၏။ သည်အိမ် ကလေးထဲမှာ မီးနှင့် အတူနေတော့မတဲ့လား ကြီးတော်ရယ်။ လူ့ထက်များ ဘာအရေးကြီးသလဲ။ ဓားရောပေါ့၊ လွတ်ရာလွတ်ကြောင်းရှာရောပေါ့လို့ ကျွန်တော် မပြောမိ။ သည်အိမ်ကလေးကိုပစ်ပြီး ဘယ်ကိုမှ သွားမှာမဟုတ် တာ ကျွန်တော် သိပါသည်။ သည်အိမ်ကလေးထဲမှာ နှစ်ပေါင်းများစွာ နေခဲ့သည်။ ကျွန်တော် မှတ်မိသလောက် သည်အိမ်ကလေးမှာပဲ ကြီးတော် ကြီးပြင်းခဲ့သည်။ ကျွန်တော်တို့ငယ်ငယ်က သည်အိမ်မှာပဲ နေခဲ့ရသည်။ အမေတို့က အဝေးမြို့မှာ။ ကြီးတော်၏ နွားသုံးလေးကောင်ကို ကျွန်တော် ကျောင်းခဲ့ရသည်။

ကျွန်တော် နွားကျောင်းက ပြန်လာလျှင် ကြီးတော်က တောထမင်း တောဟင်းကလေးတွေ ကျွေးနေကျ။ ထန်းလက် တံစက်မြိတ်ကလေးရေ မှာက စဥ့်အိုးကရေနှင့် မျက်နှာသစ်ရသည်။ ရေချိုးရသည်။ ပန်းကန် ခွက်ယောက် ဆေးရသည်။ ခေါင်းရင်းခုတင်ကြီးပေါ်မှာ ဂျိုးဂျိုးဂွမ်းဂွမ်း အိပ်ရသည်။ အိမ်ကလေးက ဘယ်နှစ်ပင် ဘယ်နှစ်ခန်းရယ်လို့ ပြောဖို့ ခက်သည်။ တိုင်တွေက အမျိုးမျိုး။ သစ်မာလည်း ပါသည်။ သစ်ပွလည်း ပါသည်။ လေးထောင့်လည်း ပါသည်။ အလုံးလည်း ပါသည်။

ကြီးတော်က အိမ်ကလေးကို သံယောဇဉ်ကြီးသည်။ ကျွန်တော့် အဘိုး သည်အိမ်ကလေးမှာ ဆုံးသည်။ အဘွားလည်း သည်မှာပဲ ဆုံးသည်။ ကြီးတော်၏ ခင်ပွန်း ဘိုးညွန့်လည်း သည်မှာပဲ ဆုံးသည်။ ကြီးတော် ကကော၊ သည်အိမ်ကလေးကလွဲလျှင် တခြားနေရာ မဖြစ်နိုင်။

"ကြီးတော် ဘယ်ကိုမှ မသွားတော့ဘူးပေါ့၊ သည်အိမ်ကလေးထဲ မှာပဲ နေတော့မှာပေါ့"

ကျွန်တော်က မေးတော့ ကြီးတော် ဘာမှမဖြေပါ။ ငြိမ်သက်သွား သည်။ ပြုတ်စပျင်းတောင်း အိမ်ကလေးထဲက ဝရန်းသုန်းကား ခေတင် တစ်လုံးပေါ်မှာ ငုံးတစ်ကောင်လို ငြိမ်သက်နေဆဲ။ တော်တော်ကြီးကြာ တော့မှ ကျွန်တော့်လက်တွေကို စမ်းရင်း ပြောသည်။

"ကြီးတော် ဘယ်သွားလို့ ရမှာလဲ၊ ကြီးတော် အသက်က ခုနှစ် ဆယ်ကျော်ပြီ၊ အသက်နှစ်ဆယ်မှာ မင်းဘကြီးနဲ့ အိမ်ထောင်ကျတာ၊ နှစ်ဆယ်ကျော်မှာ သမီးကလေးနှစ်ယောက် မွေးတယ်၊ သည့်နောက်တော့ သည်အိမ်ကလေးထဲမှာပဲ ကြီးတော် နေရတော့တယ်"

သည့်နောက်တော့ဆိုသည့် စကားကို ကျွန်တော် သိပါသည်။ မျက်စိကွယ်ကတည်းကလို့ ဆိုချင်တာ ဖြစ်သည်။ မျက်စိကွယ်ကတည်းက သည်အိမ်ကလေးထဲမှာပဲ ကြီးတော် လိုအပ်စွာ နေရတော့သည်။ အိမ်ကို တော့ သစ်တစ်ချောင်းကျိုး တစ်ချောင်းလဲ၊ ဝါးတစ်ချောင်းကျိုး တစ်ချောင်း လဲတာကလွဲလို့ အပြင်မခံခဲ့။ တကယ်တော့ အိမ်ကလေးကို သူက မြင်ရ သော်လည်း အိမ်ကလေးက သူ့ကို မမြင်ခြင်းဖြစ်သည်ဟု ထူးဆန်းသော စကားကို ဆိုတတ်သေးသည်။

လှည်းသမား ကိုကျောင်းမောင် အိမ်မိုးဖို့ ထန်းလက်တွေ ဝယ် နေရှာမည်။ ခုံမင်းကြီး၏ အမျိုးဆိုသူ ကြီးတော်၏ အိမ်ကလေးကတော့ ကြယ်မြင် လမြင်၊ ထန်းလက်တွေ ဆွေးလှပြီ။

□

# အိမ်ကလေး ၃

မနက်ခင်း ကျွန်တော် လမ်းလျှောက်ထွက်တိုင်း သည်အိမ်ကလေး နားက ဖြတ်ရသည်။ အိမ်ကလေးဆိုသော်လည်း ခေတ်ဟန် တိုက်တစ်လုံး ဖြစ်သည်။ ကျွန်တော် လမ်းလျှောက်သော တာရိုးကမြင့်ပြီး ထိုတိုက်အိမ် က ခပ်လှမ်းလှမ်းအနိမ့်ထဲမှာ ရှိနေခြင်း ဖြစ်၏။ သုတ်ထားသည့် ဆေး ရောင်က 'မနက်ခင်း၏ ကျက်သရေ' ဟု ခေါ်သည့် မီးခိုးဖျော့ရောင် ဖြစ်သည်။ တံခါးတွေ၊ ပြတင်းတွေအားလုံး ပိတ်ထားသော်လည်း တိုက် အိမ်၏ သစ်လွင်မှုက ကျန်နေသေးသည်။ အိမ်ပတ်လည်မှာ ကျွန်းပင်တွေ စိုက်ထားသဖြင့် ရပ်ကွက်က ကျွန်းတောအိမ်ဟု ခေါ်ကြသည်။ အိမ်ရှေ့ မှာ စိန်ပန်းပင်ကြီး တစ်ပင်ရှိသဖြင့် တိုက်အိမ်၏ လေသာဆောင်ကို စိန်ပန်းကိုင်းတွေ တိုးဝင်နေသည်။

"သည်တိုက်အိမ်ကလေးမှာ အရင်က သစ်တောအရာရှိကြီးတစ် ယောက် နေခဲ့တာ၊ မနက်ခင်းဆိုရင် ခွေးတစ်ကောင်နဲ့ လမ်းလျှောက်နေ တာ၊ လမ်းလျှောက်တုတ်ကြီး ဝင့်ဝင့်လျှောက်တာရယ်၊ ခါးမှာ ခေါင်းသုံး ဆယ်ပြားကြီး ပတ်ထားတတ်တာရယ်ကြောင့် လူတွေက ဘုရင်ဘမသိ

တောအုပ်ကြီးလို့ ခေါ်ကြတယ်၊ သူ့မိန်းမက သိပ်ချောတာပဲ၊ တောအုပ်ကြီးနဲ့ မလိုက်ဘူး”

တစ်ရက် လမ်းလျှောက်ရင်း ဇနီးသည်က ပြောပြခြင်း ဖြစ်သည်။ သည်အဖြစ်အပျက်က ကြာပြီဟု ဆိုသည်။ သည့်နောက်ပိုင်း ဓာတ်လမ်းကတော့ သိပ်ပြီး မရေရာသည့် ဓာတ်လမ်းမျိုးသာ ဖြစ်သည်။ တစ်ရက်မှာတော့ တောအုပ်ကြီး၏ဇနီး မိန်းမချော ရုတ်တရက် ကွယ်လွန်ခဲ့သည်ဟု ဆိုသည်။ သည့်နောက်မှာ တောအုပ်ကြီးက တပည့်ဖြစ်သူ ချောင်းခေါင်း လင်မယားကို ထားရစ်ကာ အဝေးသို့ ထွက်ခွာသွားတာလည်း ပါသည်။ မကြာမီ ချောင်းခေါင်းလင်မယားလည်း တိုက်ကို သော့ခတ်ပြီး ရွာပြန်ကြပြီးကတည်းက ပြန်ရောက်မလာတော့တာလည်း ပါသည်။

“ဒါက အစိုးရပိုင်အိမ်ပဲ၊ တခြားအရာရှိတွေ မထားတော့ဘူးလား”

“မှတ်မိသလောက်တော့ နေကြတယ်နဲ့ တူတယ်၊ ခက်တာက သည်နေရာက ခုမှသာ စည်ကားလာတာလေ၊ ဟိုတုန်းက သည်ဘက်ကို တော်ရုံတန်ရုံကိစ္စနဲ့ လာကြတာ မဟုတ်ဘူး၊ သည်တာရိုးကြီးက ဟိုတုန်းက မြစ်နဲ့ ပိုနီးတာဆိုတော့ သည်ဘက်မှာ လမ်းရယ်လို့ မရှိခဲ့ဘူး”

ကျွန်တော့်စိတ်ထဲမှာ သည့်ဓာတ်လမ်းသည် ထူးခြားမနေသော်လည်း လမ်းလျှောက်တိုင်း သည်တိုက်အိမ်ကို မြင်ရ၊ မြင်ရတိုင်း ဓာတ်လမ်း အကြမ်းထည်ကို သတိရ၊ သတိရတိုင်း သိချင်စိတ်ကလေး 'လှု' လာတတ်တာတော့ ရှိပါသည်။ တစ်ညတော့ တာရိုးစောင်း မေးတင်ထားသည့် မီးကင်းထဲမှာ ကျွန်တော် သွားထိုင်သည်။ ထိုညက အိုက်စပ် ပူလောင်လွန်းလှသည့်ည ဖြစ်ပါသည်။ လေသည်ပင် ကမ္ဘာလောကနှင့် ဝေးရာအရပ်သို့ ခရီးလွန်နေပုံမျိုး။ လရောင်ကတော့ ရှိ၏။ ကင်းသမားကြီး ဦးကြီးဖေက မယ်ဒလင်ကလေး ဆားချကာ ကျွန်တော့်ကို ရေနွေးငှဲ့ပေးသည်။ သည်ကင်းသမားကြီးက အအိပ်အနေ နည်းသည်။ ဝါသနာပါ

ဟန်တူသည့် မယ်ဒလင်ကလေးကို ချောင်ချောင် ဂျင်ဂျင် တီးနေတတ်သူ ဖြစ်၏။

"ဦးကြီးဖေက ဝန်ထမ်းဟောင်းလား"

"သစ်တောထွက်ပေါ့ဗျာ၊ သစ်တောထွက်ဆိုလေမယ့် ကျွန်း၊ ပျဉ်းကတိုးထဲက မဟုတ်ပါဘူးဗျာ၊ ဒီဒူးလက်ပံလောက်ပါ"

သူ့စကားကို ကျွန်တော် သဘောကျသွားသည်။ သည်လိုနှင့် သစ်တောထွက် ကင်းသမားကြီးနှင့် ကျွန်တော် စကားတွေ ပြောဖြစ်ကြသည်။ တောခေါင်းကြီး၏ တိုက်အိမ်အကြောင်းလည်း အကြောင်းတိုက်ဆိုင်စွာ ပါလာခဲ့၏။

"အဲသည့်တိုက်က အင်မတန် သရဲခြောက်တယ်လို့ နာမည်ကြီးတာကိုးဗျ၊ တောခေါင်းကြီး မိန်းမက မကျွတ်ဘူး ပြောကြတာပဲ၊ တချို့က လေသာဆောင်ကို ထိုးဝင်နေတဲ့ စိန်ပန်းပွင့်တွေကို ခူးနေတာ တွေ့ကြသတဲ့၊ ကျုပ်တောင် ဟာဝန်နဲ့ အဲသည့်နား အစောင့်ကျဖူးတယ်၊ တွေ့ခဲ့ပေါင်ဗျာ"

"ဌာနက နောက်ထပ် ဝန်ထမ်းတွေ မထားတော့ဘူးလား"

"အစိုးရပဲဗျာ ဘာအယုံအကြည်ရှိလိမ့်မလဲ၊ ထားတာပေါ့၊ ခက်တာက အစိုးရကိုခြောက်တာ မဟုတ်ဘူးဗျ၊ နေတဲ့လူကို ခြောက်တာဆိုတော့ ဆိုင်ကြာကြာ မနေကြဘူး"

ဦးကြီးဖေ ပြောစကားအရ သည့်နောက်ပိုင်း ပိတ်ထားလိုက်ရတာကပဲ နှစ်ပေါင်း နှစ်ဆယ်ကျော် ကြာခဲ့ပြီဆို၏။ ကျွန်တော့်စနီး၏ အမှတ်သညာနှင့် မကွာလှပါ။ ဦးကြီးဖေက သည်တိုက်ကလေး နောက်ဆာ 'သာကာဝန်' ဟု အမည်ပေးခဲ့ကြောင်း ပြောပြနေသည်။ သာကာဝန၊ ကျွန်းတောဆိုသည့် အဓိပ္ပာယ်။ သို့သော် သာကာဝန်လို့ မခေါ်ကြ၊ ကျွန်းတောအိမ်လို့သာ ခေါ်ခဲ့ကြတာ ကျွန်တော် ပြောခဲ့ပြီ။

"တိုက်ကြီး ဘယ်လောက်ကောင်းကောင်း လူမှ မနေဝံ့ရင် ဘာ လုပ်မလဲဗျာ၊ ကျုပ်ရဲ့ ဟောသည့် ကင်းတဲကမှ ကျက်သရေရှိသေးတယ်"

ကင်းတဲကပြန်တော့ ကျွန်တော့်မှာ တွေးစရာတွေ ရခဲ့သည်။ တွေးစရာ ဆိုတာထက် သတိရစရာဟု ဆိုနိုင်ပါသည်။ ကျွန်တော် ငယ်ငယ် ဝန်ထမ်းဘဝက နယ်မြို့ကလေးတစ်မြို့သို့ တာဝန်ဖြင့် ရောက်ခဲ့ရသည်။ တာဝန်ဖြင့် ပြောင်းရွှေ့ရတာ မဟုတ်သော်လည်း မိခင်ဌာနအတွက် လို အပ်သော ကုန်ကြမ်းတစ်မျိုးကို သည်နယ်မြို့ကလေးမှ တစ်ဆင့် ပို့ပေး ရသည့်အတွက် နှစ်ပေါက်နေဖို့ ဖြစ်လာသည်။ ရောက်စက ကုန်ကြမ်း တောင်းသည့် ပွဲစားများနှင့်အတူ နေခဲ့သော်လည်း ရေရှည်မှာ မကောင်း နိုင်သဖြင့် အိမ်ငှားရတော့သည်။ ကျွန်တော်က သီးခြားနေချင်သည်။ မြို့ ကလေးနှင့် ဝေးချင်သည်။ စာရေးစာဖတ်ရင်း တာဝန်ထမ်းဆောင်ချင်သူ ဖြစ်သည်။ ကျွန်တော်သည်ပင် တပည့်သာသာ ဝန်ထမ်းဆိုတော့ ကျွန်တော့် အတွက် တပည့်ဆိုတာကို မမျှော်လင့်နိုင်။ သည်တော့ ကိုယ်တိုင် ချက်ရ ပြုတ်ရသည်။ နေ့လယ်ခင်း မြို့ထဲမှာ ရှိနေရသော်လည်း လမ်းလျှောက် ပြီး ထမင်းပြန်စားသည်။ တစ်ရေးတမောအိပ်၊ စာကလေးဖတ်ပြီး နှစ်ချက် ထိုးလောက် မြို့ထဲပြန်၊ ညနေမှောင်မှ တစ်ခုခုဝယ်ကာ ပြန်လာတတ်မြ ဖြစ်သည်။ ကျွန်တော့်ကို ငှားပေးသည့် အိမ်ကလေးက မြို့နှင့် လှမ်းသော် လည်း အနီးက ရွာတန်းရှည်ကလေးနှင့်တော့ အဆက်အစပ်ရှိသည်။ သည် အိမ်ကိုငှားတော့ ပွဲစား ကိုကောင်း ပါသည်။

"အိမ်ကလေးက ခင်ဗျား ကြိုက်မှာပါ၊ သစ်သားအိမ်၊ ပျဉ်ကာ သွပ်မိုး၊ ကြမ်းခင်းနှစ်ထပ်ဗျ၊ ခွေးကတက်၊ ဖိနပ်ချွတ်က တစ်ထပ်၊ ပြီး အိမ်မကြမ်းခင်းပေါ် တက်နိုင်တာ၊ ပြီးတော့ ကိုယ့်ဝင်း ကိုယ့်ခြံကလေး ဗျ၊ ဝင်းတံခါးကလည်း သော့နဲ့၊ အိမ်ကလည်း သော့နဲ့၊ ရေချိုးဖို့ အုတ် ကန်ကလေး ရှိတယ်၊ ဘူးစင်ကလေးတောင် ရှိသေးတယ်"

အိမ်လခ၊ အိမ်၏ အကျယ်အဝန်း၊ နှစ်ဦးနှစ်ဖက် ညှိနှိုင်းရမည့် အချက်များ၊ ရေ မီးကိစ္စ၊ စပေါ်အပျောက် စသည့် အချက်အလက်များ ကို မပြောဘဲ သော့၊ အုတ်ကန်၊ ဘုံးစင် အကြောင်းသာ ပြောနေသည်။ မေးကြည့်တော့ ရေက မနက်ခင်း ရေထမ်းသမားက အုတ်ကန်ထဲ ထည့် ပေးသည်။ မီးမရှိ။ စပေါ်အပျောက် မရှိတာထား၊ အိမ်လခပင် ပေးစရာ မလိုဟု ဆိုလေသည်။

"သည်အိမ်က တရားသူကြီးတစ်ယောက်ရဲ့ အိမ်၊ အိမ်မှာ လူမရှိ ဘူး။ မိန်းမသေပြီးကတည်းက တာဝန်ကျရာ နယ်မှာပဲ နေတော့တာ။ အိမ်မပျက်စီးအောင် လူနေရင် တော်ပြီတဲ့၊ တရားသူကြီးအမျိုးတွေ ရွာ ထဲမှာ ရှိတယ်၊ ခင်ဗျားဆိုရင် အရှုပ်အရှင်းမရှိနိုင်လို့ ထားချင်တယ်လို့ ပြောတယ်"

ဤသို့အားဖြင့် ကျွန်တော် သည်အိမ်ကို ရောက်လာခဲ့သည်။ ဝင်း ထဲမှာ မြက်ပင်တွေ ရှည်လှပြီ။ အိမ်ကလေးကတော့ တော်တော့်ကို သစ် ထွင်ပါသေးသည်။ မျက်နှာကြက်မပါသဖြင့် အိမ်မိုးသွပ်တွေကို မြင်နေရ သည်။ အိမ်မျက်နှာမူသည့် အတိုင်းဆိုလျှင် ဘယ်ဘက်မှာ မီးဖိုချောင် အဆောင်နှင့် တွဲထားသည်။ အိမ်ကြမ်းခင်းတွေမှာတော့ ဖုန်တွေ တင်း ကျမ်း။ ဘုရားစင်ပေါ်မှာ ညောင်ရေအိုးတစ်လုံးရှိနေကာ ပန်းခြောက်တွေ က ကြွပ်ရွနေ၏။ အိမ်ရှေ့ဧည့်ခန်းကလည်း တစ်ပြင်တည်း အလျားရှည် ကြီး ဖြစ်သည်။ အတွင်းခန်းလို့ ပြောနိုင်သည့် သုံးထပ်သားကန့် အခန်း ထဲမှာတော့ အိပ်ရာခေါင်းအုံးတွေရှိနေပြီး ခေါက်ခေါက်သိမ်းသိမ်း မဟုတ်။ အိုတသောသော၊ အိမ်ရာတွေ ခင်းဖြန့်ထားပုံက ထူးဆန်းနေသည်။ မီးဖို ချောင်ကို ဝင်ကြည့်ကြတော့ ဆန်အိုးထဲမှာ ဆန်တွေရှိသော်လည်း ပိုးထိုး သောက်ကိုက်။ သစ်သားမီးခြစ်ကလေးက မီးဖိုအားမှာ။ အဆာက်တွေ တော်များများ ကျွန်သေးသည်။ ချိတ်ထားသည့် မုန်အိမ်ထဲမှာ ရေနံဆီ

တစ်ဝက်၊ မှန်အိမ်ပြောင်းက မည်းညစ်နေသည်။ မီးသွေးတွေကတော့ မြင်မကောင်းအောင် ပြန့်ကျဲနေ၏။ နံရံစင်ပေါ်မှာတော့ အိုးတွေ ရှိသည်။ အိမ်ရှေ့ သံဆန်ခါကွက်မှာ ချိတ်ထားသည့် နတ်စင်သေးသေးက ဘယ်နတ်ကို ညွှန်းလေသည် မသိ။

ကိုကောင်း၏ တပည့်များက တစ်အိမ်လုံး သန့်ရှင်းပေးကြသည်။ တစ်ယောက်က ရေထမ်းပြီး၊ တစ်ယောက်က တဝေါဝေါ ဆေးချသည်။ "ညစ်ပတ်လိုက်တဲ့ တရားသူကြီးနှယ်" လို့လည်း ညည်းကြသေးသည်။ ကျွန်တော်က ဧည့်ခန်း သုံးထပ်သားအကန့်တွေပေါ်က ဓာတ်ပုံကြီးသုံးပုံကိုသာ စိတ်ဝင်စားနေမိသည်။ အမျိုးသမီးသုံးယောက်၊ နှစ်ယောက်က ၆၀ ကျော် ၇၀ ကျော် အမယ်အိုများ။ တစ်ယောက်ကတော့ ငယ်သေး၊ ချောသေးသည်။ သွားတက်ကလေးပေါ်အောင် ပြုံးထားသည့် အပြုံးက ချစ်ခင်ဖွယ် ကောင်းသည်။ တရားသူကြီး၏ ကွယ်လွန်သူဇနီးဟု ဆိုသည်။

"အဘွားကြီးနှစ်ယောက်က တရားသူကြီးရဲ့ အမေနဲ့ ယောက္ခမ ဗျ။ ဒါက တရားသူကြီးကတော်၊ သိပ်ကို ငယ်သေးတာ၊ ဒေါ်မြသန်းကြည်တဲ့၊ ထူးဆန်းတာက သုံးယောက်စလုံး အဆုတ်ရောဂါနဲ့ သေကြတာ၊ သားသမီးတော့ မပေါ်ခဲ့ဘူး"

ကိုကောင်း ပြောပြတော့မှ ကြက်သီးထသွားသည်။ အမျိုးသမီး သုံးယောက်စလုံးက ကျွန်တော့်ကို ကြည့်နေကြသည်။ ဓာတ်ပုံအရိုက်ခံကြစဉ်က ကင်မရာ မှန်ဘီလူးကို ကြည့်ကြသဖြင့် သည်လိုဖြစ်နေမှန်း ကျွန်တော် သိပါသည်။ သို့သော် ဓာတ်ပုံထဲက အကြည့်တွေက ကျွန်တော့်ကို အကဲခတ်နေကြပုံမျိုး ဖြစ်သည်။ ဒေါ်မြသန်းကြည်က ပိုဆိုးသေးသည်။ ဓာတ်ပုံကသာ ပြုံးနေသော်လည်း "ရှင်က ဘာကိစ္စ သည်အိမ်ပေါ် လာချင်ရတာလဲ" ဆိုသည့် အကြည့်မျိုး ဖြစ်နေသည်။ ဓာတ်ပုံကြီးတွေက သုံးပေခွဲ နှစ်ပေခွဲ ဆိုက်ကြီးတွေ။ မောက်တပ်ထားပြီး မောက်အောက်

ခြေမှာ အမည်၊ မွေးဖွားသည့်ရက်၊ ကွယ်လွန်သည့်ရက်တွေ ဓာတ်ပုံတိုင်းမှာပါတာ သတိထားမိပါသည်။

ကိုကောင်းက အတွင်းအိပ်ခန်းတစ်ခြမ်းကို ကန့်လန့်ကာဟောင်းတစ်ချပ်နှင့် ကာလိုက်ပြီး ဓာတ်ပုံကြီးများ အပါအဝင် စုစီနဖာ အားလုံးထိုအခန်းထဲ ထိုးသိပ်ထည့်ပေးသည်။ ဧည့်ခန်းအလယ်မှာ လူတစ်ရပ်စာမြင့်သည့် ကျွန်းဗီရိုတစ်လုံး ရှိသည်။ အကန့်လေးကန့် ပါသည်။ အကန့်တိုင်းမှာ စာအုပ်တွေ၊ ဥပဒေကျမ်းတွေ၊ မဂ္ဂဇင်းတွေ၊ ဖိုင်တွေ ရှိနေတာမှန်ချပ်များကတစ်ဆင့် မြင်နေရသည်။ အကန့်လေးကန့်ဆိုတော့ တံခါးနှစ်ချပ်အတွက် အကန့်ရှစ်ကန့်။ တစ်ကန့်မှာက ဒေါ်မြသန်းကြည်၏ဓာတ်ပုံတစ်ပုံ အတွင်းက ကပ်ထားသည်။ မှန်ကွက်နှင့် ကွက်တိ။ ကျန်မှန်ကွက်များမှာတော့ ဘာမှမရှိသဖြင့် စာအုပ်တွေကို မြင်နေရခြင်း ဖြစ်သည်။ ကိုကောင်းက ရုံးသုံးစက္ကူဖြူရှစ်ရွက်ကို ကော်သုတ်ပြီး မှန်ကွက်တွေပေါ်က ကပ်ပေးသည်။

"ဗီရိုက သော့ခတ်ထားတော့ အထဲက ဓာတ်ပုံကို ခွာလို့မရဘူးဗျ၊ မှန်ပေါ်က စက္ကူကပ်လိုက်တော့ သပ်ရပ်သွားတာပေါ့၊ စာအုပ်တွေနဲ့ဆိုတော့ ဗီရိုကို ရွှေ့ဖို့လည်း ခက်တယ်"

သူပြောတာ မှန်ပါသည်။ ဗီရိုအတွက် ကျွန်တော့်မှာ ကျဉ်းကျပ်မသွားပါ။ တစ်ယောက်တည်းဆိုတော့ အိမ်က ကျယ်လွန်းနေသေးသည်။ ကျွန်တော့်သေတ္တာကလေး၊ အဝတ်ချိတ် သုံးလေးချောင်း၊ စာအုပ်တချို့၊ သောက်ရေအိုးတစ်လုံး၊ ဖျာတစ်ချပ်၊ ခေါင်းအုံးတစ်လုံး ရောက်လာတော့ ပြည့်စုံသွားသည်။ ပက်လက်ကုလားထိုင်ကလေးကိုတော့ ဘူးစင်ရိပ်မှာ ချလိုက်သည်။ ရေက ရေထမ်းသမားကို သုံး၊ မီးက ဖယောင်းတိုင်သုံး၊ တံမြက်စည်းက သည်အိမ်ကအဟောင်း၊ ဟန်ကျသွားပြီ။ သို့သော် ကျွန်တော့်အဖို့ ဆန်းနေသည့်အချက်မှာ အိမ်လခ မပေးရခြင်းနှင့် မည်သူ

ကမှလည်း လာရောက် မစပ်စုကြခြင်း ဖြစ်သည်။ တရားသူကြီး၏ အမျိုးဆိုသူတွေပင် မလာကြ။ တစ်ပတ်လောက်နေတော့ ခြံဘေးအိမ်က ဘကြီးပွားမိသားစုနှင့် ခင်မင်သွားသည်။ ဘကြီးပွား အိမ်ထောင်သည်က ဘူးစင်အောက် စာဖတ်နေတတ်သည့် ကျွန်တော့်ကို ပဲပြုတ်ဆီဆမ်းကလေး၊ လက်ဖက်ကလေး လာပေးတတ်၏။ တစ်ခါတစ်ခါတော့ နီးဖျာနေသည့် ဘကြီးပွားထံ ရောက်သွားတတ်၏။

"အရေးအကြောင်းဆို ခေါ်ကွ၊ မင်းရှေ့က ဗုံးနေတဲ့ မိသားစု ခြောက်စုလောက်လည်း သည်လို ပြောရတယ်၊ သိပ်မခံကြဘူးကွ၊ ပြေးကြတာပဲ"

ဘကြီးပွားက ကျွန်တော့်ကို အိမ်ထောင်ရှိသလား မေးသည်။ နေရတာ အဆင်ပြေရဲ့လား မေးသည်။ ခြံရှေ့တောင်ပို့နားက ထွက်လာတတ်သော မြွေနက်တစ်ကောင်ကို မြင်ပြီးပြီလား မေးသည်။ ဘုရားပန်းလဲဖို့၊ ရေနွေးသုံးပါး ဆည်းကပ်ဖို့ ပြောတတ်သည်။ ကျွန်တော်က မနက်ခင်းစောစော ထမင်းတစ်လုံးတည်ကာ နေ့လယ် ပြန်လာမှ မြို့ထဲက ဟင်းဝယ်လာတတ်သည်။

တစ်ရက်မှာတော့ သတိထားမိတာတစ်ခု ရှိလာသည်။ အိမ်တံခါးသော့ဖွင့်လိုက်သည်နှင့် ကြမ်းပေါ်မှာ စက္ကူတစ်ရွက်ကျနေတတ်ကာ ထိုစက္ကူမှာလည်း မပြိုသန်းကြည်၏ ဓာတ်ပုံကပ်ထားသည့် မှန်ချပ်က စက္ကူလိုလိုချည်း ဖြစ်နေသည်။ တစ်ရက် မဟုတ်။ နှစ်ရက် မဟုတ်။ တခြားစက္ကူတွေက မကျ။ သည်တစ်ချပ်တည်း ကျတာဆိုတော့ ကျွန်တော်ကလည်း ကော်ကလေးပြန်သုပ်၊ ပြန်ကပ်။ နောက်တစ်နေ့ တံခါးဖွင့်ကြည့်တော့ ကြမ်းပေါ်မှာ။ ဓာတ်ပုံကလေးက မှန်အတွင်းထဲကနေ ကျွန်တော့်ကို ပြုံးပြမြဲ။ ညတော့ အိပ်မက်မက်သည်။ အမျိုးသမီးတစ်ယောက်

ကျွန်တော့် ခြေရင်းမှာ ရပ်နေသည်။ သွားတက်တွေက ညအမှောင်ထဲမှာ လက်ခနဲ။

"ကျွန်မကို စက္ကူနဲ့ မကာနဲ့လေ၊ ကျွန်မ မကြိုက်ဘူး"

အိပ်ရာကနိုးတော့ ချွေးတွေပြန်နေသည်။ သံဆန်ခါကြားက လ ရောင်ကို မြင်နေရသည်။ သွပ်မိုးပေါ် နှင်းကျသံက ဖြိုးဖြိုးဖြောက်ဖြောက်။

တစ်ခါတော့ သေတ္တာပေါ်တင်ထားသည့် ကျွန်တော့်နာရီကလေး မနက်မိုးလင်းတော့ မတွေ့။ ရှာသော်လည်း ဘယ်မှာမှ မတွေ့တော့ အံ့ဩ ရသည်။ နာရီတစ်လုံး ဝယ်လိုက်ရတော့သည်။ နောက်တစ်ပတ်လောက် ကြာတော့ အိပ်မက် မက်ပြန်သည်။ အမျိုးသမီးတစ်ယောက်နှင့် ကျွန်တော် ဘူးစင်အောက်မှာ စကားတွေ ပြောနေသည်။

"နာရီကလေးကို နမြောနေတယ် မဟုတ်လား၊ ကျွန်မ စထား တာပါ ပြန်ပေးမယ်"

တကယ်လည်း ပြန်တွေ့ခဲ့သည်။ တစ်ညမှာလည်း ဖိနပ်ချွတ်နှင့် အိမ်မကြီး ကြမ်းပြင်ကြား ဟနေသည့် နေရာမှာ ခွေးနှုတ်သီးမည်းမည်း ကို မြင်လိုက်ရတော့ တံမြက်စည်းနှင့် ရိုက်ချလိုက်ရသည်။ ကန့်လန့်ကာ ကြီး ကာထားသည့် တိုလီမုတ်စ အခန်းဆီမှ ပစ္စည်းရှာသံ၊ ခြေလှမ်းသံတွေ ကြားရတာကလည်း ခဏခဏ။ တစ်ရက်တော့ သည်အိမ်က ပြောင်းရဖို့ ဖြစ်လာခဲ့သည်။ ကြီးမားသလောက် တောင့်တင်းလှသော သွပ်မိုးပျဉ်ကာ အိမ်ကြီးကို ဆင်နှင့်အောင်းနေသလို တသိမ့်သိမ့် လှုပ်ခါ နေတာကို ကျွန်တော် မခံနိုင်တော့၍ ဖြစ်သည်။ ကိုကောင်းနှင့် ဘကြီးပွား က ကျွန်တော့်ပစ္စည်းကလေးတွေ ပြန်သိမ်းပေးကြသည်။

"တရားသူကြီးက နယ်မှာ နောက်အိမ်ထောင် ပြုလိုက်ပြီဆိုတဲ့ သတင်း ရောက်လာကတည်းက သည်အိမ်ဟာ ထူးခြားလာတာ။ သည် အိမ်က ဝယ်မယ့်သူလည်း မရှိဘူး၊ ငှားမယ့်သူလည်း မရှိဘူး၊ ရောက်

လာသမျှလည်း မမြဲကြဘူး၊ မိန်းမသုံးယောက် ခါတ်ပုံတွေကို ပြန်ချိတ်ပေးလိုက်ကြပါကွာ၊ သူတို့ပဲ နေကြပါစေတော့”

သည်အဖြစ်အပျက်က ပြောလျှင် ယုံလောက်စရာ မရှိသော ကျွန်တော့်ကိုယ်တွေ့ ဖြစ်သည်။ ဤသို့ဆိုသဖြင့် လောက၌ တစ္ဆေ သရဲတို့သည် ရှိကုန်၏ဟု ကျွန်တော် မဆိုဝံ့ပါ။ သို့သော် ပြင်းပြသော မိန်းမသားတို့၏ ချစ်ခြင်းမေတ္တာကိုတော့ လျစ်လျူမရှုသာ။ တောအုပ်ကြီး၏ ဇနီးသည်လည်းကောင်း၊ တရားသူကြီး၏ ဇနီးသည်လည်းကောင်း ထိုအိမ်များ၌ ရှိနေသည်ဆိုလျှင်ပင် မည်သူ့ကိုမျှ ထိခိုက်စရာမရှိ။ သို့သော် အိမ်ကလေးတွေကို ထိခိုက်နေသည်။ တစ်ပါးသော ပယောဂကြောင့် မဆီမဆိုင် အိမ်ကလေးတွေမှာ ပြစ်ဒဏ်ကျခံနေရသည်။

သည်အကြောင်းကို ညကျလျှင် တင်းသမားကြီး ဦးကြီးဖေကို ပြောပြရဦးမည်။ ထုံးစံအတိုင်း အိမ်ကြီးတိုက်ကြီး ဘယ်လောက်ကောင်းကောင်း လူမှ မနေဝံ့ရင် ကျုပ် ကင်းတဲလောက်တောင် ကျက်သရေ မရှိဘူးလို့များ ဆိုနေလေမလား။ တကယ်တော့ အိမ်ကလေးတွေမှာ အပြစ်မရှိ။



## အိမ်ကလေး ၄

အမေက လှေသူကြီးကတော် ဖြစ်သည်။ လှေခေတ် မဟုတ်တော့ လှေသူကြီးကတော်ဆိုသည့် ဂုဏ်ပုဒ်သည်လည်း ဘာမှ မဟုတ်တော့သလို ဖြစ်နေသည်။ သို့သော် မန္တလေးမြို့စွန် စနေထောင့်အရပ်က မြစ်ကမ်းနား ရပ်ကွက်မှာတော့ လှေသူကြီးကတော်ဆိုသည့် အမေ့ကို လေးစားကြသည်။ ဆယ်ပြားခင်း လှေကြီးကို စီးခဲ့သော အမေက ဘဝတစ်လျှောက်လုံး လှေပေါ်က ဆင်းခဲ့သည် မဟုတ်။ ဆယ်ပြားခင်းဆိုတာက လှေဝမ်းခင်းပြား ပေါင်းဆယ်ချပ်ခင်းထားသည့် လှေကြီးကို ခေါ်သည်။ သည်လှေကြီးနှင့် ပေါ်းသယ်ခဲ့သည်။ ဆန်သယ်ခဲ့သည်။ အိုးတွေ သယ်ခဲ့သည်။ ထင်းတွေ သယ်ခဲ့သည်။ လေရှိလျှင် ရွက်တိုက်၊ လေမရှိတော့ ကြိုးဆွဲ။ ဧရာဝတီမှာ စုန်ချည်ဆန်ချည်။ မန္တလေးအထက် ထီးချိုင့် ဗန်းမော် ရောက်သည်။ အောက်ဘက် ပုသိမ်ချောင်းထဲအထိ ဝင်သည်။ လင်သားက လှေသူကြီး ဆိုတော့ ဇနီးက လှေသူကြီးကတော် အလိုအလျောက် ဖြစ်ရသည်ထင်လျှင် မှားလိမ့်မည်။ လှေသူကြီး လင့်နောက်ကို ငွေသိမ်းလိုက်ရင်း လှေပေါ်မှာ ဆေးပေါ့လိပ်ဖွာရင်း လှေသူကြီးကတော် ဖြစ်ရိုးမရှိ။ လှေသူကြီး တာဝန်နှင့်မခြား တာဝန်ယူနိုင်ရသည်။ ရေကြောကို သိရသည်။ လေဆင်

မိုးဆင်ကို သိရသည်။ ကုန်စည်ကို သိရသည်။ လှေထိုးသားများ၏ ဘဝနှင့် လုပ်အားကို သိရသည်။

လှေကို ဓားပြလာတိုက်သည့် ခေတ်တွေက လှေသူကြီးက ပွဲစင်ပေါ်က ဆင်းခဲ့သော်လည်း အမေက ဓားပြများနှင့် ရင်ဆိုင်ရမြဲ ဖြစ်သည်။ မသက်စရာ လှေကလေးတစ်စီး ရေထဲ ဘွားခနဲပေါ်လာလျှင် မှားတောင်းကလေး ချွတ်ကာ ငါးပိအိုးထဲနှစ်၊ ခေါင်စုတ်ခြုံကာ တဟီးဟီး အဖျားတက်ပြနေရသည်။

"နားတောင်းက ဘယ်ရောက်လို့တုန်း လှေသူကြီးကတော်ရဲ့၊ ရှိတာလေးများ မျှပါဦး"

ဓားပြခေါင်းဆောင်၏ ထက်ရှနေသည့် ဓားသွားက နားခေါင်းအောက်တ ချိုင့်ထဲ အပြားလိုက်ကပ်ထားကာ အထက်လှန်ထားခြင်း ဖြစ်သည်။ အနေမတော်လျှင် နားခေါင်းပြတ်သွားနိုင်သည်။ ဓားပြတွေကို အမေ မကြောက်။ သည်လမ်း သည်ခရီးမှာ ထိုစဉ်က သောင်ပါးရေတိမ်ကို ကြောက်ရတာ မဟုတ်။ ဓားပြကြောက်ရသည့်ခေတ် ဖြစ်သည်။

"လှေသူကြီးကတော် မဟုတ်ရပေါင်တော်၊ လှေကြုံစီးပါ၊ ပခန်းက အပြန် ဖျားလာလို့၊ ပွဲစင်ပေါ်က ဆရာသာ မေးကြည့်ပါတော့၊ သူကလည်း လှေသူကြီး သည်တစ်ခေါက် မလိုက်နိုင်လို့ ထည့်လိုက်တဲ့ လူဌားပါ၊ ငါ့မောင်တို့ ကြိုက်တာ ရှာဖွေသာ ယူကြပါရော့"

ဓားပြသုံးလေးယောက်က တစ်လှေလုံး ရှာသည်။ လှေထိုးသားတွေကို ခြိမ်းခြောက်သည်။ ဘာမှမတွေ့တော့ အမေ့ကို မဲပြန်၏။

"လှေသူကြီးကတော်ကတော့ သေချင်တယ်နဲ့ တူတယ်၊ ဇက်ပိုင်းပြီး ရေထဲကန်ချပစ်လိုက်မယ်၊ ထုတ်စမ်း"

"ဘယ်နှယ့် သေချင်ရမလဲ ငါ့မောင်ရဲ့၊ မင်း သဘောပါတော်၊ လုပ်စားရတာလည်း မကောင်းလို့ပါ၊ နေပါဦး၊ မင်းက ဘယ်လောက်များ ရမယ်မှန်းလို့တုံး"

အမေက ဓားပြကို သဘောထားမေးသည်။

"ငွေနှစ်ရာတော့ ပေးခဲ့ဗျာ"

"အလိုတော် ငွေနှစ်ရာ၊ မင်းနယ်ကွယ်၊ လှေကြီးတစ်ခါစုန့်မှ ငွေအစိတ် ဖတ်ဖတ်မောအောင် တောင်းယူရတာ၊ လှေ မင်းယူလိုက်ပါကွာ၊ ငါ ဓားပြလုပ်ပါ့မယ်"

နောက်ဆုံး ငွေအစိတ်နှင့် ဈေးတည့်သည်။ ရွှေတွေက ငါးပိအိုးထဲမှာ၊ ငွေတွေက လှေပုံဆောင် အံဝှက်ထဲမှာ။ ကျွန်တော်က ဓားပြတွေကို မကြောက်ဘူးလားလို့မေးတော့ အမေက ကြာတော့လည်း မကြောက်တော့ပါဘူး။ တစ်ခါတလေများ ထမင်းဆာလို့ တက်တိုက်တာတောင် ရှိတော့ ခူးခပ်ကျွေးရသေးတာဟု ဆိုသည်။

"အမေတို့က ပဲကလေး တစ်ဆယ်သားလောက်ကိုပြုတ်၊ နူးတော့ ဖယ်ထား၊ အဲဒါကို ထောင်းပြီးတော့ ဆီသတ်၊ ပြီးမှ စောစောက ပဲပြုတ်ရည်ထဲ လောင်းထည့်၊ အဲဒါက ပဲဟင်း၊ ကျွန်တာက ငါးပိကိုဖုတ်ပြီး သံပန်းကန်စောင်း ကပ်လိုက်တာပဲ၊ လျက်လိုက် ပဲဟင်းဆမ်းလိုက်၊ ဒါ တစ်လှေလုံး စားကြရတာ"

တစ်ခါတစ်ခါ ကမ်းနားကပ်ပြီး ကြိုးဆွဲရတော့ ခေါင်းက တဘက်ကလေး ရေစပ်ဆွေးခြုံမှာ ငြိကျန်လျှင် ရေကူးပြီး ပြန်ယူသေးတာဟု ဆိုသည်။ အလဟဿ မရှိ။ စိတ်နောက်ကိုယ်ပါ မရှိ။ လှေတစ်ခေါက်မန္တလေးရောက်မှ ပုဆိုးနှင့် ထဘီတစ်လှည့်စီ ဝယ်ကြရသည်။ လှေတစ်ခေါက်စာ ဈေးဝယ်တော့ ခေါ်ဝိန်က ဈေးချို မြင်းလှည်းခ တစ်မတ် မပေးချင်။ သည်တော့ ဈေးဝယ်ခံတောင်းရွက်ကာ အသွား ခြေကျင်၊ အပြန် ကုန်းကြောင်း။ အလကားရသည့် မြစ်ရေတောင် ချွေတာသောကြသူ တွေ။

နောက်တော့ အမေ လှေနောက် မလိုက်ရတော့။ အိုးတွေ ကျောက် မြောင်းဘက်က လှေလိုက်မှာကာ ဆယ့်နှစ်ပွဲ လိုက်ရောင်းခဲ့သည်။ မြောင်း ကျောက်ရစ်၊ မလှိုင်ပန်းအိုင်၊ ကျောက်ပန်းတောင်း၊ မြင်းခြံ၊ ပြည်စသည့် ဘုရားပွဲတွေမှာ အမေ့အိုးဆိုင်ကို တွေ့နိုင်သည်။ စဥ့်အိုးတွေကို မောင်ဖွဲ့ ကာ လှေကြီးနှင့် ဆွဲလာပြီး ရောင်းခဲ့တာလည်းရှိ၏။ ထင်းတွေကတော့ သပိတ်ကျင်းဘက် တိုက်ရသည်။ တစ်ခါတော့ ကမ်းနားမှာ လှေကြီးကို ဆိုက်ထားရင်း ထင်းချောင်း ရေတွက်ကြသည်။ ထင်းမှာသူနှင့် ထင်း ချောင်းရေ မများရ။

"လေးခင် နှစ်သောင်း၊ ကိုကြာရဲ့ တစ်သောင်း၊ ကျော်သိန်း လေး ထောင်၊ ဓါတိနီတ မောင်ကံ တစ်သောင်းခွဲ ဝင်ဆပ်တာ ရှိသေးတယ်။ နောက် ကိုသောင်းစိန် ငါးထောင်ဆိုတော့"

သည်အသံကို လှေအောက်ရေထဲက ဓားပြက ကြားသည်။ သေချာ ပြီဆိုတော့မှ လှေပေါ်တက်ကာ ပိုက်ဆံတွေ တောင်းတော့သည်။ "ပိုက်ဆံ မဟုတ်ပါဘူးတော်၊ ထင်းချောင်းစာရင်းပါ၊ ရေမွေးအိုးတည်ချင်လို့ကတော့ ကြိုက်သလောက် ယူပါတော်" လို့ ရှင်းပြရသည်။ ဓားပြက ငိုရခက် ရယ်ရခက်။ ခင်ဗျားတို့နောက် ရှင်းရှင်းလင်းလင်း လုပ်ဗျာလို့ ကြိမ်းသွား ကြသေးသည်။ သားသမီးခြောက်ယောက် ပွားစီးတော့ အမေ မြင်းခြံမှာ အိမ်ကလေး ဝယ်နိုင်သည်။ လင်သားက လှေနောက် တကောက်ကောက်။ တစ်ခါတရံ တစ်နှစ်နေလို့ တစ်ခါ မတွေ့ရ။ ငွေလှူကြို၊ စကားလှူကြို၊ စာလှူကြိုသာ ရောက်လာတတ်သည်။ အဖေ လှေသူကြီး ရောက်လာ တော့ သားသမီးတွေက အဖေ့လှေကြီးပေါ် တက်ကြ၊ အဖေ့ပခုံးပေါ်တက် ကြ။ တစ်ခါက အဖေ့လှေက မန္တလေးမှာ၊ အမေက မြင်းခြံမှာ။ ငွေလိုက် ယူပါဆိုတော့ ချတ်ချင်း ထလိုက်ရသည်။ ရေးက လိုင်းကားရှားတော့ ကြုံရာကားနှင့် လိုက်ခဲ့ရသည်ဆို၏။ သားငယ်ကို ခါးထစ်ခွင် ချီကာ

ရဲအချုပ်ကား တောင်းပန်ပြီး စီးလိုက်လာခြင်းဖြစ်သည်။ အချုပ်သားတွေက ကလေးပင် ဝိုင်းထိန်းပေးကြသည် ဆိုလေ၏။

ယောကျ်ားဖြစ်သူက လှေသူကြီး၊ ကိုယ်က ဆယ့်နှစ်ပွဲဈေးသည်။ မုးစုမတ်စုနှင့် စီးပွားရှာရသည်။ ကလေးတွေကလည်း ကြီးပြီ။ အကြီးနှစ်ယောက်က ယောကျ်ားလေး၊ တတိယက မိန်းကလေး၊ အောက်သုံးယောက်က ယောကျ်ားကလေး။ အားလုံး ခြောက်ယောက်ဆိုတော့ ဈေးက တစ်ဖက်၊ ကလေးတွေက တစ်ဖက်။ စားဖို့သောက်ဖို့က တစ်ဖက်။ ပွဲတော်မရှိသည့် ရက်တွေမှာ မြင်းခြံဈေးထဲ အိုးဆိုင် ခင်းရောင်းသည်။ သမီးလေးက ထမင်းချက်၊ အငယ်သုံးကောင်ကို ထိန်း။ သည်ကြားထဲက ကလေးတွေက ကျောင်းကို ပြေးကြရသေးသည်။ ကိုယ့်အိမ်ကလေး ရှိသော်လည်း အိမ်မှာ မနေရသည့် ဘဝတွေ။ ဈေးကို အိမ်လုပ်နေရသည် ကော။ လင်သားကလည်း လှေကို အိမ်လုပ်နေရတာပါပဲ။ အိမ်ကလေး မိုးဖို့၊ ကာဖို့ ရှိလာလျှင် ရပ်ကွက်က ဝိုင်းကြရသည်။ တစ်ခါတစ်ခါ လှေကြီး လွှန်းတင်ချိန်ဆိုလျှင်တော့ သည်အဖေ၊ သည်အမေ သည်သား သည်သမီး အိမ်ကလေးထဲမှာ ဆုံကြရသည်။ သားသမီးတွေက မတိမ်း မယိမ်း။ ဦးထုပ်က ဆိုက်စုံ၊ ဖိနပ်က ဆိုက်စုံ၊ စွပ်ကျယ်က ဆိုက်စုံ။

"တစ်ခါတစ်ကျင်း ပြန်လာရင် မင်းအဖေက ဆိတ်နို့မုန့်ပုံးကြီး တစ်ပုံး ဝယ်လာတတ်တယ်၊ အချိန်တစ်ဆယ်ဝင် ပုံကြီးဟာကော။ လောက ဓယ် ဆိတ်နို့မုန့်နဲ့ အချိုကုန်ရတာပဲ၊ ကလေးတွေဖို့ မုန့်ဆိုရင် ဒါပဲ ဝယ်လာတတ်တာ"

ကလေးတွေ ကြီးလာတော့ မွေးရပ်ရွာပြန်ပြီး လှူရတန်းရသည်။ သားတွေကို ရှင်ပြု၊ သမီးကို နားသ။ သည်က ပြီးပြန်တော့ ခင်ပွန်းက လှေပြန်လိုက်၊ ဇနီးက အိုးဆိုင်ပြန်ထွက်။ မြင်းခြံမှာ အနေကြာလာတော့ မန္တလေးကိုပြောင်းဖို့ ဖြစ်လာသည်။ မန္တလေး ဓါဝိန်ဆိပ်လှေကြီးထား

ပြီး ရောဝတီ အထက်အောက် ဆန်ရ စုန်ရသည်။ သည်တော့ မြင်းခြံ အိမ်ကလေးရသလောက်နှင့် ရောင်းပြီး မန္တလေးရေဆိပ်မှာ အိမ်ကလေး ဝယ်ကြရသည်။ မန္တလေးရောက်တော့ လှေခေတ် ကုန်လုပြီ။ သစ်ဆွဲ မော်တော်ကလေးတစ်စီးဝယ်ဖို့ ငွေတွေမျိုးတွေ စုကြရသည်။ မော်တော် ကလေးတစ်စီးက ထိုခေတ် ငွေ ၁၀၀၀၀။

"ငွေတစ်သောင်း တစ်ယောက်တည်း မရှိတော့ ဆယ်ယောက် စုရတယ်၊ တစ်ယောက် ငွေတစ်ထောင်ကို ဖျစ်ဖျစ်မြည်ရှာရတာ၊ သည်လို နဲ့ အုံ့ ကိုယ်အမ်း ကိုယ့်သူအမ်းနဲ့ နောက်တော့ မော်တော်ကလေး ပိုင်ရ တယ်"

မော်တော်ကလေး အမည်က 'ကမ္ဘာဦး' ဖြစ်သည်။ မန္တလေးနှင့် ရန်ကုန် သစ်ဖောင်တွေ ချိတ်ဆွဲရသည့် ဖောင်ဆွဲမော်တော်။ မင်းကွန်းက၊ အထက်အညာသစ်ဆိပ်က ရသမျှသစ်တွေ တာဝန်ယူဆွဲပေးတော့ သစ်ဖောင် ဆွဲခရသည်။ ဟိုတုန်းကတော့သစ်တွေပေါတော့ မော်တော်အစီး နှနှစ်ဆယ် လောက်က ကူသယ်ခေါက်သယ် ဆွဲကြရသည်။ ဝင်ငွေကလေးက မဆိုး သော်လည်း လေထဲမိုးထဲမှာ ဝမ်းစာရှာရတာ မသက်သာ။ အစိုးရသစ် လုံးတွေဆိုတော့ ပျောက်လျှင် ရာဇဝတ်သင့်မှာ စိုးရသေးသည်။ မော်တော် တစ်ခေါက်ကလည်း အစုန်အဆန်ဆိုလျှင် တစ်လလောက်ကြာတတ်တော့ မော်တော်က အိမ်ဖြစ်လာရပြန်သည်။ သားသမီးတွေကတော့ မန္တလေးမှာ ကျောင်းတက်။ သည်လိုနှင့် မန္တလေးမှာ နေဖြစ်ရုံ အိမ်ကလေး သပ်သပ် ရပ်ရပ် ဆောက်နိုင်သည်။ အိမ်ကြီးရခိုင်ဆောက်ဖို့ သစ်တွေ ကြိုစုရသည်။ ကျည်းပေါင်တွေ ကြိုခွေရသည်။ ပြတင်းတွေ ခွေထားနှင့်ရသည်။ ထရံ ကလေး၊ တပ်ဝါးကလေး စုံတော့မှ အိမ်ကလေး ကောင်းကောင်းဆောက် ဖို့ စီစဉ်သည်။ သို့သော် ချက်ချင်း မဆောက်နိုင်ပြန်။ မိသားစု စားအိုး က ကြီးသည်။ အလုပ်တွေက လျော့လိုက်လာသည်။ သားသမီးတွေက

ကျောင်းသားတွေဆိုတော့ အတန်းတွေ ရကြပြီ။ အမေက နေဖြစ်ရဲ့ အိမ်ကလေးပေါ်မှာပင် မနေပါ။ အိမ်ရှေ့က ကွက်လပ်ကျယ်မှာ ဧည့်ခံဆောင်ကလေးဆောက်ကာ အဲသည့်အထဲမှာပဲ နေသည်။ အဖေက အိမ်ကလေးပေါ်မှာ။ အမေက အောက်မှာ။

"မင်းအဖေက အိမ်ကလေးပေါ် လာနေပါ၊ နင့်မလည်း အိမ်နဲ့နေရတဲ့ အချိန်ကလေး နေမှပေါ့လို့တောင် ပြောတာ၊ မိသားစုတာဝန်ကြီးလာတော့ အိမ်ပေါ်နေချင်စိတ် မရှိဘူး၊ ကြုံသလိုနေ ကြုံသလို အိပ်လိုက်တာပဲ"

တကယ်တမ်းကျတော့ အဖေရော အမေပါ အိမ်ကလေးပေါ်မှာ နေရသည့်အချိန်က နည်းသည်။ အဖေက မော်တော်ပေါ်မှာ။ လွှန်းတင်ချိန်ကျတော့ တစ်ဖက်ကမ်း လွှန်းရုံမှာ သွားနေရသည်။ တစ်လ ကိုးသီတင်း ကြာချင်လည်း ကြာသည်။ ကျန်သည့်အချိန်က လှေထဲရောထဲ။ မြစ်က အိမ်ဖြစ်ရပြန်သည်။ အမေကတော့ ချက်ပြုတ်ပြီးလျှင် အနားကဆပင် မစိုးရိမ်ကျောင်းမှာ ပုတီးသွားစိပ်သည်။ ကျောင်းဝေယျာဝစ္စလုပ်ရင်း ကျောင်းရိပ်မှာ နေသည်။ နောက်တော့လည်း သားကြီးက မော်တော်ပေါ် တက်ရသည်။ သားလတ်က အိမ်ထောင်ကျတော့ အိမ်ခွဲသွားခဲ့ပြီ။ ကြာခင်မှာလည်း အငယ်ဆုံးသားက အိမ်ထောင်ပြုပြန်၏။ သည်တော့ သားနှစ်ယောက် သမီးတစ်ယောက်သာ ကျန်သည်။ စားအိုးလျော့သော်ငြား ဝင်ငွေက တိုးမလာ။ ဈေးရောင်းတတ်သော်လည်း ဈေးရောင်းရမည့်အရွယ် မဟုတ်တော့။ လှေသူကြီးပင် အိမ်ကလေးပေါ်မှာ နားနေရပြီ။ ဒေါက် လေဒေါက် မိုးဒေါက်တွေက နားတော့မှ ဖိစီးတော့သည်။ သည်နောက်တော့ လှေသူကြီး ဆုံးသည်။ မော်တော်ပေါ်လိုက်သည့် သားကြီး ဆုံးသည်။ သည်တော့ ကျန်သည့် လူပျိုနှစ်ယောက်ထဲက တစ်ယောက်က မော်တော်ပေါ် တက်ရပြန်သည်။ ဘွဲ့ရသမီးက ကျောင်းဆရာမ ဖြစ်လာ

တော့ အဝေးရွာကလေးမှာ တာဝန်ထမ်းရသည်။ သည်တော့ အိမ်ကလေးမှာ သားလူပျိုတစ်ယောက်နှင့် အမေသာ ကျန်သည်။

"တစ်အုပ်တစ်မကြီး နေခဲ့ကြရာက လူတွေ ပွဲသွားလိုက်တာ၊ တရားစမ္မဟာ တို့အိမ်ကလေးထဲမှာပဲ ရှိတာကလား၊ မင်းအဖေက အိမ်ကြီးဆောက်ဖို့ သစ်ဝါးစုနေရာက မဆောက်နိုင်ခင် ဆုံးရှာတယ်၊ နေဖြစ်ရုံ အိမ်ကလေးကလည်း အုတ်ခုံခံဆိုတော့ ကောင်းတာပါပဲ၊ ဧည့်ခံဆောင်ကလေးကလည်း အေးတာပဲ"

အမေက ဧည့်ခံဆောင်ကလေးထဲမှာပဲ နေသည်။ အိမ်ပေါ် တက်ခဲသည်။ ဘုရားပန်းထိုး၊ တံမြက်လှည်းတာကလွဲလျှင် အောက်မှာလိုလိုချည်း။ ဧည့်သည်လာတော့လည်း အဆောင်ကလေးထဲက စားပွဲမှာ ဧည့်ခံတတ်သည်။ လှေဆိပ်မြစ်ဆိပ်ဆိုတော့ လှေသမား၊ မော်တော်သမားတွေက အမေ့ထံ မကြာခဏ ဝင်တတ်ကြသည်။ ထင်းလှေက ထင်းပေးသည်။ ပဲလှေက ပဲပေးသည်။ အိုးလှေက အိုးပေးသည်။ တစ်ခါက လှေသူကြီးကတော်သည် ခေတ်လှေ ခေတ်မော်တော်သမားတွေကြားမှာ ငလေးစားခြင်းခံရသည်။

"လေဆင် မိုးဆင် မကောင်းဘူး၊ လှေတွေ အနောက်ဘက်ကမ်းကပ်ထားခဲ့ကြရဲ့လား၊ လှေကြိုးမြဲခဲ့ရဲ့လား၊ လှေဆိုတာ ဘယ်လောက်ကောင်းကောင်း ရေဝင်မလွတ်ဘူးတဲ့၊ ဖွဲလေးဘာလေး လွတ်ကြည့်ကြဦး၊ မနက်က နေလုံးကြီး တုံးတားတာ တွေ့တယ်၊ လေချိုသိမ့်မယ်"

အမေကလည်း ယုံပါသည်။ ညနေကျတော့ လေပြင်းကြီး ကျသည်။ အမေက လှေသမားပီပီ ထမင်းဟင်းကို တိုင်းချက်သူမဟုတ်။ အမြဲတမ်းပို၍ ချက်တတ်သည်။ ဆွေမျိုးသားချင်းဖြစ်စေ၊ အဆွယ်အပွား ပါလာသည်ဖြစ်စေ၊ အချိန်မတော် ရောက်လာလျှင် ကျွေးနိုင်ဖို့ ဖြစ်သည်။

သမီးဖြစ်သူက အိမ်ထောင်ပြုပြန်တော့ နို့ညှာကောင် သားလူပျို

နှင့် အမေပဲ သည်အိမ်မှာ ရှိတော့သည်။ သို့သော် အိမ်ထောင်ပြု သောကြ သော သားတွေက မြေးတွေ အမေ့အိမ်ကလေးထဲ ထိုးထားကြသည်။ အမေ့လောက် သူတို့ မကျွေးနိုင်။ အမေ့လောက် မချစ်နိုင်။ အမေ့လောက် ဆိုးမျိုး မခံနိုင်။ အမေ့လောက် လက်ကျမသာနိုင်။ အမေ့လောက် မဆုံး မနိုင်။ မြေးများအတွက် အမေ့အိမ်သည် ဘဝနေနည်းကျောင်း ဖြစ်သည်။ အမေ့မြေးတွေမှ မဟုတ်။ သားသမီးတွေကလည်း အမေ့ကို တိုးကြ ခွေ့ ကြရင်း ထမင်းတောင်းနိုက် ဟင်းတောင်းနှိုက်။

အမေ့ဧည့်ခံဆောင်ကလေး သည်ဘက်နှစ်တွေမှာ မရှိတော့။ သည် အဆောင်ကလေးကို ချဲ့ကာ သားလှူပျို့လက်ကျန်က ဗီဒီယိုရုံဆောက်သည်။ မော်တော်ကလေးလည်း ရောင်းလိုက်ပြီ။ ဤသို့အားဖြင့် အမေနှင့် လှေ ဘဝသည် ပြတ်တောက်သွားဟန် ရှိသော်လည်း လှေသူကြီးကတော် စိတ်က မကုန်သေး။ တစ်ခါ တစ်ခါ မြစ်ဆိပ်ဘက်ဆင်းကာ လွမ်းတတ် သေးသည်။

"မော်တော်ကလေး ရောင်းထားတာနဲ့ ကိုလှူပျို့ ဗီဒီယိုရုံကလေး နဲ့ဆိုတော့ မပူရတော့ပါဘူး၊ ဒါပေမဲ့ လှေကို အိမ်လုပ်နေရတဲ့ဘဝ၊ ဈေး ကို အိမ်လုပ်နေရတဲ့ ဘဝတွေကိုတော့ အောက်မေ့သား"

အိမ်ကလေးပေါ်မှာ အမေ မနေပါ။ ဗီဒီယိုရုံနှင့် အိမ်ကလေးကြား က ကွက်လပ်မြောင်းမြောင်းကလေးထဲမှာပဲ အမေ နေသည်။ အိမ်ရှေ့ဝန်း အခါးမှာ ထားဝယ်မှိုင်းပင်ရိပ်ကလေး ရှိသည်။ အဲသည့်အောက်မှာ ခုံရှည် ဆိုခေါ်သည့် တန်းလျားခုတင်ဟောင်းကလေး ရှိသည်။ သည်ခုတင်ပေါ်မှာ ပဲ အမေ နေသည်။ မိုးကလေး ဘာကလေး ဖျန်းတော့ ထားဝယ်မှိုင်း၏ အောက်မှာ ထီးကလေးတစ်ချောင်း ဖွင့်တင်ရင်း ရသလောက် နေတတ်သူ ဖြစ်သည်။ အိမ်ပေါ်တက်နေပါလားဆိုသော်လည်း နားမထောင်။ ကျီးများ စာများသော်မှ အသိုက်အမြုံ ရှိကြရတယ်ဟု ဆိုတတ်သော အမေ သည်

အိမ်ပေါ် မနေတာကလည်း ထူးဆန်းသည်။ သားလူပျိုကလည်း မထူးပါ။ ဗီဒီယိုရုံကလေးထဲမှာပဲ အိပ်သည်။ ဗီဒီယိုစက်တွေ ခွေကြိုးတွေ၊ ခွေပြားတွေ၊ တိတ်ခွေတွေ (တစ်ခါတလေ ဖြေတွေ) ကြားမှာ အိပ်သည်။ နေသည်။ ထားဝယ် မှိုင်းပင်ရိပ်က တန်းလျားပေါ်မှာ နေသည့် အမေနှင့် ဗီဒီယိုရုံကလေးကို အိမ်လုပ်နေသည့် သားတို့ ညဘက် ထမင်းစားကြတော့ ညှိနက်နေပြီ။

တကယ်တော့ လှေသူကြီးကတော်ဟောင်း အမေက သည်ခုံတန်းလျားကလေးကို ဆယ်ပြားခင်း ရှေးလှေကြီးလို့ အောက်မေ့ပုံရသည်။ ထားဝယ်မှိုင်းပင်တွေပေါ်က နေကာထီးကလေးကတော့ ပေါင်းမိုးပေလား။ လှေကို အိမ်လုပ်နေသည့်သဘော ဖြစ်လိမ့်မည်။



## အိမ်ကလေး ၅

သည်အိမ်ကို လူတွေက အိမ်ကြီးမာယာလို့ ခေါ်ကြသည်။ တချို့ အတော့လည်း 'ဆရာမနိုင် နှစ်ဆောင်ပြိုင်' ခေါ်ကြသည်လည်း ရှိသည်။ တကယ်တော့ အိမ်ကြီးလည်း မဟုတ်၊ နှစ်ဆောင်ပြိုင်လည်း မဟုတ်။ သာမန်ခေတ်မီ ထရံကာ အိမ်ကလေးသာ ဖြစ်သည်။ လှေကားထစ် သုံးလေးထစ် လှမ်းတက်ရသည့် လှူ့ခါးစောင်းလောက် အမြင့်မှာ ဖိနပ်ချွတ်နေရာ ကျယ်ကျယ်ကလေးရှိ၍ နောက်ထပ် ခြောက်လက်မလောက် တက်လိုက်တော့မှ အိမ်မထဲ ရောက်သည်။ အရှေ့မျက်နှာပြုအိမ်ကလေးဆိုတော့ ဘုရားစင်က တောင်ဘက်ထရံမှာ။ အတွင်းခန်းကို ခေါ်ကြသည့် အိမ်ခန်းက နှစ်ခန်းဖြစ်သော်လည်း နောက်ဆုံး ပြောင်းလာသည့် အိမ်ထောင်စုမှာ လူဦးရေ များလွန်းလှသည်ဖြစ်ရာ အိမ်ရှေ့ခန်းသည်လည်း အိပ်ခန်းကျယ်ကြီး ဖြစ်ရတော့သည်။

"အမယ်လေး လူတွေမှ နည်းပေါင်"

သည်မိသားစု ပြောင်းလာခါစက ပစ္စည်းပစ္စယရယ်လို့ များများစားစား ခေါ်ကြဘဲ ကြီးမားသော အဝတ်ထုပ်ကြီးများ၊ ညစ်ပေပေ စောင်ခေါင်းအုံး

များ၊ ဆေးကြောတိုက်ချွတ်ခြင်းနှင့် ကင်းကွာသော အိုးခွက်ပန်းကန်များနှင့် ဒီဇိုင်းမတူသော တံခါးရွက်နှစ်ချပ် လှုပ်တုပ်လှုပ်တုပ် တပ်ထားသည့် ကြောင်အိမ်မည်းမည်းကြီးတစ်လုံးသာ ပါကြသည်။ သည်အိမ်သည် နေစရာဖြစ်ကာ လေဘောထည်များသည် ဝတ်စရာဖြစ်၍ သည်အိုးခွက်များနှင့် ချက်ပြုတ်ကြမည်ဖြစ်သော ထမင်းဟင်းသည် စားစရာဖြစ်သည်အားလျော်စွာ စားဝတ်နေရေး အကြောင်းသုံးပါးသည် ဤအိမ်၌ မျက်နှာမလှစရာ ဖြစ်နေလေသည်။ ရှေ့ဆုံးအိမ်ငှားက စိတ်လိုလက်ရ ထိုးထားခဲ့သည့် ဘုရားပန်းသည့် နောက်အိမ်ငှား အဆက်ဆက်က ယဉ်ကျေးမှုသဖွယ် ဆက်လက်ထိန်းသိမ်းထားခြင်းသည်လည်း ဤအိမ်ကလေး၏ ထူးခြားမှုဖြစ်သည်။

ကလေးတွေက များလွန်းလှသည်။ နားသယ်စပ်ကို ပြောင်အောင် စက်ကတ်ကြေးထိုးထားသည့် ကလေး၊ ဆံပင်ဖုတ်သိုက်ကလေး၊ ခေါင်းတုံးဆံထောက်ကလေး၊ ခေါင်းကတ်ခေါ် သင်းဖွဲ့ပုံစံညှပ်ထားသည့် ကလေး၊ ရာဇာနေဝင်းတို့ ညှပ်ထားသောကလေး စသဖြင့် ဆံပင်ကို ကလေးနှင့် ခွဲသလား၊ ဒါမှမဟုတ် ကလေးကို ဆံပင်နှင့်ခွဲကြသလား မသေချာသော်လည်း တူညီသည့်အချက်မှာ အားလုံးလိုလို ငါးမောင်းမများနှင့် တူနေခြင်းဖြစ်သည်။ ထူးခြားချက်မှာ အသက်ငါးဆယ်နီးပါး အမျိုးသမီးကြီးနှစ်ယောက် ပါလာခြင်းဖြစ်၍ သည့်ထက် ထူးခြားသည့်အချက်မှာ အသက်ခြောက်ဆယ်နီးပါး အမျိုးသားကြီးတစ်ဦးတည်း ရှိနေခြင်း ဖြစ်သည်။ မိန်းမကြီးနှစ်ယောက်က ညီအစ်မလား၊ ဘယ်သူ အစ်မလဲ၊ ဘယ်သူက ညီမလဲ၊ လူကြီးကကော ဘယ်မိန်းမကြီးရဲ့ ယောက်ျားလဲ၊ ကလေးတွေက ဘယ်သူနဲ့ မွေးတာလဲ၊ လူကြီးက မယားနှစ်ယောက် ရှိတာလား၊ ရှိတယ်ဆိုရင် သူတို့ချင်း တည့်ကြသလား။ သည်လောက် ကလေးတစ်ပြုံတောင်ကြီးကို ဘာလုပ်ကျွေးကြသလဲ။ နေပါဦး သူတို့က အရင်က ဘယ်မှာနေကြတာလဲ။ ဒါဖြင့်ရင် သူတို့အရင်က သည်အိမ်မှာ နေခဲ့ကြတဲ့ မောင်

ရွှေ လင်မယားက ချက်ချင်းကြီး ဘယ်ရောက်သွားတာလဲ၊ မောင်ရွှေနဲ့ သူတို့ကတော့ ဘယ်လို တော်တာလဲ။ မောင်ရွှေတုန်းက အိမ်ငှား၊ အခု ပြောင်းလာကြတာကလည်း အိမ်ငှားဆိုရင် အိမ်ပိုင်ရှင် ကိုကျော်တိတ် ကတော့ သည်လူပြောင်းလူလွှဲကို သိရဲ့လား... စသော မေးခွန်းပေါင်း သောင်းခြောက်ထောင်က ရပ်ကွက်အတွင်း၌ တောမီးကြီးသဖွယ် ကူးလေ သည်။ သည်အိမ်ကို ရပ်ကွက်က လှည်းဦးတိုက် လှေဦးတိုက်ဟု ဆို သည်။ တကယ်လည်း လမ်းတိုကလေး၏အဆုံးမှာ သည်အိမ်ကလေးရှိ ၍ အိမ်ရှေ့တည့်တည့်မှာ လမ်းတိုကလေး ဆုံးသည်။ ထိုအခါ ဘယ်ဘက် သို့ လည်းကောင်း၊ ညာဘက်သို့ လည်းကောင်း တစ်ဖက်ဖက်သို့ ကွေ့ ချိုးနိုင်သည်။ စာကလေးပေကလေး တတ်သူတို့ကတော့ တစ်မျိုးပြော သည်။

"ထုပ်မစွပ် ယက်မလျှိုလျှင် ကျမ်းဆိုချင်အလျှောက်၊ ဉစ္စာရွှေငွေ ပျောက်မယ်၊ ဝမ်းပေါက် ခေါင်လျှောက်ကိုးကွ၊ ဘယ်နိုင်လိမ့်မလဲ ကြည့် ပါလား၊ စမွေးခံက ထုပ်ထက်ကြီးနေတာ၊ အဲဒါ ထီးဆောင်းခေါ်တာပေါ့၊ သည်ကြားထဲ ထုပ်စွန်းထက် စမွေးရှည်နေတော့ သွားရောပေါ့ကွာ"

တစ်ချက်ကလေးမှ မကောင်းသော်ကြား အိမ်ငှားပြတ်သည် မရှိ။ တရုတ်ကြီး ကိုကျော်တိတ်ကပင်လျှင် လာကြည့်တာမျိုး မရှိ။ တစ်နှစ် စာ အိမ်လခတောင်း၊ လက်မှတ်ကလေး ထိုးပြီးလျှင် စာချုပ်ကိစ္စ ပြီးသည်။ သည်အိမ်ကလေးကို ပထမဆုံး ရောက်လာသူမှာ (ကျွန်တော် သိသလောက် ကို ပြောခြင်းဖြစ်ပါသည်) နှုတ်ခမ်းမွေးလင်မယားလို့ အများက ခေါ်ကြ သည့် လင်မယား ဖြစ်သည်။ ယောကျ်ားဖြစ်သူက နှုတ်ခမ်းမွေး ထူထူ ကြီးထားကာ ကတ်ကြေး သေးသေးကလေးတစ်လက်နှင့် မနက်လင်း ဖိနပ်ချွတ်မှာ ထိုင်ရင်း ကိုနေတတ်သည်။ နှုတ်ခမ်းမွေးထက် ဆံ့ခနီး နှုတ်ခမ်းမွေးကတော်က အတော့်ကို ငယ်သည်။ ဘာလုပ်သမှန်းလည်း

မသိ။ တစ်ခါတစ်ခါ လူလေးငါးယောက် သားရေဂျာကင် မည်းပြောင်ပြောင် ကြီးတွေဝတ်ကာ သည်အိမ်ကို ရောက်လာတတ်သည်။ သည်လူတွေ ရောက် လာလျှင် နှုတ်ခမ်းမွေးလင်မယား အူစိုကြပုံပေါ်သည်။ တစ်ခါမှ မကြားဖူး သော ကက်ဆက်သံ ပွက်ပွက်ညံအောင် ကြားရတတ်သည်။ ရပ်ကွက်နှင့် အဆက်အစပ် မရှိတာတော့ မဟုတ်။ ပတ်သက်ရာ ပတ်သက်ရာ တွေ့ကြ ပြောကြ ဝင်ကြထွက်ကြသူတွေ ရှိသည်။ ဝင်သူ ထွက်သူတွေကို စိတ်ဝင် စားကြသူတွေက မေးသည်။

"ဟဲ့... နှုတ်ခမ်းမွေးက ဘာလုပ်တာတဲ့လဲ"

"ဆိုင်ကယ်ပွဲစားလို့ ပြောတာပဲ"

"ဆိုင်ကယ်ဆိုလို့ ဆီးထုပ်ထဲက ဆိုင်ကယ်တောင် မတွေ့ပါလား အေ"

"ပြောတာပဲ၊ မယားကတော့ တော်ရှာပါတယ်၊ နှုတ်ခမ်းမွေးက ဘောက်ဖီဘောက်ထိုးရယ်"

ရပ်ကွက်က သည်အိမ်ကလေးအကြောင်း သည်လောက်ပဲ သိကြ သည်။ ဧည့်သည်တွေ ပြန်သွားလျှင်တော့ နှုတ်ခမ်းမွေးက ဖိနပ်ချွတ်ထွက် ပြီး နှုတ်ခမ်းမွေးတိသည့်အလုပ် ပြန်လုပ်သည်။ သည်လင်မယားကလည်း သိပ်တော့မကြာပါ၊ သုံးလလောက်ပဲ နေခဲ့ကြသည်။ ထူးဆန်းတာက သူတို့ ဘယ်အချိန်ပြောင်းမှန်း မသိလိုက်ကြခြင်း ဖြစ်သည်။ သူတို့ပြီး တော့ မိန်းကလေးနှစ်ယောက် ပြောင်းလာကြသည်။ ဆံပင်ကျော့ဝဲ၊ ခေတ် ဆန်ဆန်။ သေတ္တာကြီးတစ်လုံးစီနှင့် ရောက်လာကြသည့် နှစ်ယောက်ကို တော့ ရပ်ကွက်က စိတ်ဝင်စားသည်။ မီးစက်တွေ၊ ဆောင်းဘောက်တွေ၊ ကာရာအိုကေစက်တွေ မကြာခင် ရောက်လာတော့ ခတ်ပြားက တီးလုံး နှင့် လူအရှင်လတ်လတ် အဆိုတို့ပေါင်းကာ ညတိုင်း သီချင်းဟစ်ကြ သည်။

"ကိုကျင်တိတ် ဥစ္စာစောင့်မတွေ ဗုံးလိုက်ပြန်ပြီ ထင်တယ်နော်"

ကာလသားမိခင်တို့က ထိုသီချင်းသံတွေကို သရဲမီးမြင်ရသလို လန့်ကြသည်။ အိမ်ကလေးရှေ့ လမ်းတိုအဆုံးက ရေခန်းနေသည့် မီးသတ်ရေကန်ပေါ်မှာ ညတိုင်း ကာလသားတို့၏ စပိန်ဂစ်တာကို ကြားကြရပြီ။ သည့်နောက်မှာတော့ လမ်းတိုကလေးထဲ ကားအဝင်အထွက် များလာသည်။ ဆိုင်ကယ် အဝင်များလာသည်။ ဥစ္စာစောင့်တွေက ခရီးယာယီတော့ များသား။ တစ်ခါတော့ လှည်းဦးတိုက် လှေဦးတိုက် အိမ်ကလေးရှေ့မှာ ကားတစ်စီးရပ်သည်။ ပစ္စည်းတွေအားလုံးတင်ကာ မောင်းထွက်သွားသည်။ ဩော်… ခမျာတို့ ပြောင်းကြပြီထင်ပါရဲ့။ မဟုတ်ပါ။ ပစ္စည်းတွေ မရှိတော့သော်လည်း မိန်းကလေးနှစ်ယောက်ကတော့ ရှိနေမြဲ။ နိုင်ငံခြားဖြစ် ခေါက်ဖိနပ်၊ ပိုးပျော့ထဘီ၊ လက်သည်းရှည်ရှည်၊ ဆံပင်ဖားလျား၊ စကက်ထဘီ၊ တစ်ခါတစ်ခါ စကတ်အေားခွဲ။ ကိုရီးယားကားထဲက မင်းသမီးကလေးတွေနှင့်ပင် တူသည်။

"လှည်းဦးတိုက်အိမ်က ယမင်းရွှေစင်တွေ မိုက်တယ်နော်"

"ကိုယ်တော်နော် အေးအေးနေ၊ ဒါတွေက အပိုင်းခြောက်ဆယ်တွေ"

Episode 60 မအိမ်သူက ကျွန်တော့်ကို ကြိမ်းသည်။ သိပ်မကြာပါ။ ရပ်ကွက်ထဲက လူငယ်တစ်ယောက် ဆိုင်ကယ်ပါသွားသည်။ တစ်ယောက်ကိုတစ်ယောက် ယုံကြည်လာကြတော့ ကောင်လေးက ဆိုင်ကယ်ဗုံးလိုက်သည်။ ညအထိ ပြန်မလာ။ ဘယ်တော့မှလည်း ပြန်မလာ။ ထိုအခါ အပိုင်း ၆၀ မရောက်ခင် ဇာတ်သိမ်းသွားခဲ့သည်။

အိမ်ကလေးက ဗုံးမည့်သူမရှိဘဲ နှစ်ပေါက်ကြာသွားတော့ လူတွေက သည်အိမ်ကလေးကို ထွက်ခလုတ် ဝင်ခလုတ်ဆိုသည့်တိုင် ခေါင်းထဲ မရှိကြတော့။ နောက်တစ်ကြိမ် ကိုကျင်တိတ် ဗုံးလိုက်သူ လင်မယားကတော့ မဆိုးပါ။ ဒါပေမဲ့ မြင်ရသလောက် သည်လင်မယားသည်လည်း

အလုပ်အကိုင် မည်မည်ရရ မမြင်။ လင်ဖြစ်သူက နာရီပြင်သည်။ မယားဖြစ်သူက ကလေး ကျောင်းကြိုကျောင်းပို့။ နာရီပြင်သည်ဆိုသော်လည်း မြို့တွင်း ဆိုင်သွားဖွင့်တာမျိုးလည်း မရှိ။ အိမ်မှာ လက်ခံပြင်တာလည်း မမြင်။ သို့သော် ကိစ္စမရှိ။ ရပ်ကွက်က သူတို့လင်မယားကို ခင်ကြသည်။ မွန်ရည်သည်။ ယဉ်ကျေးသည်။ နာရီပြင်ဆရာက စကားပင် ဟဟမဆို။ ပြုံးပြုံး ပြုံးပြုံး။ မယားကတော့ ကျောင်းကြိုပြီးလျှင် သူ့ဝတ္ထုရေးကျပြီ ဆိုသည့်ပုံဖြင့် အချစ်ဝတ္ထုတစ်အုပ်ငှားကာ ပလတ်စတစ် ကုလားထိုင်က မထတော့။ နာရီပြင်ဆရာက စကားသာဟဟ မဆိုသော်ငြား အရက်ကတော့ ကြိုက်ပုံရသည်။ အရက်သောက်လာလျှင် မျက်နှာကြီးနီကာ ပိုပြီးပြုံးတော့သည်။ ဆူခြင်း ညံခြင်းမရှိ။ လင်မယားချင်း ထသတ်တာမျိုးတွေ ရှိသော်လည်း အချစ်ဝတ္ထုနှင့် အရက်သည် အချိန်တန်လျှင် ကိုယ့်နေရာ ကိုယ်ပြန်ယူကြမြဲ။

"ကိုကိုတို့က မြို့ထဲမှာနေကြတာလေ၊ မိဘတွေက ချမ်းသာတယ်။ ကျွန်မက နယ်က၊ သည်မှာ ကျောင်းလာတတ်ရင်း ကိုကိုနဲ့ တွေ့တာ၊ အိမ်ထောင်ပြုတော့ နှစ်ဖက်မိဘဆင်လိုက်တဲ့ စိန်တစ်ဆင်စာ ကုန်တာပဲ။ နာရီပြင်တာက နောက်မှပါ။ မိဘတွေက အလုပ်တစ်ခုခုလုပ်မှ ထောက်ပံ့မယ်ဆိုလို့ ထသင်တာ"

မယားဖြစ်သူက ကျွန်တော့်အိမ်သားက မီးသွေးသည်ဆိုမှာ မီးသွေးအကြွေးဝယ်ရင်း ပြောနေခြင်း ဖြစ်သည်။ မယားဖြစ်သူက ဖတ်သီ ဖတ်သီ ရှာဖွေလာသမျှ ချက်ပြုတ်ကာ ဟန်မပျက် ထိန်းထားရသော်လည်း နာရီပြင် ဆရာက အရက်တွေသောက်တာ များလာသည်။ မနက်တိုင်း အကြွေးလာတောင်းသူ ရှိသည်။ နေ့တိုင်း ရန်လာတွေ့သူတွေ ရှိသည်။ နာရီပြင်ဆရာဆိုလို့ နာရီတော်တော်များများ ယုံမှတ် အပ်နှံသူတို့ ဆုံး

ပေါင်းများလှပြီ။ မည်သို့ပင်ဖြစ်စေ အရက်နှင့် အချစ်ဝတ္ထုသည် အေးဆေးဆေးဆေး။

"သည်လင်မယားက ဘယ်လောက်ကြာကြာ ငှားနေတာတဲ့လဲ"

"တစ်နှစ်လို့ ကြားတာပဲ"

သို့သော် သည်လင်မယား ဆယ်လနှင့် ပြောင်းသွားကြသည်။ မြေးကလေးတွေ ဒုက္ခရောက်ချေရဲ့ဆိုကာ လူကြီးမိဘတွေက အားလုံးကို မြို့ထဲ ပြန်ခေါ်သွားကြသည်။ ရပ်ကွက်တွင်းရှိ စာကြွေးသောက်ကြွေးတွေ ဝိုက်ဆပ်ပေးကြသည်။ နှစ်လနေခွင့်ရှိသော်လည်း ကိစ္စမရှိ။ ထားခဲ့။ ဆုံးချင် ဆုံးပါစေ။ နှစ်ဖက်မိဘများက သည်မိသားစုကို ခြန်မြန်ပြန်ခေါ်မှ သက်ဆိုးရှည်မှာကို သိကြတော့ ချက်ချင်း အခုလိုက်ခဲ့လုပ်ကြခြင်း ဖြစ်သည်။

ထိုအခါ တစ်လလျှင် ကျပ်ခြောက်ထောင် ပေးထားရသော အိမ်ငှားခကို နာရီပြင်ဆရာ ကိုမှူးက နမြောသည်။ အိမ်ရှင် ကိုကျင်တိတ်ဆီက ကျပ် နှစ်လခကျန်တာ ပြန်ပေးလှပ်လို့ကလည်း မဖြစ်တော့ စဉ်းစားသည်။ တစ်လခြောက်ထောင်၊ နှစ်လ တစ်သောင်းနှစ်ထောင်၊ ဘယ်လိုလုပ်ရပါ့။

နာရီပြင်ဆရာ လင်မယား ပြောင်းသွားပြီး နောက်မနက်မှာပဲ အာဗောပိုင်းက ကျွန်တော်ပြောခဲ့သည့် ယောက်ျားကြီးတစ်ယောက်၊ မိန်းမကြီးနှစ်ယောက်၊ ကလေးဆိုက်စုံ (အပျိုပေါက် မိန်းကလေးတစ်ယောက်ပါသေးသည်) တို့ လေဦးတိုက် လည်းဦးတိုက်အိမ်ကို မနက်အစောကြီး ငြိမ်သည်းလှသော အသံတို့ အုတ်အုတ်ကျက်ကျက် ဖြစ်စေလျက် ရောက်လာခဲ့ကြတော့သည်။

"ဇမ္ဗူဒီပါ၊ သာသည်အထွတ်၊ ဘဒ္ဒကပ်ဟု၊ မည်မှတ်တွင်ဘိ၊ အာနိုးရှိသည်၊ ကြီးဘိသနင်း၊ နတ်ရှင်မင်းတို့၊ ကောင်းခြင်းတူပြတ်၊ ပါဒ်

ဗီဇနှာ၊ ပြန့်စရာနှင့်၊ ကောင်းစွာခေါ်မှတ်၊ မြေပုံသတ်၍၊ မှတ်သည့်အိမ်ကို"

အသက်ကြီးကြီး ကျောကုန်းကိုင်းကိုင်း ဆရာက သည်အိမ်ကို ရောက်လာရတာကိုပဲ မဟာဃရ၊ ဒေဝရိပ်ငြိမ်၊ နတ်နန်းအိမ်၌... ဆိုသည့်ပုံဖြင့် အိမ်ကို လှည့်ပတ်ကြည့်သည်။ ပါလာသည့် နှစ်ပေ တစ်ပေ ဆေးသုတ်ဆိုင်းဘုတ်ကို အိမ်ဦးတံခါးဝတွင် ပြင်းစွာသော တူသံကိုပြု၍ ရိုက်သည်။ 'ဦးသာကောင်း၊ အထွေထွေ ကိုယ်စားလှယ်ကြီး'

"အမယ်လေး လူတွေမှ နည်းပေါင်၊ လူကိုယ်စားလှယ်နဲ့ တူတယ်"

ရပ်ကွက်က အထွေထွေကိုယ်စားလှယ်ကြီး မိသားစု ပါလာသည့် အဝတ်တို့ကိုလည်းကောင်း၊ အိုးခွက်တို့ကိုလည်းကောင်း၊ ဒီဇိုင်းမတူသော တံခါးနှစ်ချပ်ပါသည့် ကြောင်အိမ်ကြီးကိုလည်းကောင်း အသီးသီး အသက အသက ထင်မြင်ချက် ပေးကြလေ၏။ ငါ မောင်းမကလေးတွေကလည်း ရပ်ကွက်လမ်းတိုကလေးကို ရှောင်ဖေလီဖေး ပါရီလမ်းမကြီး ထင်ကြသလား မသိ။ ရောက်မဆိုက်ပင် တဖုန်းဖုန်းသော အသံပြု၍ ဘောလုံးကွဲကို ကန်ကြလေသည်။ အပျိုမကလည်း တင်းကျပ်သော လေဘောင်းဘီကို မဆုံ ရင်ကန့်ဝတ်ကာ လမ်းသလားလေ၏။

နောက်ရက်များမှာတော့ အိမ်ကလေးရှေ့ ဝါးလုံးတိုင် နှစ်တိုင်စိုက်ကာ ရှိသမျှအဝတ်တွေ အစိုရော၊ အခြောက်ပါ လှန်းကြသည်၌ ရနံ့မျိုးစုံတို့ ဝေဝေဝဲဝဲ ရှိကြလေသည်။ ထူးခြားတာက မိန်းမကြီးနှစ်ယောက်၏ အသံများ ဖြစ်သည်။ တစ်ယောက်က ခေါင်းကွဲသံဖြစ်၍၊ တစ်ဦးက လင်းကွင်းထိပ်ပုံသံ ဖြစ်သည်။ တစ်ဦးနှင့်တစ်ဦး လက်ဖွေ့ကြိုးဝိုင်းလောက်သာ အဝန်းကျယ်သည့် အိမ်ကလေးထဲမှာပေမယ့် အော်ကြီးဟစ်ကျယ် ခေါ်ခြင်း၊ ပြောခြင်း၊ ဆွေးနွေးခြင်း၊ မြည်တွန်တောက်တီးခြင်း၊ ဆဲရေးခြင်း စသည့် အသံတို့သည် သောင်းသောင်းသဲသဲ ရှိလေသည်။

"တူးတူးရေ ဟော တူးတူး၊ မသာလေး လာခဲ့… လာခဲ့၊ ဘယ်မှာ တုံး ငါ ကြက်သွန်ဝယ်ခိုင်းတာ၊ အပင်းက မဆိုကြတော့ဘူးလား ဟော… ဟဲ့ ပြောနေတာ မကြားဘူးလား"

နောက်ဆုံးအသံ 'လား' သည် တိုတိုနှင့် ရပ်သွားသည် မဟုတ် မူဘဲ အလင်္ကာကျော်စွာ ရွှေမန်းဦးတင်မောင်၏ ရွှဲကုန်သည် ဇာတ်က 'ရွှေ' 'ရွှေ' ဟူသောအသံ ဆင့်ကာ ဆင့်ကာ အော်သံမျိုးဖြင့် ထပ်ချုန်း လေသည်။

အဆိုးဆုံးမှာ နေ့စဉ် ရန်ပွဲကျင်းပခြင်း ဖြစ်သည်။ တိမ်ညွန့်ကို တက်စားရာမှ အချင်းချင်း ရန်သတ္တရပ်ပြုကြသော ခြင်္သေ့ပျံနှင့် ဆင်ပျံကဲ့သို့ ဟုန်းဟုန်းကြဲကြဲ ရှိကြခြင်း ဖြစ်သည်။ လောက၌ရှိသော ဘာသာ စကားတို့အနက် အရိုင်းစိုင်းဆုံး၊ အကြမ်းတမ်းဆုံး၊ အနှင့်သီးဆုံး ဝေါဟာရ ဖြင့် ဆူကြ၊ ဆဲကြရင်း နပန်းလုံးကြခြင်းဖြစ်ရာ ရမ္မက်ဒေါသ၊ အာဃာတ နှင့် ရတက်ဟူးဟူးရှိကြရင်းက ဒေါသဓာတ်ကြောင့်၊ ကောဓဖြိုင်ဖြိုင်၊ စိတ် မနိုင်ကြသည့်အလျောက် အရပ်ဆယ်မျက်နှာ၌ ပွက်ပွက်ကြီး ရိုက်လေ သည်။ ရန်ပွဲကား အမျိုးမျိုးရှိသည်။ သူတို့အချင်းချင်းလည်း ရှိသည်။ ယခင် နေရပ်ဟောင်းက လိုက်ပါလာသော ကျောင်းတော်က ရန်စများ လည်း ရှိသည်။ ရပ်ကွက်တွင်း အမြင်မတော် အကြားမတော်သူများနှင့် လည်း မလွတ်။ တစ်နေကုန် ပျောက်နေတတ်သော ကိုယ်စားလှယ်တော် ကြီးက ညကြီးမိုးချုပ်မှ ပြန်လာသည်ဖြစ်ရာ မိန်းမနှစ်ယောက် အလုအယက် တိုင်ကြရာမှ တငွေ့ငွေ့သာကျန်သော မီးကြွင်းဟောင်းက ထတောက်လာ ပြန်သည်လည်း ရှိသည်။ ကိုယ်စားလှယ်တော်ကြီးခမျာ ဝတ္တရားအရ ကြားနာရသော်ငြား "တော်ကြစမ်းပါဟာ" ဆိုတာလောက်နှင့် စခန်းသိမ်း ရမြဲ ဖြစ်သည်။

တစ်ခါတော့ အိမ်ကလေးရှေ့ လှေဦးတိုက် လှည်းဦးတိုက်နေရာ မှ မိန်းမကြီးနှစ်ယောက် အချင်းချင်း နပန်းလုံးကြသည်။ ငါးမောင်းမတွေ

က ဘေးမှာ။ တစ်ယောက်ဆံပင် တစ်ယောက် မလွှတ်တမ်း ဆွဲကြရင်း ကြွေးသစ် ကြွေးဟောင်း ပြဿနာ ငြင်းနေကြသေးသည်။

"ညည်း အခုဆင်း၊ မလိုချင်ဘူး"

"မလိုချင် ပိုက်ဆံပြန်ပေးလေ၊ လေးလစာ ကျန်သေးတယ်"

"ဘာ လေးလလဲ၊ သုံးလ"

ဆံပင်တွေကို မလွှတ်ကြသေးဘဲ သုံးလနှင့်လေးလ ငြင်းနေကြတာကပဲ ကြာလှပြီ။ အမြင်မတော်သူတွေက ဖျန်တော့ စကားထိုးစစ်ကြီး စပြန်လေ၏။ နောင်အခါ ရပ်ကွက်က သည်အိမ်ကလေးထဲက ပြဿနာကို သိလာကြသည်။ ပြဿနာထားခဲ့သူက နာရီပြင်ဆရာ။ တစ်လ ခြောက်ထောင်နှင့် ငှားထားရသော သည်အိမ်ကလေးက ပြောင်းခါနီး နှစ်လစာ နေဖို့ ကျန်တာ ကျွန်တော် ပြောခဲ့ပြီ။ သည်တော့ နာရီပြင်ဆရာက သူ အရက်ဝယ်သောက်သည့် တဲကလေးက ကိုယ်စားလှယ်တော်ကြီးက မယားကို အရက်ကြွေးနှင့်နှိမ်ကာ နှစ်လတက်နေခွင့် ပြုလိုက်သည်။ အရက်ကြွေးက လေးထောင်ဆိုတော့ သည်အတိုင်း ထားပစ်ခဲ့ရမည့်အတူတူ နှစ်လတက်နေကြ လုပ်ခဲ့ခြင်း ဖြစ်သည်။ တစ်လနှစ်ထောင်နှင့် ဈေးတည့်ကြရာ နှစ်လဆိုတော့ လေးထောင်။ အရက်ကြွေးကလည်း ကြေ။ သစ်ပင်ကလေးအောက် တဲကလေးထိုးကာ ကျည်းကျည်းကျပ်ကျပ် နေကြရသည့် သည်မိသားစုက နှစ်လစာ အိမ်ပေါ်တက်နေခွင့် ရသွားကြသည်ဖြစ်ရာ သူတို့ကလည်း ကျေနပ်သည်။ တစ်လခြောက်ထောင် ပေးငှားရသော အိမ်မှာ (အရက်ကြွေးနှင့် ခုနှိမ်သည်ဆိုသော်ငြား) တစ်လ နှစ်ထောင်နှင့် နေခွင့်ရကြတော့ သူတို့ကလည်း ကျေနပ်သည်။ ဤသို့ဖြင့် သည်အိမ်ကလေးကို မိသားစုအားလုံး ရောက်လာခဲ့ခြင်း ဖြစ်သည်။

"ကိုယ်စားလှယ်တော်ကြီးက မိန်းမနှစ်ယောက်ပေါ့"

"မဟုတ်ဘူး၊ တစ်ယောက်တည်းပဲ၊ မောင်းကွဲသံနဲ့ မိန်းမက မိန်းမ၊ လင်းကွင်းထိပ်ပုံသံက အိမ်ငှား"

"ဟ… ဘယ်လို အိမ်ငှားလဲ"

ကျွန်တော့်စနိုး မအိမ်သူက ကြားထားသမျှ ရှင်းပြခြင်း ဖြစ်သည်။

"သည်လို ကိုယ်စားလှယ်တော်ကြီးရယ်၊ မောင်းကွဲသံရယ်၊ အပျို့မရယ်၊ ကလေးနှစ်ယောက်ရယ်က တစ်မိသားစု၊ သူတို့က သစ်ပင်အောက်တဲထိုးပြီး အရက်ရောင်းတာ၊ နာရီပြင်ဆရာက အရက်ကြွေး မှတ် မှတ်သောက်နေရာက ပြောင်းရမယ်ဆိုတော့ သူ့ကျန်တဲ့ နေခွင့် နှစ်လကို မောင်းကွဲသံတို့ကို နေခွင့်ပြုခဲ့တာ"

"ရှင်းပြီ၊ ဟိုမိန်းမတစ်ယောက်က ဘာလဲ"

"ဟောတော်… အိမ်ငှားပါဆိုနေ၊ အရက်ရောင်းတဲ့ မောင်းကွဲက သစ်ပင်အောက်မှာ တဲထိုးနေတာကို လင်းကွင်းပဲ့က တဲတစ်ခြမ်းငှားနေတာ၊ မောင်းကွဲက သည်အိမ်ကို လာနေတော့ သူကလည်း လေးလနေခွင့်ချန်လို့ သူပါ လိုက်လာတာတဲ့၊ အိမ်ငှားရဲ့ အိမ်ငှားပေါ့"

"ဟောဗျာ နဂို သူတို့နေတဲ့ သစ်ပင်အောက်ကတဲမှာ နေခဲ့လို့ရတာပဲ"

"မရဘူး၊ ရပ်ကွက်လူကြီးတွေက ရပ်ကွက်ထိပ် အရက်ရောင်းတာရော၊ ပသာဒ မဖြစ်တာရော၊ အရက်ဆိုင်မှာ ရန်ဖြစ်တာတွေရော ဆိုတော့ နေခွင့်မပြုတော့ဘူး"

ဒေဝဒေဝါ၊ နတ်တကာတို့၊ မှတ်ရာအချက်၊ ပန္နက်ချလျှင်း၊ ဤမြေတွင်းနှံ၊ ရွှတ်ယှင်းတိမ်းဆောင်း၊ မြေမကောင်းကို၊ ထောင်းထောင်းဖြိုချက်၊ ဆေးရန်ပျက်အောင်… အခုတော့ သည်အိမ်ကလေးမှာ ဒေါ်မောင်းကွဲဆုံး၊ ဒေါ်လင်းကွင်းပဲ့ပါ မရှိကြတော့။ လေ့ဦးတိုက် လှည်းဦးတိုက် ဆိုသော်ငြား ကိုကျင်တိတ်က လူငှားရှာနေသည်ဆို၏။

□

# အိမ်ကလေး ၆

ရှေးအခါက တစ်ဖက်ရန်သူတို့၏ အခြေအနေကို သိရှိကြားနာနိုင်ရန် လည်းကောင်း၊ လုံခြုံမှုအရလည်းကောင်း 'ကင်း' များ ချထားရာ၌ ကင်းတို ကင်းရှည်စနစ်ကို သုံးခဲ့ကြသည်။ အနီးအပါးဝန်းကျင်လှည့်လည်ကြည့်ရှု စစ်ဆေးခြင်းသည် ကင်းတို၊ မြစ်ကူးချောင်းခြား ဝေးလံသော အရပ်အထိ အထောက်အလှမ်းပြုသည်က ကင်းရှည်။ ကျွန်တော်တို့ နေထိုင်ရာ မြစ်ကမ်းပါးထိပ်က ကင်းစင်ကြီးကတော့ ဘာကင်းအမျိုးအစားထဲပါသည် မသိ။ ရပ်ကွက်ကတော့ မယုတ်မလွန် 'ကင်းခြေတံရှည်' ဟု ခေါ်ကြလေသည်။ ကင်းရှည်လည်း မဟုတ်၊ ကင်းတိုလည်း မမည်၊ ကင်းလက်စကလည်း မဆိုနိုင်ရကား 'ကင်းခြေတံရှည်' ဟူသော အမည်ကသာ သည်ကင်းမျှော်စင်ကြီး၏ ပကတိအသွင်သဏ္ဍာန်နှင့် ကိုက်ညီလေ၏။ ပြီးတော့ သည်မြစ်ဆိပ်စောင့် ကင်းခြေတံရှည်ကြီးက အထင်ကရ 'ကင်း' မဟုတ်လေပေ့ ကင်းစစ်၊ ကင်းစာရေး၊ ကင်းတိုက်၊ ကင်းကြပ်၊ ကင်းအုပ်၊ ကင်းဝန်ဟူ၍ ကင်းရာထူး ဖွဲ့စည်းပုံမရှိ။ ရေကင်း၊ ကြည်းကင်းဟု စောင့်ကြပ်ကွပ်ကဲရသူတို့က အမှုထမ်း ပေါ်မပေါ်၊ လျော့မလျော့ စစ်

ဆေးရန်လည်း အကြောင်းမရှိ။ အဘယ်ကြောင့်ဆိုသော် သည်ကင်းခြေတံ ရှည်၏ အတ္ထုပ္ပတ္တိကို မည်သူမှ ကျကျနန မသိတာလည်း ပါပါသည်။ ခေတ်သမိုင်းကို ဆစ်ပိုင်း၍ ခြေရာကောက်နိုင်သူတို့ပင်လျှင် သည်ကင်းခြေ တံရှည်၏ ဇာစ်မြစ်ကို ကုပ်မိဖို့မလွယ်။

"မပြောတတ်ပေါင်ကွာ၊ ငါတို့ ငယ်ငယ်ကတည်းက မြစ်ထိပ် သည်လို ငုတ်တုတ်ကြီး ရှိနေသာပါပဲ၊ ဟိုတုန်းက သည်နေရာမယ် အိမ် ရယ် ဘာရယ် မရှိတော့ ကင်းစင်အေး အခင်းသွားကြသာပဲ၊ မကောင်း သူ မကောင်းသား မခိုမကပ်နိုင်အောင် ဆေးက ခြုံတွေတို့ပဲ ရှင်းခဲ့ရသား ခုတော့ လူနေရပ်ကွက်နဲ့ ဘာနဲ့ဆိုတော့ သန့်သန့်ရှင်းရှင်းဖြစ်ပြီပေါ့ကွာ"

အသက်ခုနစ်ဆယ်ကျော် ဘိုးမှန်သည်ပင် ခပ်ဝါးဝါးသာ ရှင်းပြ နိုင်သည်။ ရေကင်းလား၊ မီးကင်းလားဆိုတာကလည်း မသေချာ။ အောက် ခြေကားကား၊ ထိပ်ရှူးရှူး ကင်းခြေတံရှည်ကြီးပေါ်က တစ်နေရာမှာ သဘောဆောင်ခြင်း မီးကင်းဟူ၍လည်းကောင်း၊ ထုံးဖြူဖြင့် ရေကင်းဟူ၍ လည်းကောင်း ဝိရောမိသဘောဆောင်သော ပဋိပက္ခ အဓိပ္ပာယ်နှစ်ရပ်ဖြင့် စာနှစ်တန်း ထီးထီးကြီး ရှိလေတော့ တိတိကျကျပြောဖို့ ခက်လေသည်။ တချို့ကတော့ ရပ်ကွက်ကို မီးဘေးက ကာကွယ်နိုင်ရန်အလို့ငှာ တည် ဆောက်ထားဟန်တူသဖြင့် 'မီးကင်း' ကို အတည်ယူကြသလို တချို့ ကလည်း မြစ်ဆိပ်ကမ်းပါးထိပ်မှာ ရှိနေသဖြင့် 'ရေကင်း' ဘက်ကို မဲ တင်းလေသည်။

"ရေကင်းဆိုရင် ဆယ်နှစ်မျှးမင်းတိုင်း ကုန်တွေနဲ့ ပတ်သက်ရ မှာပေါ့ဗျ၊ မြစ်ဆိပ်က တက်လာသမျှ တမာဆေး၊ ကော် (သားရေ)၊ ချော်၊ အုံတုံ၊ တင်လဲ၊ လဲမှို့၊ ဥသျှစ်၊ မရိုးစေ့၊ မီးသွေး၊ ထန်းဖူးစည်း၊ မန်ကျည်း မှည့်၊ ရေနံ၊ ပွဲ့လျက်၊ ကင်းခွန် ရှိရမှာပေါ့၊ ဒါတွေမရှိဘူးဆိုကတည်းက ရေကင်း မဟုတ်လို့ပဲ"

'မီးကင်းပထမ' သမားတွေက ရေးစာအကိုးအကားဖြင့် သက်သေထူလေတော့ ရောက်င်းဆရာတို့ကလည်း အားကျမခံ။ "ရေနံတော့ ထွက်နေတာပါပဲကွာ" တဲ့။ တကယ်တော့ သည်ကင်းခြေတံရှည် ကိုယ်တိုင်က ဗာတ်ဟုတ်ကြားကြား မဖြစ်လောက်သော်လည်း သူ့ကို တည်မှီ၍ ဆွေးနွေးချက်တွေက ရွှေဘုံနိဒါန်းနှင့် ချီလေသည်။

"ဆိပ်၊ တည်၊ ပွဲ၊ ကင်း၊ ကူးတို့ ခွန်တဲ့ခင်ဗျ၊ လှေဆိပ်၊ လှည်းဆိပ်ကရတဲ့အခွန်၊ ဆိုင်ကနားနဲ့ အတည်ရောင်းဝယ်တဲ့ အခွန်၊ ပွဲစား ပွဲခြတ်များထံက ရတဲ့အခွန်၊ ကင်းဆိပ်များကရတဲ့ အခွန်၊ ကူးတို့လှေများက ရတဲ့အခွန်ရယ်လို့ မဟာမုနိဘုရားတံတိုင်းကျောက်စာ၊ 'တော်စိန်ခိုရဲ့ လွှတ်တော်မှတ်တမ်းများမှာဆိုလေတော့ သည်ကင်းခြေတံရှည်ဟာ"

ထားပါတော့။ မည်သည့်ကင်းဖြစ်ဖြစ် အရေးမကြီးပါ။ ရပ်ကွက်ထဲ၊ လက်ဖက်ရည်ဆိုင်ထဲ တစ်ခါတလေ စိတ်ရောက်လျှင်လည်း ငြင်းကြ၊ ခုံကြတာမျိုး၊ သူနိုင်ကိုယ်နိုင် ပြောကြတာမျိုးလောက် ရှိတုန်းက ရှိခဲ့သော်ငြား အခုတော့ သည်ကင်းနှင့် ပတ်သက်လို့ စိတ်ဝင်စားမှုနည်းကြပြီ။ ကင်းခြေတံရှည်ကြီးကလည်း ဟောင်းမြင်းလှပြီ။ သည်ကင်းခြေတံရှည်ကြီးနှင့် မလှမ်းမကမ်းမှာ မြေစိုက်ကင်းတဲကလေးတစ်တဲ ရပ်ကွက်ကတာဝန်ယူ ဆောက်လိုက်ကြတာ မကြာသေးပါ။ နွေအခါ မီးကင်းနှင့် ညရေးညတာ လုံခြုံရေးကို သည်မြေစိုက်ကင်းတဲကလေးက တာဝန်ယူနေပြီ။ မြစ်ရေကြီးသည့်အခါ သဲအိတ်အလုံးနှစ်ဆယ်လောက် ချထားပြီး ရောက်င်းဖြစ်ရသည်လည်း ရှိသည်။ မီးကပ်မီးချိတ် လေးစုံ၊ ရေအိုး၊ သဲကျင်း၊ သံချောင်းခေါက်ရန် မော်တော်ကား ဒစ်ဗိုးဟောင်းတစ်လုံး ချိတ်လိုက်သည်နှင့် မီးကင်း၏ အဆောင်အယောင် ပြည့်စုံသွားသည်။ သို့ဖြစ်လျှင် ကျွန်တော်ပြောခဲ့သည့် ကင်းခြေတံရှည်ကြီးက အပိုဖြစ်သွားပြီပေါ့။

မဖြစ်ပါ။ သည်ကင်းခြေတံရှည်ဟောင်းကြီးက အိမ်ကလေး သုံး

လုံး ဖြစ်သွားခဲ့ပြီ။ သည့်ထက် အသေးစိတ်ဆိုရလျှင် မိသားစု သုံးစုတို့ အသီးသီး အသက အသက နေရာဝင်ယူကာ ကင်းခြေတံရှည်အဖြစ်မှ သုံးထပ်အိမ်အဖြစ်သို့ ရောက်ခဲ့ပြီ ဖြစ်၏။ ကင်းခြေတံရှည်၏ ပုံပန်းကို ကျွန်တော် အရင်ပြောချင်ပါသည်။ ငါးပတ်လည် သစ်တိုင်လေးတိုင်က ဖွမ်းမျှအောက်ခြေ ရှစ်ပေပတ်လည်မှာ မြေချကာ အပေါ်သို့ ခပ်ရှူးရှူး ကားသွားလေ၏။ အမြင့်က စိတ်ထင် ပေနှစ်ဆယ်လောက် မြင့်လိမ့်မည်။ အလယ်လောက်မှာတော့ တိုင်လေးတိုင်ကို တန်းပစ်ကာ ကြမ်းခင်းတစ်ထပ် ခင်းသည်။ တိုင်များမှာတော့ ကင်းသားတို့ နေခဲ့ဖူးဟန်ရှိသည့် အခန်းကျဉ်းကလေးရှိ၍ လေးဖက်လေးတန်မှာတော့ တစ်တောင်လောက်မြင့်သည့် အပိတ်ပတ်လည် ရှိသည်။ အနီးစပ်ဆုံးဆိုလျှင် စစ်ကားတွေထဲမှာ ပါတတ်သည့် တပ်စခန်းထောင့်က မီးမောင်းဆလိုက်ထိုး မျှော်စင်မျိုး ဖြစ်သည်။ သစ်တွေက အရင်းအဖျားညီသော သစ်ယောကျ်ားလား၊ အဖျားသွယ်သော သစ်မိန်းမလားဆိုတာတော့ ဘုရားရှင်မှ သိတော်မူလိမ့်မည်။ ဆွဲချသစ်လား၊ သစ်ဘီလူးလား၊ လမ်းချောင်းကူးလား၊ သူကောင်တင်လား၊ သစ်မျောက်လား၊ နပုံးသသစ်လား၊ သစ်နဂါးလား၊ တံစို့သစ်လား။ ဒါလည်း မသေချာ။ စွဲလွှဲကျလား၊ ထက်ကြီးအောက်ရှူးလား၊ ချောင်းကူး လမ်းကူးလား၊ အလယ်ပူလား၊ သစ်ကြိတ်လား၊ နွယ်ပတ်လား၊ ပျားတိုးလား။ ပိုလို့တောင်ဝေးသေး။ သည်မျှော်စင် ခြေတံရှည်ကြီး စဆောက်တုန်းက ကြက်သွန်နီ၊ ဆိတ်ချေး၊ ဆေးဒန်း၊ လင်းနေ၊ ရှိန်းခို၊ ကန့်၊ မြင်းချေး စသော ဆေးခုနစ်ပါးကို ဆန်ပုန်းရည်ဖြင့် ဖျော်ပြီး မြေကိုလည်းကောင်း၊ တိုင်ကိုလည်းကောင်း၊ သုတ်ခဲ့လိမ်းခဲ့ရဲ့လား။ သည်လို လောကီအစီအရင်တွေ ရှိသလားဆိုတာတောင် သိကြသူတွေ မဟုတ်။

ဤသို့အားဖြင့် အောက်ဆုံး မြေညီနေရာကျယ်ကျယ်မှာ တစ်အိမ်ထောင်၊ အလယ်ထပ် မကျဉ်းမကျယ်မှာ တစ်အိမ်ထောင်၊ အပေါ်ဆုံးထပ်

ကျဉ်းကျဉ်းမှာ တစ်အိမ်ထောင်၊ သူ့ဘုံနဲ့ သူ့နေရာ စံမြန်းကြကုန်၏။ မြေညီထပ်က အဲလေ… အောက်ဆုံးမြေကမ္ဘာလာပေါ်မှာနေကြသည့် အိမ်ထောင်စုက သဲလေ့သမားတွေ ဖြစ်သည်။ သဲလေ့သမားဆိုတာကလည်း နှုတ်ကျိုးနေသည့် ဒေသအခေါ်သာ ဖြစ်သည်။ သဲကို လှေနှင့်သွားကျိုးတာလည်း မဟုတ်၊ လှေပေါ်က ထမ်းချတာလည်းမဟုတ်။ သဲမော်တော်ခေါ်ကြသည့် လုံးတော်နေတော် မော်တော်ကြီးက အလုပ်သမား လေးငါးယောက်ဖြင့် မြစ်လယ်ကို သဲသွားစုပ်၊ မြစ်ဆိပ်ရောက်တော့ သဲကန်ထဲကို ရေထွေး၊ သဲတွေပါ မှုတ်တင်၊ သဲကန်ကြီးတွေထဲမှာ ရေတွေစစ်သွားတော့ သဲသန့်သန့် ကျန်လေသည်။ ဒါကိုမှ မြစ်ဆိပ်ကို သဲလာဝယ်ကြသည့် ကားတွေကို သဲမော်တော်ပိုင်က ရောင်းချသည်။ သည်လို သဲမော်တော်ပေါ် လိုက်ကြသူ၊ ဒါမှမဟုတ် သဲကန်ထဲက ကားပေါ်ရွက်တင်ကြသူ မည်သူ့ကိုမဆို သဲလေ့သမား ခေါ်ကြတာ များသည်။ အခုလည်း သည်ကင်းခြေတံရှည်ကြီးအောက်မှာ လာနေကြသူတွေက သဲလေ့သမားတွေ။ လင်က သဲမော်တော်နှင့် မြစ်လယ်အထိလိုက်လာ သဲစုပ်ရသူဖြစ်၍ မယားက မြစ်ဆိပ်သဲကန်ထဲက သဲကို ကားပေါ် သဲတောင်းရွက်တင်ရသူတွေ ဖြစ်သည်။ ကလေးတွေချည်း ငါးယောက်။ သည်လင်မယား သဲဆိပ်ဆင်းကြတော့ သည်ကလေးတွေကို အကြီးမကလေးဆိုသော်လည်း ရှိလှမှ ရှစ်နှစ်သမီးလောက် ရှိဦးမည်။ ခြောက်လုံးပတ်ဆရာက ပတ်လုံးကလေးခြောက်လုံး အလိုက်သင့် လိုက်တီးသလို မောင်နှမ ဘုစုခရုကလေးတွေကို သူပဲ ထိန်းသည်။ မိုးရွာတော့ သစ်ပင်ရိပ်ကို ပြေးချင်ပြေး။ မနီးဝေးက မမွှာရုံကို ပြေးချင်ပြေး။ သဲလှေလင်မယား ရောက်လာတော့ မြေပေါ်မှာပဲ အုတ်ခဲသုံးလုံး မီးဖိုမှာ ကမန်းကတန်းချက်၊ ကမန်းကတန်းစား။ Life is beautiful. နေစရာ၊ စားစရာ၊ ဝတ်စရာရှိလျှင် ဘဝသည် ပြည့်စုံပြီ မဟုတ်လော။

အလယ်ထပ်ကလေးမှာ နေသူကတော့ လင်မယားနှစ်ယောက် တည်းသာမား ဖြစ်သည်။ လင်က ဓာတ်တစ်ဓာတ်က မီးစက်မောင်းသူဟု ဆိုသည်။ ဓာတ်ထွက်တော့ မယားပဲ ကျန်ရစ်သည်။ သားသမီး မရှိကြ တော့ လင်ဓာတ်ထွက်နေချိန်မှာ မယားက ဆေးပေါ့လိပ် ယှူလိပ်နေတတ် သည်။ တစ်ခါတစ်ခါ ကင်းခြေတံရှည်ပေါ်က အထက်ကလေးဆီက ညဉ့် နက်သန်းခေါင် မီးခွက်ကလေး မှိတ်တုတ်၊ ကတ်ကြေးသံ တစ်ချပ်ချပ်ရှိနေ တတ်သည်။ တစ်ခါတစ်ခါတော့ သီချင်းသံကလေးပင် ကြားရသည်။ လင်ဖြစ်သူက ဓာတ်ပွဲကပွဲ လက်ခံပြကွဲဒိန်အရ သွားချည်ပြန်ချည်။ ပွဲရှိ ကျဲတော့ မယားနှင့် များများနေရရှာ။

အပေါ်ထပ်က လူကတော့ သူရထားသည့် နေရာနှင့် သူ့အခြေ အနေ အံကိုက်ဖြစ်နေသည်။ တစ်ယောက်တည်းသမား။ သူက သစ်လုံး မသူ ဖြစ်သည်။ မြစ်ကမ်းနားက ရေမသစ်လုံးကြီးတွေကို ကျွဲလှည်းပေါ် တင်ပေးရသူ ဖြစ်သည်။ ကျွဲလှည်းက မြစ်ဆိပ်ကတက်၊ ရပ်ကွက်သစ်း စက်တွေဆီ မောင်းတော့ နောက်က လိုက်ကြရသည်။ သစ်စက်ရောက် တော့ အလိုက်သင့် နေရာချပေး။ မြစ်ဆိပ်မှာ သစ်လုံးအရေအတွက်များ လျှင် များသလို အလုပ်လုပ်ရသည်။ သူကိုယ်တိုင်က ကျွဲပေါက်တစ် ကောင်နှင့် တူနေပြီး အကျိုရယ်လို့ ဝတ်ထားတာမျိုး မြင်ရခဲ့သူ ဖြစ်သည်။ တစ်ကိုယ်ရေ တစ်ကာယသမားဆိုတော့ ကြုံရမှာတော်သလို စားလိုက် သည်ချည်း။ ညနေစောင်းတော့ ပင်ပန်းခြင်းကို အကြောင်းပြု၍ အရက် ဆိုင် ထိုင်နေတတ်သည်။ တစ်ခါတစ်ခါတော့ ဗီဒီယိုရုံထဲမှာ မူးမူးနှင့် သွားအိပ်နေတတ်သည်။ ဗီဒီယိုပြီးသည်အထိ မထသေးလျှင်လည်း နှိုးစရာ မလို၊ နောက်တစ်ကားပြီးသည်အထိ သူ အိပ်လိမ့်မည်။ ပထမ မြန်မာ ဓာတ်ကား၊ ဒုတိယ နိုင်ငံခြားကား ပြီးတော့မှ နှစ်ကားစာ သူ ရုံခပေး ကာ သူ့ကင်းခြေတံရှည်ကို ပြန်တတ်သည်။ တကယ်တော့ ဗီဒီယိုကြည့်

ချင်တာထက် ရုံဝင်ခပေးပြီး လာအိပ်ခြင်း ဖြစ်သည်။ တစ်ခါတလေ ရုံပိုင်ရှင်က ပထမကား လူဝင်များလို့ အိပ်တော့မအိပ်နဲ့ဗျာ၊ ခင်ဗျား အိပ်လိုက်တော့ နေရာပုပ်တယ်လို့ ပေါက်လျှင်တော့ "ကျုပ်လည်း ခင်ဗျား ဖောက်သည်ပဲဗျာ၊ အိပ်တဲ့ ဖောက်သည်လေ" လို့ ပြန်ပြောတတ်သည်။ မည်သို့ပင်ဖြစ်စေ ညဉ့်ကလေးနက်လျှင်တော့ သူ့ကင်း ခြေတံရှည်ပေါ် တက်မြဲ။

ကျွန်တော်ပြောခဲ့သော ထို ဆင်၊ မျောက်၊ ခါ သုံးဦးတို့၏အကြောင်း ကျွန်တော် သိထားသလောက်က အဲသလောက်သာ ရှိသည်။ သွားရင်းလာရင်း ကျွန်တော် မြင်သလောက်၊ သူတို့အလုပ်အကိုင်နှင့် ပတ်သက်၍ ကျွန်တော် ကြားသလောက်မှာလည်း အဲသလောက်သာ ဖြစ်သည်။ တစ်ရက်မှာတော့ ကျွန်တော့် စာအုပ်စင်ကလေးအတွက် သစ်ကလေး အနည်းအပါး ဝယ်ဖို့ဖြစ်လာတော့ ရပ်ကွက်ကလေးထဲ ကျွန်တော် သွားရသည်။ လက်သမားဆရာနှင့် ကျွန်တော်သစ်ရွေးတော့ လွစက်ဆရာ ကိုမောင်မောင်က သစ်မာကလေးတွေ ရွေးပေးသည်။ သည့်နောက်တော့ ကိုမောင်မောင်နှင့် ကျွန်တော် ခင်မင်သွားခဲ့သည်။ သူ့ကို ကျွန်တော် လွဆရာခေါ်၍ ကျွန်တော့်ကို သူက စာရေးဆရာလို့ ခေါ်သည်။ ကင်းခြေတံရှည်အကြောင်း ကျွန်တော်မေးတော့ သူ အံ့သြနေသည်။

"စာရေးဆရာက သူတို့ကို စိတ်ဝင်စားလို့လား၊ ကျွန်တော်နဲ့ ခင်ပါတယ်၊ သစ်စက်ထဲက အလေးအပင်မရင် သူတို့ဘောက်တွေ ပြေးခေါ်ရတာ ဆရာရဲ့၊ သဲလင်မယားက နာမည်ရင်းတွေ▮တော့ မသိဘူး၊ ရပ်ကွက်ထဲတော့ ကပ္ပလီ၊ ကပ္ပလီမ ခေါ်ကြတာပဲ၊ မီးစက်သမားက သန်းညွှန့်တဲ့၊ မယားက ပုကျစ်တဲ့၊ အပေါ်ထပ်ကကောင်က ဖိုးသောင်း၊ သူတို့ သည်လိုနေကြတာ ကြာပြီ၊ တစ်ခါတလေ ကျွန်တော် အလုပ်လိုလို့ သွားခေါ်ရင် အိမ်ပေါ်တက်ပါဦး ဆရာရဲ့လို့ ပြောကြသေးတာ"

ဟုတ်ပေသားပဲ။ သူတို့အတွက်တော့ အိမ်ဖြစ်လိမ့်မည်။ သည့်နောက်တော့ သည်လူတွေအကြောင်း ကျွန်တော် သိခွင့်ရလာခဲ့သည်။ သည်ကင်းခြေတံရှည်ကြီးမှာ စနေကြစဉ်က တစ်ပြိုင်တည်းလိုလိုနေကြခြင်း မဟုတ်ဘဲ ပထမဆုံးရောက်သူက လက်ရှိ အပေါ်ဆုံးအခန်းကျဉ်းမှာနေသည့် ကိုဖိုးသောင်းဟု ဆိုသည်။ တစ်ယောက်တည်းသမားဆိုတော့ ကင်းခြေတံရှည်ကြီး အောက်ဆုံးက မြေကျယ်ကျယ်မှာ ပုဆိုးပတ်သလိုလို၊ ဆောင်ပတ်သလိုလို အခန်းဖွဲ့နေခဲ့ခြင်း ဖြစ်သည်။ ဒုတိယရောက်လာကြသူတွေက သဲလင်မယားအုပ်စု။ ကလေးတွေက ငါးယောက်၊ ငါးယောက်စလုံးကလည်း ဥမမည် စာမမြောက်တွေ။ အပေါ်ထပ်နေဖို့က မဖြစ်နိုင်လေတော့ ကိုဖိုးသောင်းကို အပေါ်ရွှေ့ခိုင်းရသည်။ သည်အတိုင်းမရ၊ ရွှေ့ခြောင်းခ ငါးရာပေးခဲ့ရသည်ဆို၏။ မီးစက်လင်မယား ရောက်လာပြန်တော့လည်း ကိုဖိုးသောင်း အပေါ်ဆုံးကို ပြောင်းရပြန်၏။ ပြောင်းရွှေ့ခ ငါးရာ။

"နေဝါဦး ကိုဖိုးသောင်း အပေါ်ဘာဖြစ်လို့ ပြောင်းပြောင်းပေးနေတာတဲ့လဲ"

"ဆရာနှယ်၊ သူက တစ်ကိုယ်ရေသမားလေ၊ ပြီးတော့ ယောက်ျားသားဆိုတော့ အပေါ်တက်ရပြုရတာ မခက်ဘူး၊ ကျန်တဲ့နှစ်စုက မိန်းမတွေပါတယ်၊ ကလေးတွေ ရှိပါတယ်ဆိုတော့ တက်ဖို့ မလွယ်ဘူးလေ၊ လေကားရှိတာ မဟုတ်ဘူး ဆရာရဲ့၊ ကုပ်ဖက်တက်ကြရတာ"

သည်တော့မှ ကျွန်တော် သဘောပေါက်သည်။ ဟုတ်သားပဲ။ လေကားရယ်လို့ မရှိ။ ကင်းခြေတံရှည်ကြီးက ထောက်လေးထောက်ကို တက်သွားသည့် ငါးပတ်လည်တိုင်ကြီး လေးတိုင်မှာ တစ်ကန့်စာ တစ်ကန့်စာ 'ချုပ်တန်း' ခေါ်သည့် ကြက်ခြေခတ်တန်းကြီးတွေ ရိုက်ထားသည်။ ပတ်ပတ်လည် ချုပ်တန်း ကြက်ခြေခတ်တန်းကြီးတွေက တက်၊ ဆင်း

တော့လည်း ချုပ်တန်းတွေကပဲ ဆင်း။ မိန်းမသားနှင့် ကလေးတွေ တက်ဖို့ မလွယ်။ ဒါတောင် မီးစက်ဆရာ၏ မယားက အလယ်ဆင့်အထိတော့ တက်ရသေးသည်။ ချက်တော့ ပြုတ်တော့ကော။ သည်သုံးစုမှာ တစ်ကိုယ်ရေတစ်ကာယ ဆရာကိုဖိုးသောင်းကတော့ ချက်ခြင်း၊ ပြုတ်ခြင်း ကင်းသည်။ သဲလင်မယားနှင့် မီးစက်လင်မယားကတော့ မြေပြင်မှာ ချက်၊ မြေပြင်မှာပဲ စား။ ထင်းရယ် ဘာရယ်မဟုတ်ဘဲ အိမ်မိုးကပ်စဟောင်း၊ ဝါးယောင်းခြောက်ဟောင်း၊ ရေမျောထင်းကလေး ဘာလေးနှင့် တစ်နပ်စာကတော့ ပြီးသွားသည်ချည်း။ တစ်ခါတစ်ရံ သဲဆရာကတော်နှင့် မီးစက်ဆရာကတော်တို့ ငြိမ်းချမ်းစွာ အတူယှဉ်တွဲ ချက်ကြပြုတ်ကြတာလည်း ရှိလေသည်။ တစ်ခါတလေတော့ အပေါ်နှင့်အောက် အရင့်သီးဆုံး စကားလုံးများဖြင့် ပစ်ပေါက်ကြသည်လည်း ရှိသည်ဆိုလေ၏။

"ငါ့လင်က မီးစက်မောင်းတာဟဲ့၊ သဲထမ်းမစားရ ပြီးတာပဲ၊ ညည်းတို့သာ"

"သဲထမ်းစားတော့ ဘာဖြစ်တုံး၊ ညည်းလို အပေါ်မတက် ပြီးတာပဲ"

အပေါ်မတက်တာက ဘာလဲ။ ထိုအခါ မှုးမှုးရှူးရှူး အိပ်နေသည့် အပေါ်က ကိုဖိုးသောင်းက မခံ။

"ဟော့... မတွေ၊ ကိုယ့်ပြဿနာ ကိုယ်ရှင်း၊ ဘယ်အပေါ်လဲ၊ တော်ကြာ ငါပါ ပါနေရောမယ်... ဂန်းမတွေ"

တစ်ခါတလေ မတည့်ကြတုန်း အောက်ထပ်က ကလေးငိုသံတွေ နားငြီးတယ် လုပ်ကြသလို၊ ဆေးလိပ်ကတ်ကြေးသံ ချပ်ချပ်ကို နားမခံနိုင်ဘူး လုပ်ချင်လည်း လုပ်ကြသတဲ့။ သုံးအိမ်ထောင်စလုံး၏ တစ်ကိုယ်ရေ သန့်ရှင်းရေး ဝမ်းမီးစာတ်စာဟောင်းကိစ္စတွေကတော့ ရှေ့တော်မြစ်ကိုခစ်မှ ပေါ်လိမ့်မည်။ ရေချိုးတော့ မြစ်ထဲ။ တပိုတပါးသွားတော့ မြစ်ထဲ။

ကလေးတွေကတော့ နေ့နေ့ညည မနီးမဝေးမှာ ပြောင်ထိုင်ပုံကြသူတွေ။ သောက်ရေကတော့ တစ်အိုးစီ ရှိကြသည်ဆို၏။ မြစ်ရေတစ်အိုးခပ်ထားလျှင် သောက်ပါလေ့။ အလယ်ထပ်က မီးစက်လင်မယားကလည်း ရေတစ်အိုးတော့ အလယ်ထပ်ရောက်အောင် တင်ရသည်။

တစ်ခါတလေ နိုက်ရန်မရှိသည့် ငြိမ်းချမ်းရေး ကာလမှာတော့ ဟင်းခွက်အကျူးအလူးလို၊ ဟိုဟာလေး လှမ်းလိုက်ပါဦး သည်ဟာလေး ကမ်းလိုက်ပါဦးဆိုတာမျိုးလို သုံးအိမ်ထောင် စနစ်တစ်ခုနှင့် နေကြသည်လည်း ရှိလေ၏။

"သူတို့အချင်းချင်း နေထိုင်မကောင်းရင်တော့လည်း တစ်လှည့်စီ ကုကြတာ စာရေးဆရာရဲ့ ဗမာဆေး (မြန်မာဆေး) ပေါ့ ဆရာရယ်၊ ဘယ်အင်္ဂလိပ်ဆေးခန်း သွားနိုင်လိမ့်မလဲ၊ ကိုဖိုးသောင်းက လူကသာ လူကြမ်း အောက်ဆုံးက သဲလင်မယားကလေးတွေ သူကုနေတာ ခင်ဗျ"

ကလေးတွေ ဝမ်းတင်းဝမ်းတောင့်တော့ သနပ်ခါးမြစ် သွေးတိုက်သည်။ သူငယ်နာထသည့်အခါ ကြွေစေ့ မီးဖုတ်ပြီး သွေးတိုက်သည်။ ဝမ်းကျစေလိုတော့ ပိုးဟပ်ချေး ကျွေးသည်။ အပူရေငတ် အတက်ရေငတ်ဖြစ်တော့ ရွှန်းချေး၊ လေကားပေါင်ချေး၊ ထုပ်လျှောက်စွန်းတွင် တင်သည့်ချေး၊ ကြက်သွန်နီ၊ နနွင်းခေါင်းကအစ၊ ဆိတ်ဖူး၊ လင်းနေ၊ ခုညင်းဆုံကအစ ရှာဖွေပြီး လက်တစ်ကမ်း ဆေးပညာကို သုံးလေသည်။ ကျန်တာ အကုန်ရှာလို့ ရနိုင်သော်လည်း လေကားလက်ရန်းချေး (လေကားလက်ကိုင်တန်းမှာတင်သည့် ချေး) က ရှာဖို့ခက်သည်။

"ခက်သဟာ၊ တို့ သုံးထပ်စလုံး လေကားလက်ရန်းချေးတော့ ရှားသား"

ကြက်ခြေခတ်တန်း တွယ်တက်ရသူတို့ လေကားလက်ရန်းချေး ရဖို့ ခက်သည်ကော။ ကိုဖိုးသောင်းများတော့ သဲဆရာကတော်ရော၊ မီး

ကော်ဆရာကတော်ပါ ဆရာဝန်တွေ ဖြစ်ကြသည်။ ဆရာဝန်က နှစ်ယောက်၊ ရောဂါ လက္ခဏာချက် (Symptom) က တစ်မျိုးစီ၊ ရောဂါစစ်တမ်း (Diagnosis) က တစ်မျိုးစီ။

တစ်ယောက်က မြစ်ဆိပ်မှာ နေပူခံရလွန်းလို့ အကြောင်းပြကာ နေစာရှက်ဟင်းချက်ကျွေးဖို့ စီမံသလို တစ်ယောက်ကတော့ နေပူလွန်တာ ထောက်တော့ ထန်းလျက်နှင့် ကြက်သွန်နီရောစားရုံပါဟု ဆိုလေသည်။ သွေးမဖော် သားမစပ် ကိုမိုးသောင်းကြီးကို နှိပ်နယ်ပေးကြသော်လည်း ဓိစက်ဆရာကသော် လည်းကောင်း၊ သဲဆရာကသော် လည်းကောင်း ပြိုင်တာမျိုး မရှိ။ ဤသို့အားဖြင့် အောက်အလယ်အထက် သုံးကန့် သော ကင်းခြေတံရှည်အိမ်၌ ပစ်ပညာတ်နှုတ်ဖြင့် သိစေခြင်း၊ ဝစီပယောဂ နှုတ်ဖြင့် လှုံ့လပြုခြင်းတို့သည် အားကောင်းသည့်အခါရှိသလို မရှိသည့် အခါ၌ မီးပြင်းတိုက်သောအိုး၌ တည်သော ရေပေါက်ကဲ့သို့ ခြောက်ခန်း ကြသည်လည်း ရှိလေ၏။ ဤအိမ်သုံးကန့်၌ သုဘာသိတ၊ အကျိုးစီးပွား နှင့် ယှဉ်သည့် ကောင်းမြတ်သောစကား ကြားခဲ၏။ ပိယဝါစာ ချစ်ခင် ရင်းနှီးသက်ဖွယ် စကားနာရခဲ၏။ ဓမ္မဝါစာ တရားတော်နှင့် ညီညွတ်သော စကားကတော့ မရှိသလောက် ရှားလေသည်။ သစ္စဝါစာ ဖြောင့်မတ်သော စကားကတော့ ရှိချင်သည့်အခါ ရှိလေသည်။

“ဘုရားစင်ရယ်လို့ မရှိပေမယ့် မိုးသောင်းအကန့်မှာတော့ မြတ်စွာ ဘုရားပုံတော် ချိတ်ထားတာတော့ ရှိလေရဲ့၊ ဒါပေမဲ့ နတ်စင်ကျတော့ သဲလင်မယားမှာရော မီးစက်မောင်း လင်မယားမှာပါ ရှိပြန်ရော။ သဲ လင်မယားက ယမား မြင်းဖြူရှင် ကိုးကွယ်ပြီး၊ မီးစက်လင်မယားက နှင့် မြင်းဖြူရှင် ကိုးကွယ်ကြသည်။ မြေစာတွေ ကညွတ်တွေနဲ့ နတ်စင် လေးတွေကတော့ ခညြိုးဘူး ဆရာ”

လွှဆရာ ကိုမောင်မောင်က ပြောပြခြင်းဖြစ်သည်။

မည်သို့ပင်ဖြစ်စေ တောင်လေ တိုက်ခတ်သော နွေဦး၌ဖြစ်စေ၊ မြောက်လေ တိုက်ခတ်သော ဆောင်းဦး၌ဖြစ်စေ၊ မိုးမှုန်တိုပ ရွာတတ်သော မြစ်ရေတို့ ဖောင်းလံချိန်၌ဖြစ်စေ၊ ကင်းခြေတံရှည်ပေါ်က သီချင်းသံ၊ ကတ်ကြေးညှပ်သံ၊ အပေါ်အောက် စကားတွေ ပြောကြသံတွေကတော့ ပြတ်သည်မရှိ။ ဤကင်းခြေတံရှည်၌ ဘာသာတရားနှင့် သက်ဝင်ယုံကြည်မှု ရှိသည်။ ချစ်ခြင်း၊ မုန်းခြင်းရှိသည်။ အချင်းချင်း စောင့်ရှောက်သောတရားတို့သည်လည်း ရှိသည်။ ရေပုပ်တက်မျောဘဝတွေ ဆိုကြား ကင်းခြေတံရှည်ကလည်း ဘဝကို ထင်ဟပ်သော ချစ်ဖွယ်အိမ်ကလေး ဖြစ်သည်။ မကောင်းမှုသည် ကင်းခြေတံရှည်ကြီးအောက်မှာ အရူးတစ်ယောက်လို ဝဲလှည့်နေသော်ငြား ကင်းခြေတံရှည် အိမ်ပေါ်က လူတွေကတော့ ယောင်လို့မှ ငုံ့မကြည့်ကြသူတွေ ဖြစ်သည်။



## အိမ်ကလေး ၇

ထူးဆန်းသော တိုက်ဆိုင်မှုလို့သာ ဆိုရတော့မည်။ သည်ဝိုင်းတိုက်ထဲမှာ မိသားစုကြီးနှစ်စုရှိ၍ ထိုမိသားစု နှစ်စု၏ အိမ်ဦးစီးများ၏ အမည်များမှာ တိုက်တိုက်ဆိုင်ဆိုင် ချစ်စနိုးအမည်များ ဖြစ်နေခြင်းကြောင့် ဖြစ်ပါသည်။ တစ်စု၏ အိမ်ထောင်ဦးစီးများက ဦးကြွက်နီ၊ ဒေါ်ခွေးပုဖြစ်၍ နောက်တစ်စုက ဦးကျွဲ၊ ဒေါ်ယုန် ဖြစ်သည်။ ဦးကြွက်နီနှင့် ဦးကျွဲက ညီအစ်ကိုအရင်းဖြစ်၍ အမွေဆိုင်အဖြစ် သည်ဝိုင်းကို ဝေတူဝေမျှ ရခဲ့ကြသူများ ဖြစ်သည်။ ဦးကြွက်နီနှင့် ဦးကျွဲတို့၏ မိဘနှစ်ပါးကို ရပ်ကွက်က မမီလိုက်ကြသော်လည်း သည်မိဘများက သည်ဝိုင်းကြီးနှင့် အိမ်ကို အမွေအဖြစ် ထားရစ်ခဲ့တာကိုတော့ သိကြသည်ချည်းဖြစ်၏။ ဦးကျွဲက ဒေါ်ယုန်နှင့် အိမ်ထောင်ကျပြီး သားသမီးရှစ်ဦး မွေးသည်။ မစီ၊ မရီ၊ မနီ၊ မသီ၊ သံဒိုး၊ ကျောက်ခဲ၊ မစိုးနှင့် မမျိုးတို့ ဖြစ်သည်။ ဦးကြွက်နီ ဒေါ်ခွေးပုက သားသမီးငါးယောက်။ သားကြီးက အောင်သိန်း၊ ဒုတိယက အောင်ငြိမ်း၊ ကျန်တာက သမီးတွေ မဆင့်၊ မတိုး၊ မထွေး။ သားနှစ်ယောက် ရပြီး မမွေးတော့ဘူး အောက်မေ့သည့်ကြားက ထပ်ဆင့်မွေးလာသူကို မဆင့်၊

နောက်တစ်ယောက် တိုးလာတော့ မတိုး၊ နောက်ဆုံးတစ်ယောက် ထင် ပါရဲ့ဆိုပြီး မွေးလာသူက မထွေး။ ဤသို့အားဖြင့် သည်ဝိုင်းတိုက်ထဲမှာ နှစ်မပေါက်ဖြစ်သော ညီအစ်ကိုမောင်နှမတွေ ဆယ့်သုံးဦး ရှိလာ ခဲ့သည်။ ကျွန်တော် ပြန်လည် ရေတွက်ပြပါမည်။ မစီ၊ မရီ၊ မနီ၊ မသီ၊ သံဒိုး၊ ကျောက်ခဲ၊ မစိုး၊ မမျိုး၊ အောင်သိန်း၊ အောင်ငြိမ်း၊ မဆင့်၊ မတိုး၊ မထွေး ပေါင်းဆယ့်သုံးယောက်။

စင်စစ် ဝိုင်းတိုက်ဆိုသော်လည်း ဝိုင်းက ကျယ်လှသည်မဟုတ်။ ရှိလှရင် ပေ ၃၀ ပတ်လည်။ ပြီးတော့ ထောင့်စပ်စပ် ညီညီညာညာ မဟုတ်။ ဒန်ဖလားဟောင်းတစ်လုံးအား ကြိတ်ပြီး ပစ်ထားတာမျိုး ဖြစ်သည်။ ပိန့် သည့်နေရာက ပိန်၊ ချိုင့်သည့်နေရာက ချိုင့်။ အဆိုးဆုံးကတော့ ရပ်ကွက် လယ်က ဝိုင်းတိုက်ဆိုသော်ငြား ထွက်လမ်းမရှိ။ ဟိုကဖောက်ထွက်၊ သည် က တိုးထွက်၊ ဟိုအိမ်နဲ့ ရန်ဖြစ်တော့ သည်ဘက်က ထွက်။ သည်အိမ်နဲ့ မတည့်တော့ ဟိုဘက်ပန်း၊ သည်လိုနှင့် နှစ်တမ်းတွေ ကြာခဲ့သော်လည်း ထွက်စရာမရှိလို့ မထွက်ရလေခြင်းမရှိ။ သည်လိုနေခဲ့ကြရာက ညီအစ်ကို နှစ်ဦးဖြစ်သော ဦးကြွက်နီနှင့် ဦးကျွဲသည်လည်းကောင်း၊ ဦးကြွက်နီ၏ ဇနီး ဒေါ်ခွေးပုသည် လည်းကောင်း သူ ငါကစ လွန်ဆန်မရသည့် မရဏာ မင်း၊ သူ့လက်တွင်းသို့ သက်ဆင်း ကျရောက်ခဲ့ကြသည်ဖြစ်ရာ ကြွင်းကျန် သော ကလာပ်ရပ်အကျန်ကို သုသာန်မှာ သဟာယတစ်စုနှင့် ချပေးပြ ပြီးသည့်အခါ တစ်ဆယ့်ခုနစ်ယောက်သော လူဦးရေထဲမှ သုံးဦးပဲ့ကြလေ သည်။ ထိုအခါ တစ်ဆယ့်သုံးဦးသော နှစ်မပေါက် အမျိုးကောင်းသား၊ အမျိုးကောင်းသမီး သည်မောင်နှမတစ်သိုက်ကို အကြီးအမှူးအဖြစ် ကျန် ရစ်ရှာသူ ဒေါ်ယုန်ကသာ ပဲ့ပဲ့စီးစီး ကြည့်ရှုနေခဲ့သည်။

"မင်းတို့မိဘများ မရှိကြတော့ပေမယ့် သည်ဝိုင်းနဲ့ အိမ်က မင်း တို့လည်း ဆိုင်တယ်၊ သည်တော့ မောင်အောင်သိန်းတို့က ကြီးတော်တို့

နေ့ပဲ သည်ထဲ နေကြပေါ့၊ မင်းတို့မောင်နှမဆန္ဒပဲ၊မင်းတို့က ပိုင်းပါဆစ်ပါ ဆိုရင်လည်း ပိုင်းကြ၊ ကြီးတော်က ငွေရယ်လို့လည်း မအမ်းနိုင်ဘူး၊ သည်တော့ မင်းတို့ဆိုင်တဲ့အမွေ မင်းတို့သဘောပဲ"

တစ်ရက်မှာတော့ ဒေါ်ယုန်က လင့်ဘက်က တူတော်သူ အောင်သိန်းတို့ခေါ်ပြီး ပိုင်ဆိုင်မှုကိစ္စ ဖြတ်သည်။ ဝတ္ထုရားအရ ပြောကြရသော်ငြား အယ်သူကမှ ထွက်စရာ၊ ပိုင်းစရာမရှိ။ ကိုယ့်အိမ်ကိုယ်ဆောက်၊ ကိုယ့်ခင်း ကိုယ့်တံခါး ထားနိုင်ကြသူတွေမဟုတ်။ ဤဝိုင်းတိုက်၌ ဆင်းရဲခြင်းနှင့် မပြည့်စုံခြင်းတို့ တစ်လှည့်စီ စံမြန်းကြသည်ဖြစ်ရာ နောက်ထပ် ထောင်ထားခြားနားလာမည့် 'အတိဒုက္ခ' ဆိုတာကို မျှော်လင့်ဝံ့ကြသူတွေ မဟုတ်။

နဂိုက သည်ဝိုင်းထဲမှာ ဘိုးဘွားတို့ ထားခဲ့သော နှစ်ထပ်အိမ်ကြီး တစ်လုံးရှိခဲ့၍ သည်အထဲမှာ ကျဉ်းကျဉ်းကျုတ်ကျုတ် ခွေးတိုးဝက်ဝင် နေကြသူတွေ ဖြစ်သည်။ သည်တုန်းကတော့ ကလေးတွေက ငယ်ကြသေးတော့ အိမ်ပေါ်နေသလိုလို၊ အိမ်အောက်နေသလိုလို၊ သစ်ပင်ရိပ် ကစားကြသလိုလိုနှင့် ပြီးခဲ့ကြသူတွေ။ သို့သော် ပထမမျိုးဆက် ကွယ်လွန်၊ ဒုတိယမျိုးဆက်ကလည်း အနိစ္စရောက်၊ တတိယမျိုးဆက်ကလည်း လူလုံးသူလုံးကြီးလာသည့်အခါမှာတော့ ငှက်လှောင်အိမ်ထဲ ဝက်ဝံတစ်ကောင် ထိုးသိပ်ထည့်တာမျိုး ဖြစ်လာတော့သည်။ သို့သော် သည်အိမ်ကို ပြင်ဝံ့သူမရှိ။ ပြင်နိုင်သူမရှိ။ သစ်တစ်ချောင်းကျိုး သစ်တစ်ချောင်းထည့်ဖို့တောင် အနိုင်နိုင်ဆိုသူတွေချည်းဆိုတော့ အိမ်ဟူသော အထည်ကိုယ်ဒြပ်သဘော မပျက်သရွေ့ ငါတို့ ရဲဝံ့စွာ နေနိုင်ဖို့သာ လိုသည်ဆိုသည့် သန္နိဋ္ဌာန်ဖြင့် အသီးသီး အသက အသက နေခဲ့ကြတာပဲ ကြာလှပေါ့။

ဤသို့အားဖြင့် ဂက်စ်မီးခြစ်များအတွက် ရှာရိုးကိုးပေါက် ခါတ်ငွေ့ဖြည့်တင်းရေး လုပ်ကိုင်သော 'ဂက်ထည့်ဆရာ' အောင်သိန်းသည်

အညာကောင်း၊ လေပုပ်ထုတ်ဆေး ရောင်းချသူ အောင်ငြိမ်းသည် လည်းကောင်း၊ ပွဲရုံတွေမှာ ပဲရွေးဆန်ရွေးလိုက်ကြသူ မဆင့်၊ မတိုး၊ မထွေးတို့သည်လည်းကောင်း၊ ဆေးလိပ်ခုံက ဆေးလိပ်ကို နှန်းတစ်ခုဖြင့် အိမ်ယူလိပ်ကြသော မစီ၊ မရီ၊ မသီတို့သည်လည်းကောင်း၊ ဆေးလိုက် သုတ်ကြသော သံဒိုးနှင့် ကျောက်ခဲတို့သည် လည်းကောင်း၊ ရွှေချည်ထိုး လိုက်ကြသော မစိုးနှင့် မမျိုးတို့သည်လည်းကောင်း၊ မနက်မိုးလင်းသည် နှင့် အိမ်က ဥက်ကြသည်ဖြစ်ရာ ဆေးလိပ်လိပ်ကြသူ အိမ်နေအိမ်ထိုင် များမှလွဲ၍ သည်အချိန်မှာ 'အလုပ်သဘော' သိပ်မရှိ။

ဒေါ်ယုန်ကတော့ အသက် ရှစ်ဆယ်ကျော်ပြီ။ အရွယ်လွန် သား သမီးတွေကလည်း အိမ်ထောင်ရက်သားကျသူ ကျကြပြီ။ လင်ဘက်က တူး၊ တူမတွေကလည်း ဒေါ်ယုန်ပဲ အဖေ၊ ဒေါ်ယုန်ပဲ အမေဆိုတော့ ဒေါ်ယုန့်တာဝန်ပေကိုး။ မင်္ဂလာရယ်လို့တော့ ဆောင်ပေးစရာမလိုပါ။ ယောက်ျားသားတွေက မိန်းမသားများကို ကြက်ကလေး၊ ငှက်ကလေး များလို ဖမ်းလာကြကာ သမီး၊ တူမတွေကလည်း သက်ဆိုင်ရာ ယောကျ်ား သားတွေကို ဟင်းရွက်၊ ကန်းစွန်းများလို ခူးဆွတ်လာကြခြင်းအားဖြင့် သည်ဝိုင်းတိုက်ထဲမှာ လူတွေ ထပ်တိုးလာခဲ့၏။ လက်ဖက်တစ်ရိုး၊ ဆေး တစ်အိုးဖြင့် ယူခဲ့ကြသော်လည်း 'သားချွေးမ၊ တူချွေးမ'၊ 'သမီးသမက်၊ တူသမက်' တွေချည်း မဟုတ်လား။ ဒေါ်ယုန့်အတွက်ကတော့ အိမ်အို ကြီးပေါ်ထိုင်ရင်းက ဟင်းခွက်တိုးနေရလေ၏။ ထိုအစုံအစုံသော မိသားစု တွေက ထပ်မံပေါက်ဖွားလာကြကုန်သော ကလေးတွေကလည်း သည်အိမ် ကြီးနှင့် သည်ဝိုင်းထဲမှာ ပွက်ပွက်ကြီး ရိုက်လေသည်။ ဆိုင်ရာဆိုင်ရာ မိဘတွေက မိုးဦးလေဦး ဖားများဥချသလို မွေးသမျှ ဘယ်သူ ဘယ်သူ့ သားသမီး ရွေးဖို့ခက်လေ၏။

နေ့ခင်းနေ့လယ် သူထွက် ကိုယ်ထွက် ပြဿနာမရှိသော်လည်း

ဘက် လှူစုံသည့်အခါမှာတော့ ဒေါ်ယုန်၏ဝိုင်းနှင့် အိမ်မှာ သိယိုင်ပြည် မီးတင်ရှို့သော ဟာနမာန်မျောက် တပ်ဖွဲ့ကြီး စီးမိသွားသလို ရှိလေသည်။

ပထမဆုံးတက်နေသည့် ပြဿနာမှာ အစာဟောင်းတို့ စွန့်ရာနေရာဖြစ်၏။ တိုင်လေးတိုင်စိုက်၊ ကပ်ဟောင်းကလေးမိုးပြီး ဂုန်နီအိတ်ဟောင်း၊ မြွေရေခွံအိတ်ဟောင်းကို တံခါးသဖွယ် အသုံးချသော သည်အဆောက်အအုံက အရပ်လေးမျက်နှာ၊ အရပ်ရှစ်မျက်နှာ စုံပြီ။ လူပေါင်းများစွာ ကလေးပေါင်းများစွာတို့၏ အားကောင်းလှသော ထုတ်လုပ်မှုကကိုလျှာထားချက်ထက် စောစောစီးစီး ပြည့်မီတာများလေတော့ သည်လေးဒိုင်စင်ကို ရွှေ့ရတာကပဲ အိမ်ကို မြို့ပတ်ရထားကဲ့သို့ လက်ယာရစ် သုံးပတ် ပတ်မိပြီ။ ဒေါ်ယုန်၏ အိမ်သာ ကိုယ့်ဘက်ရောက်လာသည့် အိမ်နီးချင်းတိုင်းက ကသိုလ်ကောင်းမှုတို့ မပြတ်ပြုနေသည့်ကြားကဲ ရောက်လာသော ဂြိုဟ်ဆိုးသဖွယ် မိမိအိမ်ဘက်မှသည် တခြားတစ်ပါးသော အိမ်ဘက်သို့ ရောက်ရှိရေး နည်းအမျိုးမျိုးဖြင့် ကြံစည်ကြလေသည်။

သည်အိမ်သားတွေ ချက်ကြ ပြုတ်ကြတာကလည်း ပျော်စရာပင်ကောင်းသည်။ အသီးသီး အသက အသက အိမ်ဝဝိုင်းဝရောက်ကြသည်နှင့် ပထမဆုံး လုပ်ရသောအလုပ်မှာ ချက်ချင်း ပြုတ်ခြင်း ဖြစ်သည်။ အိမ်နှင့်လွတ်သော မြေပြောင်ပြောင် ဘက်လပ်မှာ မီးဖိုကလေးတွေ ပွစာကြဲနေတတ်သည်။ သို့သော် သည်အိမ်၏ ထူးခြားချက်မှာ ဘုံဝါဒ ကျင့်သုံးကြခြင်း ဖြစ်၏။ အောင်သိန်းမိသားစုက ထမင်းအိုး၊ အောင်ငြိမ်းမိသားစုက သံဒယ်ပိုင်း၊ သံဒိုးကျောက်ခဲ ညီအစ်ကိုက ယောက်မနှင့် မွှေနှန်း၊ ယောက်ချို၊ မစီက [illegible]နှန်း၊ မရီက ယောက်ရေအိုး၊ မနီက ယောက်ရေခွက်၊ မစိုး၊ မမျိုးတို့က ကျောက်စည်ပိုင်း၊ မဆင့်က သံပန်းကန်၊ မထွေးက ဆန်ကော ဆန်ခါ၊ မတိုးက ရေချိုးဖလား၊ ဓား၊ ဓားမ စသည်ဖြင့်

အိမ်ထောင်ပစ္စည်း၊ မီးဖိုချောင်ပစ္စည်း အသီးသီး ဝယ်ယူကြပြီး ဝိုင်းလယ်က တည်ပင်ကြီးအောက်က ထင်းရှူးပုံးကြီးထဲ ထည့်ထားကြရသည်။ ပထမဆုံးရောက်လာသည့် မိသားစုက ကိုယ့်မီးဖိုနေရာမှာ (မီးဖိုခွင်ကတော့ ဘုံမဟုတ်ပါ) စတင်ချက်ပြုတ်သည်။ အောင်သိန်း၏ ထမင်းအိုးဆိုသော်လည်း အောင်သိန်းပြီးမှ ချက်ရတာမျိုး မဟုတ်။ ဦးသူ ချက်စတမ်း။ ဒုတိယရောက်လာသူက ထမင်းအိုး မအားမှန်းသိလျှင် အောင်ငြိမ်း၏ ဒယ်နှင့် ဟင်းချက်နှင့် ခွင့်ရှိသည်။

ထမင်းဟင်းချက်ပြုတ်ဖို့ စတင်ရောက်လာသူက လက်ဆွဲခြင်းတစ်လုံး ပါတတ်သည်။ သည်လက်ဆွဲခြင်းထဲမှာ ထမင်းဟင်း ချက်ပြုတ်ပြီး လှယ်ယူဖို့ ချိုင့်လို၊ ပလတ်စတစ်ခွက်လိုဟာ ပါမည်။ အရောင်တင်မှုန့်၊ နနွင်းမှုန့်၊ ကြာညို့ပုလင်း၊ ဆားထုပ် စသည့် အထုပ်ကလေးတွေ ပါမည်။ ဒါကလည်း ကုန်စုံဆိုင်က ထည့်ပေးလိုက်သော အထုပ်အတိုင်း ခြင်းတောင်းထဲ ထည့်ထားလိုက်ရုံ။ အထုပ်တွေကြားမှာတော့ ကြက်သွန်နီ လေးငါးလုံး၊ ကြက်သွန်ဖြူ လေးငါးတက်၊ ချင်း လက်တစ်ဆစ်ပါမည်။ ပါလာသည့် ဆန်ထုပ်ကို အောင်သိန်း ဒယ်အိုးထဲထည့်၊ မမျိုး ကျောက်စည်ပိုင်းက ရေနှင့်ခပ်ဆေး၊ ထမင်းအိုးတည်။ ကျက်တော့ မငွေး ဆန်ကောဆန်ခါထဲ ခဏထည့်။ ပြီးတော့ အောင်ငြိမ်း ဒယ်အိုးအားပြီဆိုတော့ လစ်ပိုပုလင်းထဲက ဆီကိုဖောက်သွန်၊ ဆီပွက်တော့ ဆီကလေးသတ်၊ မစိုး၏ ယောက်မနှင့် မွှေ၊ ဇွန်းနှင့် မွှေ။ သည်အချိန်မှာ မိသားတစ်စုက မစိုး၏ လင်ပန်းထဲမှာ ခြွေစရာရှိတာ ခြွေ၊ သင်စရာဖျင်စရာရှိတာ သင်နှင့် ဖျင်နှင့်။ သို့သော် သည်ချက်ခြင်းပြုတ်ခြင်း အနုပညာက သူတို့အလုပ်က ပြန်လာကြသည့် လေးနာရီဝန်းကျင်မှ ညနေ ခြောက်နာရီခွဲကြားမှာ တက်သုတ်ရိုက်ကြခြင်း ဖြစ်၏။ ခုနစ်နာရီထိုးလျှင် ရပ်ကွက်ဗီဒီယိုရုံကို သွားကြရမှာ မဟုတ်လား။ ထမင်းချက်ခြင်း၊ ကိုယ့်ချိုင့်ထဲ ကိုယ်ကဲ့ခြင်း၊ မြစ်ဆိပ်

ရေချပြးချိုးကြခြင်း၊ ကသုတ်ကရက် စားရခြင်းတွေက သည်အချိန်အတွင်း ဖို့လိုသည်။ စောစောစီးစီး ချက်ပြုတ်ပြီးသူက ကလေးတွေကို ဝိုင်းဆေ ကာ ကြီးစွာသော အဟုန်ဖြင့် စားကြသောက်ကြလေသည်။ လဟာမြစ်မ၊ ခင်လယ်ဝ၌၊ ညြဿဟာဉ်ကြီး၊ လေးဖြာစီးသည့် စရီးရေကြောင်း၊ ဝဲခနောင်း ယ်၊ တစ်ပြောင်းပြန်ပြန် ရှိကြလေ၏။ ဤသို့အားဖြင့် ညနေစောင်း ဝင်ရီတရော၌ ဒေါ်ယုန်၏ ဝိုင်းထဲမှာ 'နွတ်လျှာမလျော့၊ သံသော သော့နှင့် ဆော့သည့်နှုတ်သီး၊ မြိုင်တောကျီးလည်း၊ သံကြီးအာအာ' ဆို သကဲ့သို့ သိမ့်သိမ့်တောလုံး၊ သံပေါင်းရုံး၍၊ ပတ်ကုံးမြိုင်နက်၊ အုတ်ကျက် ကျက် ရှိလေသည်။

မိုးကလေးချုပ်ပြီဆိုသည်နှင့် သည်အိမ်ဆီမှ ချီတက်လာကြသော ဒေါ်ယုန်အုပ်စုကြီးက အနီးရှိ ဗီဒီယိုရုံမှာ ပြသနေသည့် မြန်မာရုပ်ရှင် ကား တစ်ကားကို ကြည့်ကြလိမ့်မည်။ ယောကျ်ားသားတွေက အိတ်ထောင် ထဲ ဆေးလိပ်နှစ်လိပ်စီ ပါကြ၍ မိန်းမတွေက ဆေးလိပ်တွေ ခေါင်းမှာ ကိုက်လာကာ ရုံးတွင်းမှာ မီးခိုးချင်း မှိုင်းတိုက်ကြလေသည်။ သည်အချိန် မှာတော့ အိမ်ကြီးမှာ ဒေါ်ယုန်တစ်ယောက်တည်း ကျန်နေတတ်သည်။ အလက်စ တန်းလန်း ပစ်ထားခဲ့ကြသော ပန်းကန်ခွက်ယောက်များ၊ ပုံထားခဲ့ကြသော အဝတ်ဟောင်းများ၊ ကလေးကစားစရာ ဖြုတ်စဖျင်း ဟောင်းများကြားမှာ တစ်ယောက်တည်း ရှိနေတတ်သည်။ ထိုအခါ၌ သာကသည် ငြိမ်သက်လျက် ရှိလေသည်။ စောစောပိုင်း အုတ်အော်သရဲ အခြေအနေမှ ချက်ချင်းကြီး တိတ်ဆိတ်သွားတတ်သည်။

တစ်ရက်တော့ ဒေါ်ယုန်က သည်အိမ်မှာ အိမ်ငှားလက်ခံကြောင်း တစ်ဆင့်စကားဖြင့် ကြေညာချက် ထုတ်လိုက်သည်။ ဒေါ်ယုန်က အိမ်ငှား သည်ဆိုသောအခါ အားလုံးက အံ့သြကြသည်။ သားသမီးတွေ တူ၊ တူမ တွေကလည်း နားမလည်နိုင်အောင် ဖြစ်ကြရသည်။

"အမေ ဘယ့်နှယ်လုပ်တာတုံး၊ အမေ့အိမ်ကမှ ဧရိုးခရိုင်ဗျာ၊ အိမ် ရှိတဲ့လူတွေတောင် ကုတ်ကတ်နေကြရတာ၊ လူငှားထားတယ်ဆိုရင် ကျုပ် တို့က ဘယ်သွားနေမတုံး"

"ဟဲ့... သည်အိမ်က ငါ့အိမ်၊ ငါ မသေသေးဘူး၊ ငါ့ဝင်ငွေကလေး ငါ ရှာရမှာပေါ့၊ ငါ မုဆိုးမ ဘယ်ကောင်က တစ်ပြားထောက်လို့တုံး၊ နင် တို့ ကျေးတဲ့ထမင်းနဲ့ချည်း လူဆိုတာ နေလို့ရတာ မဟုတ်ဘူးဟဲ့၊ လူ့ ရေးတန်းရေးဆိုတာ ရှိသေးတယ်"

ဒေါ်ယုန် အိမ်ငှားထားတော့မတဲ့ သတင်းကြောင့် လူတော်တော် များများ ရောက်လာခဲ့ကြသည်။

အိမ်ငှားဆိုလို့ ဒေါ်ယုန့် အပေါ်ထပ်လား၊ အောက်ထပ်လား၊ အဖိ ချပေးမှာလား၊ စပေါ်နဲ့လား။ ရေနဲ့မီးကကော၊ အနည်းဆုံး အိမ်လခ ဘယ်နှစ်လစာ ကြိုယူမှာတဲ့လဲ။ တကယ်တော့ အပေါ်ထပ်လည်းမဟုတ်၊ အောက်ထပ်လည်းမဟုတ်၊ အဖိလည်းချမပေးနိုင်။ ရေနဲ့မီး မရှိ။ ကိုယ့် အလင်းရောင်နှင့် ကိုယ့်ရေ။ အိမ်လခက ကပ်ကြမ်းတစ်ချပ် တစ်လငါး ရာ။ ကပ်ကြမ်းဆိုတာက အနံ့ သုံးပေ၊ အလျား ခြောက်ပေ။ ဝါးခြမ်း မာမာကို ရက်ထားသည့် အခင်းပြားကို ခေါ်ခြင်းဖြစ်သည်။ ကိုယ့်ကပ် ကြမ်း ကိုယ်သယ်လာရမည်။ သည်ဝိုင်းထဲမှာ ကြိုက်သည့်နေရာ နေပိုင် ခွင့်ရှိသည်။ သဘောကတော့ ကျောတစ်ခင်းစာ တစ်လငါးရာယူခြင်း ဖြစ်သည်။

"ကြီးတော်ကတော့ ကပ်ကြမ်းတစ်ချပ် ငါးရာပဲ၊ မင်းတို့ဘာသာ ကပ်ကြမ်းကို မြင့်ချင်မြင့်၊ နိမ့်ချင်နိမ့်၊ ဖောက်ထိုးထားထား၊ လာအိပ်ချင် နေ မအိပ်ချင်နေ၊ လူဘယ်နှစ်ယောက်လာလာ၊ ကပ်ကြမ်းတစ်ချပ် ငါးရာ ပဲ။ မင်းတို့ ဆေတ္တာတွေတော့ အိမ်ထဲထားခွင့် ပြုတယ်။ ငါးရာက ကပ် ကြမ်းယူလာတဲ့နေ့ ကြိုပေးရမယ်။ အိမ်ပေါ် ပြုတက်ချင်လို့လည်း မဖြစ်

ဘူး။ ငါ့အိမ်က ပုစဉ်းနားတောင် ခံတာမဟုတ်ဘူး၊ မြေကြီးပေါ် ကပ်ကြမ်းချ အိပ်နိုင်ရင် လာခဲ့ပဲ"

ကမ္ဘာလောကဌ် အလားတူ မရှိနိုင်သော ကပ်ကြမ်းတစ်ချပ် ငါးရာ အိမ်ငှားစနစ်ကြောင့် စိတ်ပါဝင်စားကြသူ ဆယ်ဦးလောက် ရောက်လာကြသည်။ ကပ်ကြမ်းတစ်ချပ်စီ ခေါင်းပေါ်ရွက်ပြီး ရောက်လာကြသည့်နေ့က ဒေါ်ယုန် ငွေငါးထောင် ပက်စနဲ ရလိုက်သည်။ ထိုအခါ မထင်မှတ်သော ပြဿနာက စလေ၏။ တစ်သက်လုံးက သူ့အမွေ ကိုယ့်အမွေ မခွဲခဲ့ကြသော အောင်သိန်းတို့ အောင်ငြိမ်းတို့ မောင်နှမတွေက သည်ဝင်ငွေပေါ်မှ တစ်ဝက်လိုချင်သည်။ ကပ်ကြမ်းတစ်ချပ် ငါးရာသမားတွေက သည်ဝိုင်းထဲမှာ ညဘက် အိပ်ချင်သည့်နေရာ ကပ်ကြမ်းခင်းအိပ်ကြရတာဆိုတော့ ဒေါ်ယုန့် မြေပေါ် အိပ်ပါသည်ဆိုလို့ မရတော့။ အောင်သိန်းတို့ ရပိုင်ခွင့် တောင်းလာကြခြင်း ဖြစ်သည်။

"ကြီးတော် ကပ်ကြမ်းတစ်ချပ် ငါးရာစနစ်ကို ကျွန်တော်တို့ သဘောတူပါတယ်၊ သည်လို ဝင်ငွေကလေးရတော့ တစ်ဖက်က အသက်ရှူချောင်တာပေါ့၊ သို့သော်လည်း..."

"ဘာ သို့သော်လည်းကွဲ့၊ မင်းက ဘယ့်နှယ်ဖြစ်ချင်လို့တုံး"

"ကျွန်တော်တို့ကတော့ ဟာပ်ဘိုင်ဟာပ် လုပ်ချင်တယ်"

"ဘာလဲ ဟာပ်ဘိုင်ဟာပ်ဆိုတာ"

"တစ်ယောက်တစ်ဝက်စီပေါ့"

"ဟကောင်တွေရဲ့၊ ငါက အိမ်ငှားဆိုပြီး အိမ်ကလေး အခန်းကန့်ပြီး တစ်ယောက်စ၊ နှစ်ယောက်စ တစ်လ တစ်ထောင်ရယ်၊ နှစ်ထောင်ရယ် ငှားတာမျိုး မဟုတ်ဘူးဟဲ့၊ ငါ့အိမ်ကလည်း ကျူပြင်ရိုး တစ်တိုင်နှစ်တိုင် လေတိုးလို့ယိုင် ဘယ်သူက လာငှားမှာတုံး။ ကပ်ကြမ်းတစ်ချပ် ငါးရာက ကျောခင်းရ ပြီးရောဆိုတဲ့ သောက်သောက်တွေကို ငှားတာမှာ မင်းက မင်းဘဒါ (ဘဏ္ဍာ) ကိုယ့်ဟာ မှတ်နေသလား"

"အသယ်ဟုတ်ပါ့မလဲ ကြီးတော်ရဲ့၊ သည်မြေပေါ်က ဝင်သ ကြီးတော်တို့ တစ်ဝက်ဆိုင်သလို၊ ကျွန်တော်တို့ တစ်ဝက်ဆိုင်တာ တစ်ကျပ်ရ ငါးမူးပေါ့ဗျ"

"ဒါဆို ကပ်ကြမ်းဝင်ငွေပေါ် ခွဲမနေနဲ့တော့ပေါ့၊ အိမ်ပါ ခွဲကြ တော့"

"အိမ်ခွဲတော့လည်း ရသဗျာ၊ အိမ်လည်း ကျုပ်တို့နဲ့ တစ်ဝက်ဆိုင် တာပဲ"

သည်လိုဆိုတော့ ဒေါ်ယုန် ငြိမ်သွားသည်။ အိမ်ကလည်း တကယ် တော့ သူတို့ တစ်ဝက်ပိုင်သည်။ မိုးကလေးချုပ်ချုပ် အိမ်ကလေး ၄တ် တုတ်ကို ထပ်ခွဲရလျှင် ထင်းဖြစ်တော့မည်။ ပိုက်ဆံအမ်းပါလားဆိုတော့ လည်း အမ်းနိုင်တာ မဟုတ်။

"အေးပေါ့လေ မင်းပြောတဲ့ ဟပ်ဘိုင်ဟပ်ပေါ့"

ရလာသည့်ဝင်ငွေ ငါးထောင်ထဲက အောင်သိန်းတို့ မောင်နှမက နှစ်ထောင့်ငါးရာ လစဉ်ရသည်။ သည်နှစ်ထောင့်ငါးရာကို တစ်ဖက် မောင် နှမ ရှစ်ယောက်ခွဲတော့ တစ်ယောက်ကို ၃၁၂ ကျပ်ခွဲ ရသည်။ ခွဲရေ တွဲရေးကိစ္စ အဆင်ပြေသွားပြီဆိုတော့မှ ကပ်ကြမ်းသမားတို့လည်း ပြောင်းရွှေ့ နိုင်သည်။ တူအရီးနှစ်ယောက် စကားများရာက ကပ်ကြမ်းစနစ် ပျက်သွား လျှင် သူတို့ဝယ်ထားသည့် ကပ်ကြမ်းဗိုးဆုံးတာ အဖတ်တင်မှာ မဟုတ် လား။

သည့်နောက်တော့ ဒေါ်ယုန့်အိမ်ကြီးအောက်ထပ်မှာ ကပ်ကြမ်း ဆယ်ချပ်နှင့် သံသေတ္တာဆယ်လုံး ရောက်လာသည်။ လင်ကွဲ၊ မယားကွဲ၊ သဲထမ်း၊ မော်တော်လိုက်၊ သစ်ခုတ် ပျားထိုးတွေချည်း။ ပါလာသည့် သေတ္တာကလေးတွေ နေလုံမိုးလုံရှိဖို့ အိမ်အောက်ထပ် သွင်းထားကြရသော် လည်း ကပ်ကြမ်းကတော့ သည်ဝိုင်းထဲမှာ ကြိုက်သည့်နေရာ ယူသွားပြီး

အိပ်ခွင့်ရှိသည်။ ကပ်ကြမ်းတစ်ချပ်ကို နှစ်ယောက်စပ် ဗွားသူတွေပင် ဆပ်ရောက်လာကြသေးသည်။ တချို့ လင်မယားကျတော့လည်း ကလေး တစ်ယောက် ပါလာသည်ဖြစ်ရာ လူသုံးယောက် ကပ်ကြမ်းတစ်ချပ် ဖြစ် ရတော့သည်။ ခေါ်ယုန်ဘက်ကတော့ လက်ခံသည်ချည်း။ သို့သော် ကပ် ကြမ်းတစ်ချပ် လူတစ်ယောက်သမားတွေက အယုံအကြည်မရှိ အဆိုတင် သာကြတော့သည်။

"မင်းတို့လို မတတ်နိုင်သူတွေပါကွယ်၊ ကူသိုလ်ရပါတယ်၊ သူတို့ ခများနေရင် တစ်လ၊ နှစ်လပါ"

ခေါ်ယုန်ခများ အသက်ရှစ်ဆယ်ကျော်ခါမှ ကပ်ကြမ်းစီးပွားရေးကို စုတ်းလုပ်စိပ်နေရပြီ။ ညနေခင်း ညီအစ်ကို မသိတသိအချိန်တိုင်လျှင် ခေါ်ယုန် အမျှုးပြုသော လူအုပ်ကြီးထဲက ပြဿနာပေါင်း သောင်းခြောက် ထောင်က အိုးထိန်းစက်ကဲ့သို့ ဖွတ်သော မဟာပထဝီ မြေကြီးကဲ့သို့ လည်းကောင်း၊ သက္ကရာဇ ဆိုကြားမင်း၏ စိန်စက်သွားကဲ့သို့ လည်း ကောင်း၊ ကျရာအရပ်၌ လောင်မီးကြီး ကျတတ်သော ပြဟ္မာဦးခေါင်း ကဲ့သို့ လည်းကောင်း၊ ဆဲသံဆိုသံ ကျူသံဆူသံတို့ဖြင့် ဝက်ခေါင်းထိုး စခ်ဆင်ရေး စလေသည်။ ထဘီပျောက်၊ ဘောင်းဘီပျောက်၊ အဝတ်လှန်း ချိတ်ပျောက်၊ ပိုက်ဆံပျောက်၊ တိုလီမုတ်စ ပျောက်များမှသည် ထူးဆန်း သော ပျောက်ဆုံးမှုများလည်း ရှိလေရာ စုံထောက်မောင်စံရှား၏ ဗာစကာ ဗျိုးခွေးကြီး အမှုထက်ပင် ရှုပ်ထွေးခက်ခဲလေ၏။

"မစားနိုင်တဲ့ဟာတွေ၊ ငါ့ထမင်းကြမ်းခဲ ပျောက်သဟဲ့နော်၊ ယူတဲ့ လူ ငါ သိတယ်ဟော၊ မပြောချင်လို့၊ အသာတကြည် ပြန်ထားရင်ထား၊ မထားလို့ကတော့..."

မထားလို့ကတော့ဆိုသည့် နောက်ဆက်တွဲ ပြစ်မှုနှင့် ပြစ်ဒဏ်က တော့ ကြောက်ကြောက်စရာ။ အောင်သိန်း၊ အောင်ငြိမ်းတို့ ပေါင်နှမများ

နှင့် စနီး ခင်ပွန်းများ၊ ဒေါ်ယုန်မျိုးဆက် ဇနီးခင်ပွန်းများ၊ ကပ်ကြမ်းသမားများနှင့် ကလေးအရွယ်စုံ ဆိုက်စုံတို့ကြားမှာ ပျောက်သွားသည့် ပစ္စည်းတစ်ခု ပြန်ရဖို့ဆိုတာ သေချာလှသည် မဟုတ်။ အဆိုးဆုံးကတော့ အိမ်သာဖြစ်သည်။ သစ်ါရသဘောသည် နေရာတကာမှာ ရှိနိုင်သော်လည်း ဒေါ်ယုန့်အိမ်သာက ဂုန်နီဖျင်စကတော့ သဘာဝတရားကို ကြဲ့ကြဲ့ခံဆဲ။ လေဟာနယ်၌ နှစ်ဆယ့်သုံး နှစ်ပိုင်းတစ်ပိုင်း ဒီဂရီစောင်း၍တည်သော ပြဲဟ်ကမ္ဘာကို ဆန့်ကျင်ဘက် ကျွားကန်ကာ နှစ်ဆယ့်သုံး နှစ်ပိုင်းတစ်ပိုင်း စောင်းနေသည့် ဒေါ်ယုန့် အိမ်ကတော့ကော။

ဤသို့အားဖြင့် တိုး၍ တိုး၍ လာကြကုန်သော ကပ်ကြမ်းတို့သည်လည်းကောင်း၊ တိုး၍ တိုး၍ လာကြကုန်သော လူတို့သည်လည်းကောင်း၊ တိုး၍ တိုး၍ လာကြကုန်သော ပဋိပက္ခတို့သည် လည်းကောင်း၊ တိုး၍ တိုး၍ လာကြကုန်သော မီးဖိုများ၊ အဝတ်လှန်းကြိုးများ၊ အမှိုက်များသည် လည်းကောင်း၊ ဤပိုင်းအတွင်း၌ ကမ္ဘာတည်သရွေ့ မြဲတည်သော ကပ္ပဋ္ဌိတိ တရားကဲ့သို့ ရှိလေသည်။

"အောင်သိန်း ကပ်ကြမ်းသမားရှာပါဦးဟဲ့ ငါတူရဲ့၊ တို့အိမ် လူ ချောင်ပါသေးတယ်၊ ကြီးတော်နဲ့ ငါတူ ဟပ်ဘိုင်ဟပ်ပေါ့"

သည်စကားကို ကြားတော့ ဒေါ်ယုန့်အိမ်အိုက ပြင်းထန်သော သိမ့်ခါခြင်းကို သုံးကြိမ်ပြုလေသည်။

▢

## အိမ်ကလေး ၁

ဤအိမ်ကလေး၌ လွန်လေပြီးသောနှစ်များက ဝိပ္ပယောဂ ကွေကွင်းတတ်သော သဘောသည်လည်းကောင်း၊ ဝိပ္ပယုတ် မယှဉ်ခြင်းသဘောသည် လည်းကောင်း၊ ဝိပတ္တိ ပျက်စီးခြင်းသဘောသည် လည်းကောင်း၊ ဝိပ္ပလ္လာသ ယွင်းသွေ ဖောက်ပြန်ခြင်းသဘောသည် လည်းကောင်း လုံးဝမရှိခဲ့ကြောင်း ကျွန်တော် အာမခံဝံ့ပါသည်။ ဤအိမ်ကလေး၏ အေးချမ်းငြိမ်သက်ခြင်းသည် ပစ္စုပ္ပန်တည်းဟူသော အကြောင်းကြောင့်ဖြစ်သော အကျိုးတရားအဖြစ် နှစ်ပေါင်းများစွာ တည်ခဲ့၏။ အိမ်ပိုင်ရှင် ကိုကြာရိုးသည် လွန်စွာ နှုတ်နည်းသကဲ့သို့ အိမ်ရှင်ကတော် မယဉ်းတော်သည်လည်း ခြောက်လှန့်တတ်သော မြေဖုတ်ပြိတ္တာကို မျက်ဝါးထင်ထင် မြင်သော်မှ စောင့်စည်းမြဲမြံ ကာယကံနှင့် နှုတ်သံဝစီ သိသိကလေး မထွက်ရှာသူ ဖြစ်သည်။ လင်နှင့်မယား ပြောစရာ ဆိုစရာရှိလျှင်လည်း မျက်ရိပ်မျက်ခြည်အားဖြင့် ပြီးကြသည်ဖြစ်ရာ ဝစီဝိညတ်နှုတ်ဖြင့် သိစေခြင်းသည် လိုအပ်မှုသာ ဖြစ်ရသည့်အကြောင်း ဖြစ်နေတာ ကြာခဲ့ပြီ။ လုပ်ဆစ်ကောင်ခင်း၊ သွားခြင်းထကြွား၊ စကားဆိုတည့်၊ မျက်နှာလှည့်လည်၊ ကြည့်သည်အမှတ်၊

ဝါယောခာတ်ဟု၊ သိတတ်ထူးလည် ဆိုသကဲ့သို့ ဝါယောဓာတ်သည် သွားလာလှုပ်ရှားခြင်း၏ အကြောင်းဆိုသည့်တိုင် ဤအိမ်၌ ခန်းခြောက်ချင်တိုင်း ခန်းခြောက်နေတတ်သည်။ ထို့ကြောင့်လည်း ဝစီဘေဒဗျတ္တဝါစာယံ ထင်သောစကား၊ ပြီးသောစကား၊ ကြားသော စကားတို့သည် မရှိ။ ဤစကားကို ဆိုအံ့ဟု ကြံသောစိတ်သည် အဌကလာပ်ရုပ်ကို ဖြစ်စေပြီးလျှင် ဝစီယောသေန စကားသံဖြင့် အဓိပ္ပာယ် ဝိညာပန ယောတုတ္တာ အလိုကို သိစေခြင်း၏ သဘောကြောင့် ဝစီဝိညတ္တိ မည်သော နှုတ်စကား ဖြစ်ရသော်လည်း ဤအိမ်ကလေး၌ စကားသံသည် ဝဇိရ စိန်ကဲ့သို့ လည်းကောင်း၊ ဝဇိရက္ခန် ပတ္တမြားကဲ့သို့ လည်းကောင်း လွန်စွာ ရှားပါးခန်းခြောက်လေသည်။

ဤအိမ်ကလေး၌ စဥ့်ဆေးခံခွက်ကို ခာတ်မီးခြစ်ဖြင့် ခေါက်လိုက်သည့်အခါ ဆေးလိပ်လိုအပ်ကြောင်း သိစေ၏။ ထမင်းစား စားပွဲခုံဝိုင်းကို မျက်စောင်းထိုးခြင်းဖြင့် ထမင်းစားကြစို့ဟု အချက်ပြကြောင်း သိစေ၏။ မယားကလည်း သောက်ရေအိုး ရေဖြည့်လိုက်ဦးဆိုသည့် စကားကို မဆိုဘဲ အိုးနှုတ်ခမ်းကို ခွက်စောင်းဖြင့် ခုတ်ကာ ခုတ်ကာ အချက်ပေးရုံသာ။ လက်က စာအုပ်ဖွင့်ဟန် ဖွင့်ချည် ပိတ်ချည်လုပ်ပြရင်း ဘုရားရှိခိုးပုံ လက်ရိပ်ပြသည်နှင့် မယားက ဗိနေတ္တပကာသနီအုပ်ပြုတ်ကို ယူထုတ်လာတတ်လေသည်။ မယားက ဈေးသွားခါနီး ပိုက်ဆံတောင်းရန် မလိုပါ။ ဈေးခြင်းတောင်း အိမ်ဝချလိုက်သည်နှင့် ကိုကြာရိုးက ပလတ်စတစ်ဖြင့် အထပ်ထပ် ထုပ်ထားသော သားရေပင်စည်း ငွေထုပ်ကို ကြီးစွာသော ဆင်ခြင်ဉာဏ် အသိကပ်လျက် သက်နှင့်အရှိ သတိမြဲမြဲ ကြံမလျော့ရာ၊ မဖေါ့သာသည့် ဝီရိယဖြင့် ဖြေလေသည်။ ပလတ်စတစ် အထပ်ထပ်ကုန်သော် စက္ကူညို၊ စက္ကူညိုကုန်သော် သတင်းစာစက္ကူ၊ သတင်းစာစက္ကူကို လွန်သော်မှ ထွက်လာသည့် ငွေသုံးရာကို ပန္နက်ဖူးသော သစ္စာကို ငုံသော

အားဖြင့် ပေးလေသည်။ ဈေးကအပြန် မယားချက်ပြုတ်သမျှ အာဟာရ ကိစ္စ ပြီးသည့်အခါ လင်နှင့်မယား "ရှင်မရေ နံနက်စာတော့ဖြင့် ပြီးပြန် ပေါ့" ဆိုသည့် မောင်ပေါက်ကျိုင်းဇာတ်မှ ကျီးဖို၊ ကျီးမကဲ့သို့ ဆေးလိပ် တစ်လိပ်စီကုန်အောင် ဖွာကြလေသည်။

ကိုကြာရိုးနှင့် မယင်းတော်တို့ အိမ်ထောင်သက် အနှစ်နှစ်ဆယ် ကျော်ပြီ။ အိမ်ထောင်ကျပြီးသည်နှင့် သည်ရပ်ကွက်ကလေးကို ပြောင်းရွှေ့ လာခဲ့သည်ဆိုတော့ သည်အိမ်ကို ရောက်လာတာကလည်း အနှစ်နှစ်ဆယ် ကျော်ပြီ။ ငယ်လင် ငယ်မယားတော့ မဟုတ်ပါ။ ကိုကြာရိုးက ကလေး နှစ်ယောက် ပါလာခဲ့ကာ မယင်းတော်ကလည်း သွားလေသူ ပထမလင် နှင့် ရခဲ့သည့် ကလေးနှစ်ယောက် ပါသည်။ ကိုကြာရိုးက မြင်းလှည်း သမား။ မန္တလေးမြို့စွန်နှင့် ဈေးချိုကို ရပ်ကွက်ဈေးသည် အဖိုးအကြီး တစ်ခေါက်လိုက်ပြီးသည်နှင့် မြင်းစာရော၊ လူစာပါ လောက်ငသည့် အခါ ကာလဆိုတော့ သည်တစ်ခေါက်ပြီးလျှင် ခေါင်ခေါင်မြဲပြီ။ မယင်းတော် က ဂျုံမှုန့်နှင့် ကောက်ရိုးကို မြင်းဝရေးထက် မြင်း မသေရေး ပထမစနစ် ဖြင့် ဝယ်စရာရှိတာ ဝယ်သည်။ မြစ်ဆိပ်နှင့်နီးသည့် ရပ်ကွက်ဆိုတော့ မြင်းရေချိုး၊ မြင်းရေတိုက်၊ မြင်းစာ ကျွေးသည်။ သူတို့ ရောက်စက ကိုကြာရိုး၏ တစ်နေ့ဈေးဖိုးမှာ အစိတ်၊ သုံးဆယ်။ စကားနည်းလွန်းလှ သည့် သူတို့လင်မယားကို ရပ်ကွက်က ပါနှစ်ပါ၊ ချာနှစ်ချာ ခေါ်ကြလေ ၏။ နဂိုက ဆင်းရဲနုံချာကြရသည့်ကြား ကလေးနှစ်ယောက်စီ ပါလာကြ တာကို သနိပ်ပြုကြခြင်း ဖြစ်သည်။ ပါသည်ဖြစ်စေ၊ ချာသည်ဖြစ်စေ သိကြားမင်းဖျက်သော်မှ မပျက်စေရဆိုသည့် သန္နိဋ္ဌာန်ဖြင့် လူခြောက် ယောက် မြင်းတစ်ကောင်၊ ခွေးနှစ်ကောင် ချောင်ချောင်ကြီး နေခဲ့ကြသည် သာ။

သည်အိမ်ကလေးက ကိုကြာရိုး၏ ပထမ မယားက ကျန်ရစ်သည့် အိမ်ဖြစ်သည်။ ပျဉ်ထောင်ကာ ပျဉ်ခင်း၊ ကပ်မိုးဆိုသော်လည်း ရေနံရည် ဝချင်တိုင်း ဝနေသည့် ရှေးအိမ်လွှင့်လွှင့်ကြီး ဖြစ်သည်။ ကိုကြာရိုး၏ ပထမ မယားဘက်ဆိုင်ရာ မိဘများက ရှေးမြန်မာများပီပီ ဘူမိပုဇာ မြေသန့်မင်္ဂလာမှစ၍ အိမ်ရာ မြေရှိန် ကောင်း၊ မကောင်းမှစ၍ သစ်မျက်ယောအဆုံး မင်္ဂလာယူကာ ဆောက်ခဲ့သည့်အိမ် ဖြစ်သည်။ ရှင်နတ်များတို့ အခြားဆိုရာ၊ မြေမှာကိတ်ကုန်၊ သစ်ခုံသစ်ဆွေး၊ မီးသွေးတိုင်ဟောင်း၊ ရှေးကျောင်းဆောက်ဖူး၊ လမ်းဦးလမ်းမ၊ တစသချိုင်း၊ လုပ်တိုင်းပြုဖူး၊ ဝက်ရူးနွားနာ၊ ဆေးရာအဟောင်း၊ မြေမကောင်းကို ရှောင်းချင်တိုင်း ရှောင်းခဲ့သည့်အိမ် ဖြစ်၏။ အရှေ့တောင်ဘက်တိုင်မှာ သိကြားမင်းဟု ပြင်းပြင်းရွတ်၍ 'သိ' ကို ရေး၊ အနောက်တောင်ဘက်တိုင်မှာ နဂါးမင်းဟု ပြင်းပြင်းရွတ်၍ 'န' ကို ရေး၊ အနောက်မြောက်တိုင်မှာ ဗိဿနိုးနတ်မင်းဟု ပြင်းပြင်းဆို၍ 'ဗိ' ကို ရေး၊ အရှေ့မြောက်ဘက်တိုင်မှာ ဘုရားရှင်ဟု မြင်းမြင်းရွတ်၍ 'ဘု' ဟု ရေးခဲ့သည့် 'သိနဗိဘု' အက္ခရာလေးလုံး ကမ္ပည်းထိုးခဲ့သည့်အိမ် ဖြစ်သည်။ သည့်နောက်တော့ ပညတ်သခ်ါရ မမြဲသော အနိစ္စသဘောသည် ကိုကြာရိုး၏ ကျေးဇူးရှင် ယောက္ခမနှစ်ပါးကို လည်းကောင်း၊ ကျေးဇူးရှင် ပထမ မယားကိုလည်းကောင်း ကျရောက်ခဲ့သည် ဖြစ်ရာ ကိုကြာရိုးသည် မုဆိုးဖို ချက်ချင်းကြီးကျ၍ ကလေးနှစ်ယောက်နှင့် ကျန်ရစ်လေသည်။ မယားသေ လင်ရဥပဒေသဖြင့် ခြံနှင့်အိမ်ကို ပိုင်သော်ငြား 'နာမ်၊ နိ၊ လက်ကိုစံ သန်၊ ကိလေနှင့်မြှောက်' ဆိုသည့်အတိုင်း နာမ် ၅၃၊ နိမ္မနရုပ် ၁၈၊ လက္ခဏာရုပ် ၄၊ ပေါင်း ၇၅ ကိုတည်၍ သန္တာန် ၂ ပါး၊ ကိလေသာ ၁၀ ပါးနှင့် မြှောက်၍ရသော ၁၅၀၀ ကို တပ်မက်သည် ဖြစ်၍ တဏှာသွေးခေါင်း၊ လက်စောင်ပေါင်းသား၊ ကောင်းမှုဝန်လို၊ တစ်ကျိပ်မိုလ်ဟု မုန်ယိုရာဂ လောဘကြီး ထလေသည်။ ပထမ မယားသေ၍ မြေပုံသော်မှ မသွေ့မီ မယင်းတော် အိမ်ပေါ်ရောက်လာခဲ့၏။

"အလို ကြာရိုးနယ်၊ နှုတ်က နည်းပါဘိသနဲ့၊ ဘယ့်နယ်က ဘယ့်နယ် မိယင်းတော်အရိုးမ ဆင်တော်နဲ့ ခိုးရပါလိမ့်"

ရပ်ကွက်က မြင်းလှည်းဆရာ ကိုကြာရိုးကို ရိုးမှန်း၊ အေးမှန်း သိ၍ စကြသော်လည်း ကိုကြာရိုးကတော့ ငါ သူတစ်ပါး ယောကျ်ား မိန်းမ အမှုန်အမွှားအဖြစ်သာ မြင်တော့သည့် အရိယာသူတော်စင်ကဲ့သို့ ဆိတ်ဆိတ်ကြီးသာ နေလေသည်။ မခံစားတတ်သော လူ့တုဏှိဘာဝမျိုး မဟုတ်ဘဲ စကားတစ်ခွန်းထွက်ရန် လွန်စွာ အားထုတ်ရသူအဖြစ်သာ သိ မြင်ထားကြသူများဆိုတော့ နောက်စရာ ပြောင်စရာရှိတော့လည်း နောက် ကြ ပြောင်ကြသည်သာ။ သည်အခါမျိုးမှာ ကိုကြာရိုးက ပြုံးပြုံးကြီး။ ဒုတိယမယား မယင်းတော်သည်လည်း သူ့မြင်းလှည်းကြုံ ဈေးချိုလိုက် ဟင်းသီးဟင်းရွက်သည်တွေထဲက တစ်ယောက်သာဖြစ်ရာ စကားဟာဟာ မပြောတတ်သည့် အရည်အချင်းကြောင့် ကောက်ကောက်ပါအောင် ကစီး လုံးပါး ယူလိုက်ခြင်းသာ ဖြစ်သည်။ ကိုကြာရိုးနှင့် မယင်းတော်တို့ နှစ် ဦးသား စကားမပြောနိုင်ကြလောက်အောင် အေးကြသည်မှန်သော်လည်း မြင်းလှည်းဆရာနှင့် ဈေးသည်မ စကားမဟလို့ကတော့ ဝတ်ဖို့သာ ရှိ မည်။

ကိုကြာရိုးက မြင်းလှည်းဂိတ်မှာ၊ မြင်းလှည်းပေါ်မှာ၊ လမ်းပေါ် မှာ ပြောသကဲ့သို့ ဈေးထဲမှာ ဈေးစကား၊ နာစကား မယင်းတော်ကလည်း ပြောစရာရှိတာတော့ ပြောရသည်။ အိမ်ရောက်တော့လည်း ကျွန်တော်ဆို ခဲ့သည့်အတိုင်း သွေး၊ သည်းခြေ၊ သလိပ်၊ လေလေးထွက်သော သန္ဓိပါတ် ကို အစုအဝေးမခံတော့သလို အေးအေးကြီးသာ နေကြလေသည်။

ကိုကြာရိုးနှင့် မယင်းတော် ညားခါစက မွှာရုံနှင့်တူသော ထို အိမ်၌ နှစ်ဖက်ပါ ကလေးနှစ်ယောက်စီနှင့် ခွေးနှစ်ကောင်လောင်းကာ သည်းသည်းကြီး လှုပ်ရှားမည်ဟု ထင်လျှင် မှားဖို့သာ ရှိသည်။ မနက်

စောစောကြီး ဈေးချိုကို မြင်းလှည်းတစ်ခေါက်ပို့ခြင်း၊ ကြိုခြင်းသည် မနက် ခုနစ်နာရီလောက်မှာ ပြီးသွားပြီ၊ မယင်းတော်ကလည်း ညားပြီဆိုကတည်း က ဈေးမထွက်တော့။ လင်ကိုယ်မယားနှစ်ယောက်နှင့် ကလေးအတွက် မနက်ခင်း ချက်ပြုတ်လိုက်ပြီးလျှင် ငေါင်ငေါင်ကြီး ထိုင်နေကြတာ များ သည်။ ကိုကြာရိုးက အိမ်ကလေးရှေ့ ထန်းပလပ် ပက်လက်ကုလားထိုင် မှာ ထိုင်ရင်း ဇိနတ္တပကာသနီကို အာဂုံဆောင်နေသလား မှတ်ရအောင် ကျဲကော်ကိုင်၊ မျက်မှန်တစ်လက်နှင့် ရှိနေတတ်သကဲ့သို့ မယင်းတော် ကလည်း ဆိုခဲ့သည့်အတိုင်း လူဝေယျာဝစ္စ၊ မြင်းဝေယျာဝစ္စ နှစ်ပါးမျှ အောင်လုပ်ရင်း ချောက်ချက်ချောက်ချက် ရွှေ့လျားနေတတ်သည်။ ကလေး နှစ်ယောက်၊ နှစ်ပြုံးက အိမ်ကလေးရှေ့က မြေပြောင်ပြောင်မှာ ငုတ်တုတ် ထလေးတွေ။

"သည်နှစ် ရေနံတော့ သုတ်ဦးမှပါ"

အချက်ပြလို့ မရနိုင်သော သည်လို သဘောထားယူခြင်းမျိုးတွင် ကိုကြာရိုးက လှမ်းပြောတတ်သည်။ သည်တစ်ခါပါပဲ၊ ကြားတော့လည်း ကြားပေါ့။ မကြားတော့လည်း နေပေါ့။ နှစ်ခါတော့ ပြောလိမ့်မည် မဟုတ်။ ထိုအခါ မယင်းတော်ကလည်း တတ်နိုင်သမျှ ချွေတာသော လေဖြင့် "အင်း..." တစ်ခွန်းပဲ ပြောလေသည်။ ဒါပါပဲ။ ကျန်တာ ကိုကြာရိုး ဆက် လုပ်သွားလိမ့်မည်။ ကိုကြာရိုးက သွားလေသူ ယောက္ခမများကို ကျေးဇူး တင်သည်။ သူ့ပထမ ဇနီးကလည်း တစ်ဦးတည်းသော သမီးဆိုတော့ အမွေကိစ္စ စကားများစရာ မရှိ။ ပြီးတော့ သည်ရပ်ကွက်က အင်မတန် အေးချမ်းသည်။ သူတို့ ရောက်စက ကွက်ကြီးကွင်းကြီးတွေ မိုးလိုးပက်လက် ရှိသေးသည်။ တစ်အိမ်တစ်အိမ် လူနေဆေးဝေး အိမ်ဆက်ခြားခြားဆိုတော့ အေးအေးလူလူ ကြိုက်သောသူတို့အဖို့ ပဋိရူပ သင့်တင့်လျောက်ပတ်သော အရပ်ဖြစ်ခဲ့သည်။ ညဘက် လသာသာမှာ အိမ်ရှေ့တာလမ်းထွက်၊ ဖျာ

ကလေးခင်းအိပ်သော်မှ နင်းသွားမည့်ယာဉ် မရှိ။ သည်အရပ်၌ စက်ဘီး သီး ကားသဲ ဝေလာဝေး။ ကိုကြာရိုးတို့အိမ်နှင့် မြောက်ဘက်လှမ်းလှမ်း မှာ ဗိန္ဒောဆရာ ဦးသာဂရနေသည်။ ဦးသာဂရနှင့် ကပ်လျက်က လက် သမားသားအဖ ဦးဖေနှင့် သားမောင်တေ။ တောင်ဘက်နှစ်ဝင်းကျော်မှာ စက်ချုပ်ဆရာ ကိုကျော်ခ။ သူကလည်း ဈေးချိုအလယ်ပေါက်က ဆိုင် တစ်ဆိုင်မှာ ဈေးချုပ်ကလေးတွေ ချုပ်ပေးရသူဆိုတော့ မရှိတာများသည်။ အရှေ့ရှုးရှုးမှာ နွားမွေးကြသည့် ဟိန္ဒူစုတန်ကြီးတွေ အုပ်ကြီးသင်းကြီး ဖွဲ့နေကြသည်။ နွားအော်သံတွေ ဘူးဘူးဘဲဘဲနှင့် နွားချေးညှော်နံ့က တစ်ခါတရံ အနှောင့်အယှက် ရှိသော်လည်း လေသင့်မှ ရောက်လာတတ် တာမျိုး ဖြစ်သည်။ အနောက်ဘက်စောင်း တာရိုးမှာတော့ ကမ်းနားမှာ အလုပ်လုပ်စားကြသူတွေ များလှသော်လည်း အချိန်တန်တော့ အသံဗလံ တွေ ငြိမ်ဆိတ်သွားလေသည်။ များသောအားဖြင့်က သစ်စက်ပွတ်စက်၊ တွင်စက်ဆောက်ရန် မြေနေရာတွေ ဝယ်ထားကြသော်လည်း သည်နေရာကို စက်ရေစက်ရေ ရောက်လာကြသူမရှိ။ မြေနေရာတွေက အလွတ်တွေ များ သည်။ ကိုကြာရိုးနှင့် မယင်းတော်တို့၏ နှစ်ဖက်ပါ သားသမီးများသည် ဝင် အိမ်ထောင်ကျကြပြီဆိုတော့ နောက်ဆုံး သည်အိမ်ကလေးမှာ သူတို့ လင်မယားပဲ ကျန်သည်။ သည်ရပ်ကွက်မှာ မြင်းလှည်းမောင်းရင်း နေ လာတာကပဲ ဘာလိုလိုနှင့် နှစ်ပေါင်းနှစ်ဆယ်ရှိပြီ။ သည်နှစ်ပေါင်း နှစ် ဆယ်အတွင်းမှာတော့ သည်ရပ်ကွက်ကလေး စည်ကားလာတာ အံ့သြဖို့ ပင် ကောင်းလှသည်။ လူတွေက ပြောက်သောက်၊ စရိုက်တွေက အမျိုး မျိုး။ အိမ်တွေကလည်း သပ်သပ်ခတ်ခတ် ရှိတာရှိ၊ မရှိတာမရှိ။ တောင် လှည့် မြောက်လှည့် ဆားတိုက်၊ အဖိရှနေလို့ရသမျှ နေလိုက်ကြပုံများ။ သချ်ာ ငါးပါး၌ အနေကသချ်ာဟုဆိုနိုင်သော 'များသောအားဖြင့်'သချ်ာ ဟုပင် ဆိုရတော့မည်။

သူတို့အိမ်ကလေးမှာ မြင်းတွေသာ ပြောင်းခဲ့သည်။ နွေးတွေသာ ပြောင်းခဲ့သည်။ ကိုကြာရိုးနှင့် မယင်းတော်ကတော့ အေးအေးလူလူ နေကြ ထိုင်ကြဆဲ။ တချို့က သူတို့အိမ်ကလေးကို ခလုတ်တိုက်လာကြသည်လည်း ရှိသည်။ ဘိလိယက်ခုံထောင်ချင်လို့ ဝိုင်းတစ်ခြမ်းငှားချင်သူတွေလည်း ရှိလာသည်။ အပူရည်၊ အခါးရည် ဆိုင်ကလေးဖွင့်ချင်လို့ အနံ့တထောင်းထောင်းဖြင့် ရောက်လာသူများလည်း ရှိသည်။ လက်ဖက်ရည်ဆိုင်ဖွင့်ချင်လို့၊ ဆံပင်ညှပ်ဆိုင်ဖွင့်ချင်လို့၊ စက်ဘီးပြင်ဆိုင် ဖွင့်ချင်လို့။ တချို့ကတော့ ခမ္ဘာရုံနှင့် တူနေသည့် အိမ်ကိုဖျက်ပြီး အိမ်ကျယ်ကျယ်ရှေ့တိုးဆောက်စမ်းပါ။ အောက်ထပ် စတိုးဆိုင်ဖွင့်ချင်လို့၊ တစ်လ ဘယ်လောက်ပေးပါမယ်ဆိုသည့် မက်လုံးတွေလည်း ရှိသည်။ တချို့က တိုက်ဆောက်ပေးပါရစေ၊ အပေါ်ထပ် ဦးကြာရိုးတို့နေပေါ့။ အောက်ထပ် ကျွန်မတို့ ယူမယ်။ စာချုပ်စာတမ်းနဲ့ပေါ့ ဆိုတာမျိုးလည်း ကြားလာရသည်။ ငွေလုံးငွေရင်းကလေးပါတော့ မယင်းတော်က မိန်းမသားပီပီ နဲ့ချင်သည်။ ကိုကြာရိုးကတော့ လက်မခံ။

"ငါ အေးအေးဆေးဆေး နေစမ်းပါရစေ ယင်းတော်ရာ"

သည်လောက် ပြောလိုက်ခြင်းသည်ပင် များလှပြီ။ သည့်နောက်ပိုင်း ကိုကြာရိုးတို့ ဝိုင်းကလေးမှာ သစ်သားတံခါးရွဲ့ရွဲ့ကြီး ပိတ်ထားတာ များသည်။ ခါတိုင်း ဝါးလုံးတန်းပစ်ထားသော ခြံစည်းရိုးကိုဖျက်ကာ ဝါးထရံအပိတ်ကာပစ်လိုက်သည်။ ဝါးထရံနှင့် သစ်သားပိတ်တံခါးကို ကျော်ကာဝင်လာနေသည့် သဲကား၊ အုတ်ကား၊ သစ်ကား၊ ထော်လာဂျီကားကအစ သစ်ဆွဲ ကျွဲလှည်း၊ နွားလှည်း၊ လူသံ၊ ကားသံ၊ ဟွန်းသံလောက်ကိုတော့ သူ ခံနိုင်သည်မဟုတ်သော်လည်း သူ တတ်နိုင်တာမဟုတ်။ အရွယ်လို ရောက်ပြီဆိုကတည်းက မိန်းမတစ်ယောက်၊ မြင်းတစ်ကောင်၊ တစ်ခါတစ်ခါ နွေးနှစ်ကောင်နှင့်သာ သူ့ဘဝ ပြီးခဲ့ရသည်။ မြင်းလှည်းသမားပီပီ

လမ်းပေါ်မှာ လမ်း၏ ဘာသာစကားနှင့် အတန်အသင့် နေခဲ့သည်ဆို သော်လည်း အိမ်ပြန်ရောက်သည်နှင့် သူ၏ ကိုယ်၊ စိတ်၊ နား၊ လျှာ အားလုံးကို အနားပေးလိုက်သည်ချည်း ဖြစ်၏။ ရှေးအခါက မြို့၏အသံ ဆယ်ပါးတွင် ဆင်သံ၊ မြင်းသံ၊ ရထားသံ၊ စည်ကြီးသံ၊ မုရိုးစည်သံ၊ စောင်းငြင်းသံ၊ သီချင်းသံ၊ ခရုသင်း၊ ပလွေခရာသံ၊ ကြေးနင်းခွက်ခွင်းသံ၊ စားကြပါ သောက်ကြပါခေါ်သံဟူ၍ ရှိခဲ့ကြောင်း ပွဲထဲက ရွှေပြည်ဝန်တို့ ပြောတာ မှတ်ခဲ့ဖူးသည်။ အနောက်ပိုင်း သူတို့ရပ်ကွက်ကလေးမှာ ကြား နေရသည့် အသံတွေကတော့ ဒါတွေ မဟုတ်တော့ပါလား။ ဤအရပ်၌ ပြုပြင်စီရင်မှုမကင်းသော တရားဖြစ်သည့် သခ်တ တရားသည် ရောက် လာခဲ့ပြီ။ အကြောင်းပြုပြင် စီရင်အပ်သော သင်္ခါရတရားသည် ကပ်ငြိခဲ့ ပြီ။

သည်ရပ်ကွက်ထဲက ကိုကြာရိုး၏ ဝိုင်းကွက်ကလေးဆီမှာ ပထမဆုံး ရောက်လာသည့်ဆိုင်မှာ အကင်ဆိုင်ဖြစ်၍ ဒုတိယ ရောက်လာ သည့်ဆိုင်မှာ ဘီလိယက်ခုံဖြစ်ကာ တတိယ ရောက်လာသည်မှာ ကားဂိတ် ဖြစ်ပြီးလျှင် ဆံပင်ညှပ်ဆိုင်ကြီး၊ လက်ဖက်ရည်ဆိုင်ကြီး၊ ကာရာအိုကေ နှင့် တည်းခိုခန်းတို့သည် အသီးသီး ရှေ့နောက်စဉ်ကာ ရောက်ရှိလာကြ လေသည်။ ညနေဘက်တိုင်ပြီဆိုလျှင် မီးသွေးပေါက် တဖျောင်းဖျောင်း ညှော်ကြီးနံ့ တထောင်းထောင်းဖြင့် ရပ်ကွက်ကို ငန်းမန်းကြီးလိုက်အောင် အညှော်တိုက်လေတော့သည်။ ဘီလိယက်ခုံဆီမှ ဟေးခနဲ ဝါးခနဲ အော် သံကြီးသည်လည်း ကိုယ်၌ မသာယာခြင်းဒုက္ခ၊ စိတ်၌ မသာယာခြင်း ဒေါမနဿတို့ ကပ်ငြိပျက် ကိုကြာရိုး၏ မြင်းဇောင်းကိုကျော်ကာ ရှေ့ သုတ် ထရံကိုဖြတ်လျက် ဝင်ရောက်လေသည်။ ကားဂိတ်ဆီက မိုးလင်း မိ ထပွက်လိုက်သော လှသံသူသံ အျူးသည်မတကာတို့၏ အသံတို့သည်

လောဘတစ်ခု အိတ်တစ်ခုကြောင့် သူ့ထက်ငါကော ပြောချင်တိုင်း ပြော ကြလေရာ တရားမဲ့ချင်တိုင်း မဲ့နေတော့သည်။

အဆိုးဆုံးကတော့ ဈေးချိုကို တိုက်ရိုက်ခရီးပေါက်သော ကားဂိ ကြောင့် ကိုကြာရိုး၏ ဈေးချိုလိုက် မြင်းယာဉ်ဖောက်သည်များ ပါသွား ခြင်းဖြစ်လေရာ ဘေးနှစ်ဆယ့်ငါးပါး၌ မကောင်းသောအဖြစ်သို့ ရောက် သောဘေးနှင့် ဥစ္စာပျက်စီးခြင်း ဘေးနှစ်ပါးသည် သူ့ပခုံးပေါ်သို့ ကျ နနခွမိခြင်း ဖြစ်လေသည်။ ထိုအခါ ကြိမ်ခက်ဘောင်းကန်၊ ဖျဉ်းအိုးတ ကို၊ ပြောင်းပြန်ဦးစောက်၊ သွန်ဘိမှောက်သကဲ့သို့ လူရောမြင်းပါ ဈေး ထိုးကြီး ကျလေသည်။ ဟောင်စာဆိုဆိုင်သို့ ဝင်ထွက်သွားမြဲ စက်ယာ တို့သည်လည်း 'တလုံလလဲ' ထွက်စည့် ဝင်စည် မတီးရုံတစ်မည်သာ လေသည်။ ကာရာအိုကေကတော့ အဆိုးဆုံးဖြစ်၏။ ရပ်ကွက်တွင်းရှိသ အသံမျိုးစုံတို့၏ဘေးမှ ဥပါယ်ငါးပါးဖြစ်သော မန္တရား၊ မန္တာန် မန်းမှုတ ၍လည်း မလွတ်။ ပညာရှိနှင့်တိုင်ပင်၍ တစ်ခုသောအကြောင်း ဖြင့်လည် မရှောင်နိုင်။ ချစ်ဖွယ်သော စကားကို ဆိုခြင်းဖြင့်လည်း မကင်းနိုင်။ ဥစ္စာ ပစ္စည်းပေး၍ လွတ်အောင်ပြုသော်လည်း မပနိုင်။ အမျိုးအဆွေ တော်စပ် ကြောင်း ပြော၍လည်း မတိမ်းနိုင်လေရကား ဘီလူးရန်မွေ၊ ဥပဒ္ဒေလည်း ကြိမ်းထွေသံပ ကြက်သီးများသာ ထရလေသည်။ လက်ဖက်ရည်ဆိုင်မှ တအာန်းအုန်းထသော အင်္ဂလိပ်ဘင်သံသည် လည်းကောင်း၊ ဘောလုံးပွဲရှိ ဆီမှ ပွင့်ထွက်လာသော ကုလားဖြူဘောလုံးသမားတို့၏ အမည်နာမတို့ကို တမ်းရော်ခေါ်သံတို့သည် လည်းကောင်း၊ အာလမ္ဗရ နှစ်ဖက်ပိတ်စည်ကို တီးသကဲ့သို့ ကြီးစွာသော လိုဏ်သံကိုပြုပြန်၏။ တည်းနိုစန်း ရောက်လာ သည့်အတွက် ရှေးရှေးက မမြင်ဖူးသော အစိမ်းအကျက် လူယောက်ျား လူမိန်းမတို့လည်း ဆယ့်နှစ်မှုမင်းတိုင်းမှ လွတ်ချင်တိုင်း လွတ်နေလေ သည်။ အိမ်ဟောင်းဖြိုသံ၊ ပွတ်စက်၊ သံစက်၊ တွင်စက်၊ ရွှေဘော်စက်တို့

ေါ် ယန္တရားအော်သံတို့သည်လည်း မနက်ခင်း၏ ကျက်သရေ ဖြစ်ခဲ့ပြီ။ ဆီစက်ကြီးငယ်တို့၏ အသံမျိုး စုနစ်ပါးကတော့ ညာ၏ဂ္ဂလ္လာဓမ္မ။ စည်ကား သောသော ရပ်ကွက်ကို အကြောင်းပြု၍ အသစ်အသစ် ရောက်လာကြကုန် သော 'အသည်'၊ 'ဝင်နေကမ္ဘား' တို့သည်လည်း ဤအရပ်၌ 'သတောင်း သည်' ကြလေ၏။ ကိုကြာရိုး၏ မွှာရုံနှင့်တူသော အိမ်ကလေးပတ်လည် မှာ အပြိုင်အရိုင်း ထလာသည့် တိုက်ခံ၊ ပျဉ်ခံ၊ တိုက်လုံး၊ တိုက်မတို့ သည်လည်း ထိုအိမ်ကလေးထက် မြင့်မားကြသည့်အားလျော်စွာ အသံဗလံ အနှံ့သည် အပေါ်မှအောက်သို့ မြားမိုးကြီးရွာသကဲ့သို့ အခြားအလပ်မရှိ စိမ်စိပ်ကြီးကျလေသည်။ သုက္ခာသန်မည်သော မိုးရွာနေခိုက်မှာပင် မီး တောက်မီးလျှံ ထွက်၍ ပစ်လိုက်သည့် မိုးကြိုးကဲ့သို့ ဘယ်ဆီက ဘာမှန်း သိရသော ဂျက်ဂျက် ဂျုန်းဂျုန်း မြည်သံများကလည်း ကြောက်စရာ။

တစ်မနက်မှာတော့ ကိုကြာရိုး မြင်းလှည်းမထွက်ဘဲ မယင်းတော် အိပ်ရာက အနိုးကို စောင့်သည်။ သူ့ဘဝ၌ ပထမဦးဆုံးအကြိမ် ထွက် ထူလာသော စကားများဖြင့် မယင်းတော်ကို နှားချသည်။

"မယင်းတော်ရေ မင်းနဲ့ ငါလည်း သည်အရပ်နဲ့ မတော်တော့ သလို တို့အိမ်ကလေးကလည်း သည်အရပ်နဲ့ မလျော်ညီတော့ဘူး ထင်ပါ ရဲ့။ စဉ်းစားကြည့်ပြန်တော့ သည်အိမ်ကလေးဟာ မင်းအိမ်လည်း မဟုတ် ဘူး၊ ငါလုံ့လနဲ့ ဆောက်ခဲ့တာလည်း မဟုတ်ဘူး၊ ပြောကြစို့ဆိုရင် ငါ့ ထထမမယားရဲ့ အိမ်ထောင် မဟုတ်ပေဘူး၊ မိဘဘိုးဘွားများ ထားခဲ့တဲ့ အိမ်ပဲ၊ သို့သော်လည်း သည်အိမ်မှာ တေို့ဆက်နေရင် ဖရုဿဝေဒနာ ဦးခေါင်းခဲတဲ့ ဝေဒနာ၊ ဟာနိ စည်းစိမ်ဆုတ်ယုတ်ပျက်စီးတဲ့ ဝေဒနာ၊ သရီရဘေဒ ကိုယ်အင်္ဂါ ပျက်စီးတဲ့ ဝေဒနာ၊ ကရဏာဗာဓ ဆေးကုလို့ မရတဲ့ ဝေဒနာတွေ အကျကြီးကျတော့မယ်။ သည်ကမှ စိတ္တကွေပခေါ်တဲ့ ရူးသွပ်ခြင်းကို ရောက်ကြဖို့ ရှိတော့တယ်။ ဒဏ်ဆယ်ပါးမှ ဒဏ်ငါးပါး

မြိုက်မြိုက်ကြီး ဆိုက်နေပြီကောကွဲ။ အိမ်ကလေးကို မရောင်းဘဲ အငှား နဲ့ ထားကြစို့ရဲ့။ ငါလည်း မြင်းနဲ့ လှည်းဖြုတ်ပြီး အိမ်ငှားခကလေးနဲ့ ဘ၀၀မ်း ကျောင်းတော့မယ်။ ဟိုမြစ်စောင်းမှာ တဲကလေးထိုးပြီး စိတ်၏ ချမ်းသာခြင်း၊ ကိုယ်၏ ချမ်းသာခြင်း၊ နား၏ ချမ်းသာခြင်း ရှာကြစို့။ ကိုင်း… ဘယ်နှယ်တုံး”

မယင်းတော်ကတော့ ဝိပ္ပတိတရား လေးပါး၊ ဗျသနတရား ငါး ပါးတို့မှ အခါခပ်သိမ်း ကင်းလွတ်ငြိမ်းလေပြီဆိုသည့်လေသံဖြင့် “အင်း…” တစ်လုံးချလေသည်။ ကိုကြာရိုး၏ ပထမမယားက ရသောအမွေဖြစ်သည့် အိမ်ကလေးရှေ့မှာ ‘ငှားရန်’ ဟု မြေဖြူဖြင့် ရေးလိုက်သည့်မနက်မှာပဲ အသံချဲ့စက် ကက်ဆက်ပြင်ဆိုင် ဖွင့်ချင်သူက ကြိုက်ဈေးပေးကာ ငှား လေသည်။

မြစ်စောင်းရေဆိပ်က သောင်ပြန့်မှာ ကိုကြာရိုးတို့လင်မယား နေ ထိုင်ကြ၏။ တစ်ခါတစ်ခါ လခွဲတစ်ကြိမ်ဆိုသလို သူတို့အိမ်ကလေးကို လွမ်းသည့်အခါ ညကြီးသန်းခေါင်ကျော် လူခြေတိတ်မှ ဖြုတ်ခနဲ လာ ကြည့်ကြကာ အလွမ်းဖြေကြသည်လည်း ရှိ၏။ ရေနံရည်ဝအိမ်ကလေး ကတော့ ရပ်ကွက်အလယ်မှာ ခုနစ်ပြည်ထောင်မင်းတို့၏ ဘီသိက်ပွဲသဘင် အခမ်းအနား၌ ငုတ်တုတ်ကြီး ထိုင်နေသော ကျေးတောသားကဲ့သို့ မဲ့ မရဲ ရှိလေသည်။



## အိမ်ကလေး ၉

သည်အိမ်ကို လူတွေက မြွေအိမ်ဟု ခေါ်ကြကတည်းက ကျွန်တော် စိတ်ဝင်စားမိပါသည်။ ဘယ်လိုကြောင့် မြွေအိမ်ဖြစ်ရတာလဲ။ သည်ရပ်ကွက် ကလေးကို ကျွန်တော်တို့ ရောက်သွားကတည်းက သည်အိမ် အကြောင်းကို ကြားရသော်လည်း ကနဦးကတော့ ကျွန်တော်တို့ကိုယ်တိုင် စိတ်မဝင်စားခဲ့။ အိမ်က ကျွန်တော်တို့အိမ်ခြံကလေးနှင့် မနီးမဝေးမှာ ရှိသည်။ ပေလေးဆယ်ခြောက်ဆယ် ကိုယ့်ခြံကိုယ့်ဝင်းနှင့် နေကြသော်လည်း ခြံစည်းရိုးရယ်လို့ ရှိကြသည် မဟုတ်တော့ သူ့အိမ် ကိုယ့်အိမ် ထင်းထင်းကြီး မြင်ရလေ့ရှိသည်။ မြွေအိမ်က ခေါင်းသုံးလုံးဆက်အိမ် ဖြစ်သည်။ အိမ်မကြီးက တစ်ခေါင်၊ အိမ်မကြီးကို ဆက်ထားသည့် အိမ်ရှေ့ဆောင်ကလေးက တစ်ခေါင်ဆိုတော့ မြင်ရိုးမြင်စဉ် ခေါင်နှစ်လုံးအိမ် ဆိုနိုင်သော်လည်း အိမ်ရှေ့ဆောင်ကို ထပ်ချဲ့ကာ အဆောင်ကလေး ထပ်လုပ်လိုက်တော့ ခေါင်သုံးလုံး ဖြစ်ရတော့သည်။ မြွေအိမ်လို့ မခေါ်ချင်သူတွေက ခေါင်သုံးလုံးအိမ်လို့လည်း ခေါ်ကြလေသည်။

"ဆရာတို့ ခေါင်သုံးလုံးအိမ်ကို သတိသာထားတော့၊ မြွေတွေ မွေးတဲ့အိမ်ခင်ဗျ၊ ဘာပဲဖြစ်ဖြစ် ဆရာတို့အိမ်ဘက်လည်း ရောက်လာနိုင် တာပဲ မဟုတ်လား၊ ညရေးညတာ ခြေခင်းလက်ခင်းတော့ ဂရုစိုက်စေ ချင်တယ်"

ရပ်ကွက်စုမှူးက တစ်ရက် အလျှုံခံရောက်လာရင်းက သတိပေး သည်။ ဘယ်လိုပဲဖြစ်ဖြစ် မြွေကိုတော့ ကျွန်တော် ကြောက်သည်။ မြက် လျှောလို အဆိပ်မရှိသည့် မြွေကလေးပေမယ့် ကျွန်တော့်မှာ ရင်တုန်ပန်း တုန် ဖြစ်နေတတ်လေရာ ကျွန်တော်တို့အိမ်ဘက် ရောက်လာနိုင်သည် ဆိုတော့ ဘာပဲဖြစ်ဖြစ် တစ်စုံတစ်ရာ မလုံခြုံသလို ခံစားနေရသည်။

"ဘာမြွေတွေလဲ ဆရာပေါရဲ့၊ မြွေတွေကို မွေးထားလို့ ရလို့လား ရတယ်ထားပါဦး၊ ရပ်ကွက်အန္တရာယ်ရှိနေတဲ့ကိစ္စ ဆရာတို့က မတားမြစ် ဘူးလား"

ကျွန်တော်က သိချင်နေသည့် မေးခွန်းသုံးခွန်းကို တစ်ပါတည်း မေးလိုက်သည့်အခါ ရပ်ကွက်စုမှူးဦးပေါလွှကကျွန်တော့် စိတ်ဝင်စား ကိုပင် သဘောကျသွားပုံ ပေါ်လေသည်။ သူကိုယ်တိုင်က မျက်လုံးသေး သေးကလေးတွေ ပြူးနေအောင် ကြည့်နေကာ လူပုံက မလွန့်တလွန့်ဆို တော့ မြွေတစ်ကောင်များ ဖြစ်နေသလား အကဲခတ်ရသေးသည်။ ဦးပေါ လွှက ကွမ်းဖတ်ကို ဗျစ်ခနဲ ထွေးချရင်းက မြွေအိမ်ဘက် လှမ်းကြည့်ရင်း ပြောလေသည်။

"သည်လို ဆရာရဲ့၊ မြွေကတော့ မြွေစုံပဲ၊ ငန်းတော်ကျားလည်း ပါရဲ့၊ သံကွင်းစွပ်လည်းရှိရဲ့၊ လင်းမြွေကချည်း ငါးကောင်လားရှိတယ် မြွေပြဒါးက နှစ်ကောင်၊ မြွေစိမ်းမြီးခြောက်က လေးကောင်၊ မြွေပတုံ့အ တစ်ကောင်ဆိုလား"

ရပ်ကွက်စုမှူး ဦးပေါလွှက ရပ်ကွက်တာဝန်ရှိသူ ပီသသည်

ရပ်ကွက်တွင်းနေ လူဦးရေစာရင်းသာမက မြေစာရင်းပါ တိတိကျကျ ပြောနိုင်သူ ဖြစ်သည်။ ကျွန်တော်က မြေစာရင်း ဘယ်ကရသလဲဆိုတော့ ကာယကံရှင်တွေကို မေးထားရတာပေါ့ ဆရာရဲ့ဟု ဆိုလေသည်။ ဦးပေါလု ပြောစကားအရဆိုလျှင် သည်ခြံမှာ ရှေးက ဟိန္ဒူလူမျိုး မြေအလမ္ပာယ်ဆရာကြီးတစ်ယောက် နေခဲ့ဖူးသည်ဟု ဆိုသည်။ မြေအလမ္ပာယ်ဆရာကြီးက အလမ္ပာယ် ပြစားသည်မဟုတ်သော်လည်း မနက်တိုင်း ဂါထာမန္တန်များရွတ်ကာ မြေတွေကိုခေါ်ယူပြီး နွားနို့နှင့် ငှက်ပျောသီးရောကာ နယ်ထားသော အာဟာရကို သောက်သုံးစေသည်ဟု ဆိုလေသည်။ သည်ဆရာကြီး နေထိုင်စဉ်က သည်နေရာမှာ ရပ်ကွက်ဟူ၍ပင် မရှိခဲ့သေးဘဲ လယ်ကွင်းစပ်က အိမ်တစ်လုံးအဖြစ်သာ ရှိခဲ့သည်ဟု ဆိုသည်။ နောင် မြို့သစ်အဖြစ် နေရာကွက်များ ချထားသည့်အခါ သည်နေရာကို ပထမဆုံး ရခဲ့သူမှာ လက်သမား ဆရာလင်မယားဖြစ်သည်။ သည်လင်မယားကတစ်ဆင့် ဆရာဝန်လင်မယား၊ ဆရာဝန်လင်မယားကတစ်ဆင့် ရှေ့နေလင်မယား၊ ရှေ့နေလင်မယားကတစ်ဆင့် အခု လက်ရှိနေထိုင်ကြသူ ခေါင်သုံးလုံးလင်မယားလက်ထဲ ရောက်လာသည် ဆိုလေသည်။

"ဆရာပေါက သေချာလို့ရှည်လား"

"ငယ်စာရင်းလိုက်ထားတာကိုး ဆရာရဲ့၊ စောစောက ဆရာမေးတဲ့ မေးခွန်းမယ် မြေတွေကို မွေးလို့ရသလားဆိုတာကို ဖြေရရင် ကုလားအဘိုးကြီးနေခဲ့တုန်းကတော့ မြေတွေကို ခေါ်တယ်။ အစာကျွေးတယ်ဆိုတာကို အရင် သည်နေရာမှာ လယ်ကွင်းတွေ ရှိနေတုန်းက နေခဲ့ဖူးတဲ့ လယ်သမား ဦးသာရှင်း ပြောဖူးတာသာ ကြားဖူးတာ၊ ဘယ်သူမှတော့ မမြင်ဖူးဘူး၊ သည့်နောက်လည်း မြွေသံမကြားရဘူး၊ အခု လင်မယားလက်ထက်ကျတော့မှ မြွေသံ ပြန်ကြားရပြန်တာ ခင်ဗျ"

သည်အိမ်က ကျွန်တော်တို့အိမ်ရှေ့ လမ်းတိုကလေး၏ မြောက်

ဘက်ဆုံး အစွန်မှာရှိသည်။ သည်ခြံ၏တစ်ဖက်မှာတော့ လယ်မစိုက်တော့
သော်လည်း လယ်ကွင်းဟောင်း ဖျိုက်တောကြီးနှင့် ဆက်နေသဖြင့် ပတ်ဝန်း
ကျင် လူသူလေးပါးနှင့် ကင်းကွာသလို ဖြစ်နေသည်။ ခေါင်သုံးလုံးဆောင်
အိမ် ဖြစ်သော်လည်း အိမ်က ကြီးလှသည်တော့ မဟုတ်။ ဝါးထရံအိမ်
နှစ်ထပ်။ ရေနံချေးတွေက အိမ်ဆောက်စက လက်ကျန်တွေ ဖြစ်နိုင်သည်။
ခြောက်သည့်နေရာ ခြောက်၊ အရောင်ကျန်သည့်နေရာက ကျန်ဆိုတော့
သနပ်ခါးပိန်းကျားမှာ ချွေးစီးကြောင်းတွေ ရှိနေတာနှင့် တူသည်။ ပန်း
ဆွဲပြားတွေက ပြုတ်ကျသည့်နေရာက ပြုတ်ကျနေသည်။ ပြတင်းဇလီတွေ
က သစ်သားကြမ်းဆိုတော့ လေဒဏ်၊ နေဒဏ်၊ မိုးဒဏ်တွေကို တစ်ချိန်
က ကြံ့ကြံ့ခံနိုင်ခဲ့ပုံ ရသော်လည်း အခုတော့ ရွဲ့တာကရွဲ့၊ စောင်းတာက
စောင်း။ အချို့ ပြတင်းမှာတော့ ထရံကပ်ဇလီတွေ မရှိတော့ အစတွေ
ထိုးထိုးထောင်ထောင် ဖြစ်နေတာကလည်း အကျည်းတန်လှသည်။ အိမ်
အပေါ်ထပ်ကို ဆောင်မကြီးအတွင်းဘက် ဧည့်ခန်းလို နေရာဖြစ်သည်
အတွင်းထဲမှ တပ်ထားသည့် လှေကားက တက်နိုင်သည်။ လှေကား
ကလည်း ခရီးခရိုင်။ အသားတွေက မမှန်တော့ အစိုဓာတ်ကလေးရှိတုန်း
ကတော့ သပ်သပ်ကျပ်ကျပ် ရှိခဲ့ပုံရသော်ငြား အသားတွေ ခြောက်သွား
တော့ စရွေးတွေချောင်ကာ 'အသာရပ္ပ' သဘော ဆောင်နေလေသည်။
လှေကားများတွင် ပါတတ်သည့် 'အတင်သုံးမျိုး' ဖြစ်သော အရုပ်တင်၊
အပြောက်တင်၊ သင်းကြောတင်ဟူ၍ မရှိ။ ပကတိ ပြောင်ရှင်းကြီး ဖြစ်
သည်။ တံခါးပေါက်များ၏ အပေါ်ဘက်ထောင့်များ၊ တန်းနှင့် တိုင်တို့
ဆုံရာတို့တွင် ဖြစ်ပေါ်လာသော ထောင့်များတွင် ထောင့်သားမပေါ်အောင်
ဖြေသည့် ပုစွန်တုပ်ကွေး၊ လင်းနို့တောင်နှင့် သရက်ကင်းမည်သော အရွေး
သုံးမျိုးကိုလည်း မမြင်ရ၊ ဖွယ်ဖွယ်ရာရာ ထွေထွေထူးထူး မရှိဘဲ ရှေး
ပေါပေါ လက်သမားနှင့် ဆောက်ထားခဲ့ပုံရသည်။ အိမ်နောက်ဆောင်ကို

နှစ်ထပ်တင်သည့် အိမ်ပုဆစ်တုပ်မျိုး မဟုတ်ဘဲ နောက်ဖေးဆောင်ကတော့ ခိုးအဖီကလေး ထုတ်ထားကာ မှိုင်းချေးတွေ ဝနေလေသည်။

သည်အိမ်က အိမ်ရှင်လင်မယားမှာ ကျွန်တော်တို့ မိသားစုနှင့် ခင်မင်လာသည့်အခါ နှစ်အိမ်တစ်အိမ် အရောက်အပေါက်ရှိရာက ကျွန်တော် ခွင်ရသလောက် ရေးပြရခြင်း ဖြစ်သည်။ အိမ်ရှင်လင်မယားက အသက် အရွယ် ကြီးရင့်လှပြီလို့တော့ မဆိုသာ။ လေးဆယ်ဝန်းကျင်လောက် ရှိ ကြမည်ဖြစ်သော်လည်း မယားဖြစ်သူ မအိမ်ကောင်းကတော့ လင်ဖြစ်သူ ကိုအောင်ကျော်ဇံထက် လေးငါးနှစ်ငယ်ပုံ ရလေသည်။ ကိုအောင်ကျော်ဇံ က ရခိုင်အမျိုးသား ဖြစ်သည်။ အသားမဖြူမလျော်၊ အရပ်အနေ ထောင် ထောင်မောင်းမောင်းထဲက ဖြစ်သည်။ မအိမ်ကောင်းကတော့ အသားဖြူ ဖြူ၊ ရုပ်ရည်ကလေး သနရုပ္ပရှိသည်။ ထူးဆန်းတာက ဥတုသုံးပါးမရွေး အမြဲ့ထည် မချွတ်ဘဲ ရောဂါစုံကို ကန်ထရိုက်ဆွဲထားခြင်း ဖြစ်သည်။

"ဆရာကြီး အကိုက်အခဲပျောက်ဆေးကလေး ဘာလေး မရှိဘူး လား၊ အကြောတွေ တက်လွန်းလို့ ကျွန်မဖြင့် ညက ဦးနှောက်ကြောပါ ပြတ်ပြီမှတ်တာ၊ တစ်ကိုယ်လုံးလည်း တဖျင်းဖျင်းနဲ့..."

အိမ်မှာရှိသမျှ ဆေးတွေအားလုံးကို ရောဂါအမည်တပ်ကာ တစ် နေ့တစ်မျိုး လာလာတောင်းတတ်သည်။ တစ်ခါက သွားဖုံးခြေနှင့် လျှာ အာက်တွေမှာ အဖုတွေ ပေါက်လာသဖြင့် ဆရာဝန်က ညွှန်သော မက်ဒီ ဆလော့စ်ဖိုကက်ဗ်ဆေးကတ်ကို စားပွဲပေါ်မှာ တွေ့သွားရာ ဒါ ဘာဆေး တွလဲ ဆရာကြီးလို့ အမှတ်တမဲ့ မေးသည်။ ကျွန်တော်က ရောဂါကို ပြောပြလိုက်တော့ မအိမ်ကောင်း ပြုံးလေသည်။

"အလိုက်သင့်လိုက်တာ ဆရာကြီးရယ်၊ ကျွန်မ အာခေါင်တွေမှာ လည်း သဘော်သီးခြစ်တဲ့ စိန်ခလုတ်သာ ကြည့်တော့၊ ညက တစ်ညလုံး အိပ်ရဘူး၊ ဆရာကြီးရယ် နှစ်လုံးလောက်တော့ စားကြည့်စမ်းပါရစေ"

ကျွန်တော့်မှာ မနေသာတော့ ဆေးနှစ်လုံးပေးလိုက်ရသည်။ လင်ဖြစ်သူ ကိုအောင်ကျော်ဇံကတော့ စာသမား။ ကျွန်တော့်အိမ်က စာအုပ်တွေ လာငှားတတ်သည်။ ကျွန်တော်က ဝတ္ထုတွေ မထားဘူးဗျဆိုတော့ ဆရာဖတ်တာတွေ ကျွန်တော် ကြိုက်တယ်ဟု ဆိုလေသည်။ ဤသို့အားဖြင့် စာအုပ်အားဖြင့်လည်းကောင်း၊ ဆေးအားဖြင့်လည်းကောင်း၊ ကျွန်တော်တို့ အိမ်ကို အကူးအလူးရှိသော်လည်း မြွေနှင့်ပတ်သက်၍ ကျွန်တော့်မှာ အမေးရ ခက်နေခဲ့သည်။ တစ်ရက်တော့ မအိမ်ကောင်းမရှိခင် ကိုအောင်ကျော်ဇံကို ကျွန်တော်မေးကြည့်ဖြစ်သည်။ တိုက်ရိုက်မေးလို့လည်း မကောင်းတော့ ရိုးရိုးရိပ်ရိပ် စကားစရသည်။

"မြွေတွေ အရေခွံလဲတဲ့အစတွေ လမ်းမှာတွေ့လို့ လန့်သွားရသေးတယ်ဗျာ၊ ခင်ဗျားကတော့ မြွေတွေ ဘာတွေ ကြောက်ပုံမရဘူးထင်တယ်"

"ဟာ… ကြောက်ပြီလား ဆရာရဲ့၊ ဆရာ သတိမထားမိလို့ဗျ၊ ကျွန်တော်တို့ အိမ်ပတ်ဝန်းကျင်မှာ သုံးလေးခု အမြဲရှိတယ်၊ ကျွန်တော့်မိန်းမကတော့ ဒါတွေတွေ့ရင် ကောက်သိမ်းတာပဲ၊ ကြွပ်ကြွပ်အိတ်နဲ့ ထုပ်ထားတာ မနည်းတော့ဘူး"

ထိုနေ့က မြွေအကြောင်း စကားရောက်တုန်း ကျွန်တော် သိချင်တာ မေးရသည်။ ကိုအောင်ကျော်ဇံက အသက်နှစ်ဆယ်လောက်ကတည်းက ရခိုင်ပြည်နယ်ဘက်မှ မန္တလေးရောက်လာသူ ဖြစ်သည်။ ရောက်ရောက်ချင်း ဘုန်းကြီးကျောင်း တစ်ကျောင်းမှာတည်းကာ ကြုံရာကျရာ လုပ်ကိုင် စားသောက်ခဲ့သည်ဆို၏။ နောက်တော့ ပဲပွဲရုံတစ်ရုံမှာ အလုပ်ရကာ ပဲအိတ်တွေ ကားပေါ်တင်ပေးရသည်။ ပွဲရုံပိုင်ရှင်က ရိုးသားမှန်းသိတော့ ဂရိ မှတ် စာရေးတာဝန်ကို ယုံယုံကြည်ကြည်ပေးသည် ဆိုလေ၏။ 'ဂရိ' ဆိုသည်က ပဲအိတ် အသွင်းအထုတ်မှတ်သည့် ဂရိချောင်း၊ ဂရိတုတ်တံ ဖြစ်သည်။ ဂရိမှားလျှင် ပဲအိတ်တစ်အိတ် ဆုံးရှုံးနိုင်တော့ စာရိတ္တ ရော လုပ်ရည်ကိုင်ရည်ပါ သေချာစိတ်ချရသူကိုမှ ခန့်လေ့ရှိသည်။

"ဂရိ စာရေးကနေ ကျွန်တော် လုပ်တာကိုင်တာ ယုံကြည်လာတာနဲ့ ဘုန်းကြီးကျောင်း မနေနဲ့တော့ကွာ၊ ပွဲရုံမှာပဲစား၊ ပွဲရုံမှာပဲအိပ်တော့ဆိုတာနဲ့ ပွဲရုံရောက်လာကရော၊ အဲသည်မှာတင် ပွဲရုံပိုင်ရဲ့ တူမ မအိမ်ကောင်းနဲ့ အကြောင်းပါတာပဲ၊ မအိမ်ကောင်းအမေနဲ့ ပွဲရုံပိုင်နဲ့က မောင်နှမတော်ကြတယ်။ ပွဲရုံက လူတွေကတော့ ပြောတာပေါ့၊ အောင်ကျော်ဖုံက ဂရိ ချောင်းတင်မကဘူး၊ ဂရိ ထည့်တဲ့ ဝါးဆစ်ဘူးပါ မ သွားတာပါကောတဲ့"

အိမ်ထောင်ကျကာစ ပွဲရုံမှာနေခဲ့ကြသော်လည်း နောက်တော့ ပွဲရုံပိုင်က မအိမ်ကောင်းသားအမိနှင့် တပည့်ကို မြို့သစ်မှာ ဝယ်ပြီး ပစ်ထားသည့်အိမ်မှာ နေခွင့်ပြုခဲ့ကြရာက အခုတော့ သည်ခေါင်သုံးလုံးအိမ်မှာ နေခဲ့ကြတာကပင် ဆယ်နှစ်ကျော်ပြီဟု ဆို၏။ သည်အိမ်ကို ရောက်စတုန်းကတော့ အိမ်က သစ်လွင်သေးသည်။ မိန်းမလည်းရ၊ အိမ်တစ်ဆောင်လုံးလည်း အလကားနေခွင့် ရလိုက်သည့် တစ်ရွာတစ်ကျေးက ကိုရခိုင်အဖို့တော့ ရတနာပုံ ဆိုက်ရပြီ။ မနက်ဘက် စက်ဘီးကျောက်ဂျက်စီးကာ ပွဲရုံကိုပြေး၊ ယောက္ခမကြီးက အသက်ကလေးရပြီဆိုသော်လည်း ရာသီပေါ်သီးနှံတွေ ပွဲရုံကယူကာ ဈေးဝမှာ ဗန်းခင်းရောင်းသည်။ မြို့ထဲနှင့် မြို့သစ်နေ့စဉ် အသွားအပြန်ကားခ မသက်သာတော့ ဈေးမှာပဲရောင်းဖော်ရောင်းဖက်များနှင့် စပ်ကာဟပ်ကာ နေလိုက်တာများသည်။ ကိုရခိုင်အပြန် ဟင်းချက်စရာကလေး အစ၊ သားထုပ်ငါးထုပ်ကလေးအလယ် မြေးကလေးတွေဖို့ မုန့်ပဲသရေစာ အဆုံး ထည့်ပေးလိုက်တာမျိုး ကလွဲလျှင် အိမ်မပြန်တာများသည်။ မအိမ်ကောင်းကတော့ ထမင်းဟင်းချက်၊ ကလေးတွေကို စောင့်ရှောက်။ တစ်နေ့တော့ မအိမ်ကောင်း အိပ်မက်မက်သည်ဟု ဆိုသည်။ ကုလားအဘိုးကြီး တစ်ယောက်က ပိတ်မြူစင်ကြယ်ဝတ်ကာ အိမ်ဝမှာရပ်ရင်း မကြာခင်သည် မြေကွက်ထဲကို မြေတွေ

လာတော့မည်ဖြစ်ကြောင်း၊ မြွေတွေ့လျှင် မသတ်ဖို့လိုကြောင်း၊ မြွေတွေကို မေတ္တာပို့ အမျှဝေလျှင် စီးပွားတက်မှာဖြစ်ကြောင်း ပြောလာသည်ဆို၏။

"အိပ်မက်ထဲမှာ ကုလားကြီးက ဘာဘာသာနဲ့ ပြောတာလဲ"

"အဲဒါတော့ မသိဘူးဆရာရဲ့၊ မအိမ်ကောင်းပြောပြလို့ သိရတာ၊ တကယ်လည်း မြွေတွေ တွေ့ရတာပဲဗျို့"

ကိုရနိုင်ကြီးပြောတာကိုက ကြောက်စရာ။ ပထမတော့ မြွေတွေကို မပြဘဲ မြွေရေခွံစတွေ ဟိုနားတစ်ခု၊ သည်နားတစ်ခု တွေ့လာရသည်ဟု ဆိုသည်။ တကယ်တော့ မြွေတွေ အရေခွံလဲကြခြင်းသည် မြေပေါ်မှာ လူးလာလှုန့်ကာ ပွတ်မှုအားသုံးရသော သတ္တဝါတို့၏ ဖြစ်စဉ်သာဖြစ်သည်။ သဘာဝအရပဲ အရေခွံဟောင်းကို လဲလှယ်ဖို့ လိုအပ်စွာရှိရသော အခြေအနေသာ ဖြစ်သည်။ အရေခွံဟောင်း၏ အောက်ပိုင်းမှာ အရေခွံအသစ် လုံးဆေ့ပတ်ဆေ့ ဖြစ်တည်ပြီးသည်နှင့် အပေါ်အရေခွံကိုခွာချဖို့ သို့မဟုတ် ကွာကျဖို့ သဘာဝပဲ ဖန်တီးပေးသည်။ ထိုဖန်တီးချက်မှာ အရေခွံနှစ်ခုကြားမှာ ဆီတစ်မျိုး ထွက်လာခြင်းဖြစ်၍ ထိုဆီကြည်က မြွေ၏မျက်စိကို မှုန်ဝါးသွားစေသည်။ တစ်နည်းအားဖြင့် မြွေ၏ မျက်ကြည်လွှာကို နောက်ကျိသွားစေခြင်းဖြင့် မြွေကို ယာယီအားဖြင့် ကန်းသွားစေခြင်း ဖြစ်သည်။ သည်အခါမျိုးမှာ မြွေက အသက်ရှင် ရပ်တည်မှုအရ လုံခြုံမှုရှာရင်းက အထိအနိုက်များကြားမှာပဲ အပေါ်အရေခွံ ကွာကျသွားလေ့ရှိသည်။ သို့သော် မြွေအားလုံး တစ်ပြေးညီ အရေခွံ လဲကြသလားဆိုတာကတော့ စဉ်းစားစရာ ဖြစ်သည်။

သည်အိပ်မက်ရပြီးကတည်းက မအိမ်ကောင်းရော၊ တစ်ခါတရံ ဈေးက အလှမ်းပြေ ပြန်လာတတ်သော ယောက္ခမကြီးပါ မြွေတွေကို ကိုးကွယ်ရန် စီစဉ်ကြတော့သည်။ ညဘက်မှာ မြွေကျင်းလို့ ယူဆရသော

အိမ်နှင့် လယ်စပ်ကြားက သစ်ပင်ကြီးမှာ မီးထွန်းကြသည်။ တစ်ခါတရံ နို့ကို ခွက်နှင့်ထည့်ကာ ချထားတာမျိုး၊ ကြက်ဥတွေ အလုံးလိုက် မြက်ကြားထဲ ချထားတာမျိုးတွေ လုပ်လာကြသည်ဆို၏။

"မြွေအကောင်လိုက်ကော ခင်ဗျား တွေ့ဖူးသလား"

"တစ်ခါနှစ်ခါတော့ တွေ့ဖူးတယ် ဆရာရဲ့၊ ကျွန်တော်ကလည်း ညဘက်ဆို အောက်မဆင်းတော့ဘူး၊ ကလေးတွေကတော့ ကြောက်တာပေါ့ဗျာ၊ ဘယ့်နှယ်ပြောပါလိမ့်၊ အခုတော့ ကျွန်တော့်မိန်းမက အဆင့်တက်သွားပြီဗျ၊ သူက မြွေသိုက်နန်းက လာတာလို့တောင် ပြောတာတွေ ဖြစ်လာပြီ"



ဟုတ်သည် မဟုတ်သည် အပထား။ ခေါင်သုံးလုံးအိမ်ဘက်ကို အကူးအသန်း နည်းကြတာကို ကျွန်တော် သတိထားမိသည်။ ကလေးတွေက ခေါင်သုံးလုံးအိမ်ရှေ့က ကြီးမားလှသော ညောင်ပင်ရိပ်မှာပင် မကစားကြဘဲ ဝေးနိုင်သမျှ ရှောင်ကြတာလည်း ရှိသည်။ တစ်ခါတစ်ခါ မအိမ်ကောင်းတို့ သားအမိထံ မြွေဗေဒင်လာမေးသူတွေလည်း ရှိတတ်သည်။ မြွေဗေဒင်က မြက်မြက်ကလေး ရတတ်တော့ မအိမ်ကောင်းက မေးသူကို ရက်ချိန်းပေးပြီး ဈေးရောင်းထွက်နေသည့် မအေကို ပြေးခေါ်တတ်သည်။ မအိမ်ကောင်းက ဖြူဖြူစင်စင်ရှိသော်လည်း သူ့မအမေက ကြေးညှိတက်နေသည့် ကြေးပြားရောင်ပေါက်နေသည့် မည်းမည်းပိန်ပိန်ဖြစ်သည်။ တချို့ညတွေမှာ တစ်ယောက်တည်း နတ်ဝင်သည်ဆိုကာ ရသမျှ စာတွေ ရွတ်၊ သမက်ဖြစ်သူ ကိုရနိုင်ကို နတ်က ကြိမ်းသလို၊ မြွေက ကြိမ်းသလိုလိုနှင့် ပညာပေးတာများလည်း ရှိသည်။ ကလေးငါးယောက်သာ ရနေပြီ။ ဂရို့ချောင်းရေရသည့် ဘဝက မတက်တော့ သမက်တို့အကြောင်းဆိုက်တုန်း ဖိတွယ်တာလည်း ဖြစ်နိုင်သည်။ ကျွန်တော်တို့အိမ်ကပင် ကြားရတတ်သည်။

"သားတော်ကြီး စဉ်းစားစမ်း၊ အခုနေရတာက သူများအိမ်၊ ကိုယ့်ဦးကြီးဘကြီးအိမ်ဆိုပေမယ့် အခု ဆင်းကြစမ်းဆိုတော့ ကလေးငါးယောက်နဲ့ သားတော်ကြီး ဘယ်သွားနေမလဲ၊ အေး... ယောကျ်ားဆိုတာ မေးမလိုက်ရဘူးဟဲ့၊ ကိုယ့်သားမယားကို အိမ်တစ်ဆောင် မီးတစ်ပြောင် ထားနိုင်မှပေါ့ကွယ်၊ အိမ်လခတွေက သည်ခေတ်ကြီးပါဘိသနဲ့"

မြွေနတ်က အိမ်လခ ဈေးကြီးတာတွေ ပါ,ပါလာတော့ ကျွန်တော်တို့လူ ကိုရခိုင်က မယုံဟု ဆိုသည်။ ယောက္ခမ ကြိမ်းနေတာကိုတော့ လက်အုပ်ကလေးချီကာ မော့ရင်း ယုံသလိုလို လုပ်နေရသည်ဟု ဆိုသည်။ မြွေနတ်မေးသူတွေက မြွေအစာစားချိန် ညနေဘက်မှာ မေးတာများတော့ များသောအားဖြင့် ကိုရခိုင်ရှိနေတာ များသည်။ အုန်း၊ ငှက်ပျော၊ နွားနို့ လင်ပန်းကို တောစပ်သွားချရတာတွေ လုပ်ပေးရသည်ဆို၏။ ကြာတော့ သူ့ယောက္ခမ ကျက်ထားသည့်စာတွေ သူပါ အလွတ်ရသည်ဟု ဆိုလေသည်။



"သဇင်နွယ်၏ တောလုံးကြိုင်... နတ်တော်ပြာသို နပျိုပေါက်လဲ တပို့တွဲ ဆောင်းစဲနွေစပ်ဆိုတော့ မြွေသူတော်တို့ နေရတာ ပင်ပန်းသကွဲ့၊ ဥပမတ် ဦးခေါင်းရတနာ တောင်သို့လာ၊ မြောက်မှာအမြီး နေချိန်ကြီးဟဲ့...၊ ရှေ့လောကစာတ်ကျောကုန်းနေ၊ အနောက်တည့်တည့်ဝမ်းကိုလည်း၊ အပတ်ဆယ့်နှစ်ခွေ၊ ရှောင်လွဲအာခံတွင်း မဝင်လျင်းနဲ့ဟဲ့...၊ အမြီးက လျှောက် ခေါင်းကိုရောက်၊ ထုတ်ချောက်မသွားလေနဲ့ ဝမ်းကို မွေ၊ ကျောကဖောက်၊ လာဘ်သပ်ပကာ၊ မိုးလို့ရွာ၊ လိုရာပြီးမြောက်လိမ့်... နင်တို့ဟာက အခုတော့ ဝမ်းကို ကြွက်ဆုပ်၊ ကျောကြောင်ခုတ်၊ အလုပ်မဟုတ်တာတွေ ရှေ့က ခံနေပါကလား"

ကျွန်တော်တို့လူ ကိုရခိုင်ကြီး ဖြောင့်ချက်ပေးသလောက်တော့ မြွေနတ် လာမေးကြသူတွေကြောင့် ဝင်ငွေကလေး အဆင်ပြေလာတော့

သွားတော်လည်း ဈေးထွက်မရောင်းတော့ဟု ဆိုလေသည်။ ကလေးတွေသည်း နွားနို့ပေါ်ပေါ်သောက်၊ ငှက်ပျောသီး ဝဝစားရသည်ဟု ဆိုသည်။ သာကြသမျှသော မြွေနတ်မေးသူတွေကို မြွေလမ်းလွှဲဂါထာ၊ မြွေဆိပ်ချ ဝါမန်းဂါထာ၊ မြွေဆိပ်ချ သပြေခက်မန်းဂါထာ၊ မြွေဆိပ်ချ ရေမန်းဂါထာ၊ မြွေဆိပ်ချ ထုံးမန်းဂါထာ၊ မြွေဆိပ်ချ မန္တန် ရွတ်ရွတ်ပြပါများတော့ ကလေးတွေက တီဗွီကြော်ငြာသီချင်းလို သီချင်းလုပ်ဆိုနေကြပြီ။ ဉ၊ မြွေ မွေးမသာ၊ မြွေပြဒါး၊ နင့်အစွယ်ပြုံးပြုံး၊ ပြဒါးလုံး၊ နင့်အဆိပ်သန္တေ၊ ရေသို့ပြေ၊ ဆင်းဆရာဆင်း၊ သက်ဆရာသက်။ ကိုရရိုင့်မိန်းမ မအိမ်ကောင်းကတော့ အနေ့းထည်ကြီး ဖိုသီဖတ်သီ အဝတ်မပျက်။ ဆေးတောင်းပျက်သော်ငြား ကျွန်တော်တို့အိမ်ဘက် အလာကျဲသွားသည်။ ကိုရရိုင်သည်ပင် ဂရို့ချိုးရာက အပြန်ခါတိုင်းလို ရောက်မလာတာတွေ များလာသည်။ ခေါင်သုံးလုံး မြွေအိမ်ကြီးမှာ မြွေနတ် မေးသူတို့ စည်ပင်နေတော့ ကျွန်တော်သည်လည်း မကူးဝံ့တော့။

တစ်ရက်မှာတော့ မြွေအိမ်မှာ အိပ်ရာအောက် မြွေဝင်သည်ဆိုသည့်ပမာ လင်မယားစုံတွဲနှစ်တွဲ ရောက်လာခဲ့သည်။ ပထမတစ်တွဲမှာ ပဲပွဲရုံပိုင်ရှင်၏ သမီးလင်မယားဖြစ်၍ နောက်တစ်တွဲမှာလည်း ပဲပွဲရုံပိုင်ရှင်၏ သားလင်မယား ဖြစ်သည်။ သည်အိမ်က ပဲပွဲရုံပိုင်ရှင် ပိုင်သည်ဖြစ်လေရာ ပဲပွဲရုံပိုင်ရှင့်သမီးရော သားကပါ အဖေ့အိမ် အမေ့အိမ်ဆိုသည့်သဘောဖြင့် မင်းမူချင်တိုင်း မင်းမူကြလေသည်။ သမီးဖြစ်သူက လောလောလတ်လတ် အိမ်ထောင်ကျခါစဖြစ်၍ သားဖြစ်သူက အိမ်ထောင်ကျတာ ကြာပြီ။ သို့သော် နှမနှင့် ယောက်ဖတို့ လာနေသည်ကို အကြောင်းပြု၍ သားဖြစ်သူ လင်မယားကလည်း နေလက်စ မြို့ထဲကအိမ်ကိုငှားကာ အလကားနေခွင့်ရသော သည်အိမ်မှာ ရပိုင်ခွင့်အရ လာနေခြင်းဖြစ်သည်။ ဤသို့ဖြင့် ခေါင်သုံးလုံး အိမ်ကြီးမှာ ကျွန်တော်တို့လူ ကိုရရိုင်လင်မယား၊

ကိုရနိုင်၏ ယောက္ခမ၊ မအိမ်ကောင်း၏အမေ မြွေနတ်ကတော်နှင့် မြေး များသည်လည်းကောင်း၊ အိမ်ရှင်ဖြစ်သော ပွဲရုံပိုင်ရှင်၏ သမီးလင်မယား၊ သားလင်မယား နှစ်စုံတွဲသည်လည်းကောင်း၊ သည်မြေကွက်ထဲ၊ သည်အိမ်ထဲမှာပင် မြေတစ်ကျိပ်ကျော်နှင့်အတူ နေထိုင်ကြသလို ဖြစ်နေသည်။ နောက်ရောက်လာသော လင်မယားစုံတွဲ၏ မော်တော်ဆိုင်ကယ်သံ တဖွဲဖွဲသည်လည်းကောင်း၊ ထိုလင်မယားထံ လာရောက်ကြကုန်သော အမျိုးကောင်းသား၊ အမျိုးကောင်းသမီး ခွေးရွယ်ဆွဲ၊ နားသံသီးချိတ်၊ အရိုးခေါင်းစွပ်ကျယ်ဝတ်၊ သံလက်ကောက်ပတ်၊ ဆံပင်နီကြောင်ဆိုးတို့သည်လည်းကောင်း၊ သည်ခေါင်သုံးလုံး မြွေအိမ်ကြီးမှာ ဒါဘာမင်းပွဲ ကျင်းပသည့်နယ် ‘God save the King’ ဖြစ်နေကြလေ၏။ သည်ကြားထဲ မြွေနတ်မေးသူတို့ပါ ငြိမ်းချမ်းစွာ အတူယှဉ်တွဲ ပေါင်းစည်းကြသည်ဖြစ်ရာ တရော်ဖြူ၊ တရော်ညို၊ ဘက်သက်၊ လက်ပန်၊ ရင်နှောင်း၊ ပင်ဇာ၊ အုံတုံ တည့်ဟူသော တရော်ခုနစ်ပါးနှင့် ဆေးသော်မှ ‘သန့်’ စရာ အကြောင်း မမြင်လေ။

အိမ်ရှင်၏ သားသမီးလင်မယား လာရောက်နေထိုင်မှတော့ သူတစ်ပါးအိမ်မှာ ခေတ္တနိုရသော ကိုရနိုင်တို့ လင်မယား သားအမိတို့ အိမ်ရှာဖို့ ဖြစ်လာသော်ငြား ရပ်ကွက်ထဲက တစ်ဖက်ရပ်တဲသော်မှ အိမ်ငှားခ တစ်သောင်း ‘မြည်’ သည့်ကာလမှာ ရုတ်တရက် မဆင်းနိုင်ကြသေးဘဲ ရှသလောက် သည်းခံကာ နေကြရုံသာ ရှိလေသည်။ မြွေနတ်ကတော်ကိုယ်တိုင်က တူ၊ တူမ လင်မယားကို လွှန်ဆန်နိုင်သည် မဟုတ်တော့ မူလပရိဖက်ရှင်နယ်ဖြစ်သော ရာသီစာ ထွက်ရောင်းခြင်းအားဖြင့် ပြဿနာကို ရှောင်လေသည်။ ဂရို့ချုံးစာရေးသည်လည်း မိုးလင်းသည်နှင့် အိမ်ကထွက်၍ မအိမ်ကောင်းသည်လည်း အနွေးထည်ကြီးဝတ်ကာ အိမ်တကာ ဆေးလည်တောင်းရင်း မြွေအိမ်က အထွက်ပြရလေသည်။ တစ်လသောက်ကြာ

တော့ မအိမ်ကောင်း သားအမိက ဈူပြာဟာပြောင်းကြပြီ။ ညနေတိုင်း မအိမ်ကောင်း ကိုယ်တိုင် မြွေနတ်ပူးသည်။ ဘွားတော်က လိပ်ပြာချုပ်ခေါင်းစွပ်ကာ 'ဥုံ စုန်းပင်းနတ်ပင်း၊ ထွက်ဆရာထွက်၊ ဥုံ သစ်ရောင်ဝါးရောင်ပြောင့်ရောင် တီဟိထွက်ဆရာထွက်၊ ဥုံဖွဲ့လော ပြာလော အရိုးလောထွက်ဆရာထွက်၊ ဥုံ ဇော်ဂနီနက်မ နင့်အစာ နင်ကိုယ်တိုင်ချ၊ ကျူဆရာကျူ၊ ကြေဆရာကြေ၊ ပြေဆရာပြေ၊ ပျောက်ဆရာပျောက်...ဟု သုံးဆယ့်ခုနစ်ကြိမ် အော်ကြီးဟစ်ကြီး ရွတ်သည်။ သည်လို တစ်ညလေးကြိမ်နှုန်းအားဖြင့် တစ်ပတ်လောက် ပူးကြရွတ်ကြတော့ တူ၊ တူမ လင်မယားနှစ်စုံတို့ အထုပ်အပိုး ပြန်ပြင်ကြသည်။ တစ်ည လေးခါလောက် နတ်ပူး၊ စုန်းပူး၊ မြွေပူးကြောင့် ထ,ထထိုင်ရတာ များလာတော့ မြို့ထဲကို ပြန်ပြောင်းကြတော့သည်။ "ကြီးတော်ကလည်း မမိုက်သေးပါဘူး" လောက်သာ သည်းကြရင်း ဆိုင်ကယ်အသီးသီးပေါ် အထုပ်ကိုယ်စီတင်ကာ ပြေးကြခြင်း ဖြစ်သည်။

အခုတော့ ခေါင်သုံးလုံး မြွေအိမ်ကြီးမှာ မအိမ်ကောင်းတို့ မိသားစုကျန်တော့သည်။ တစ်လောက ဂျင်းဘောင်းဘီဝတ်၊ ခွေးစွယ်ဆွဲ၊ နားသံသီးချိတ်၊ အရိုးခေါင်းစွပ်ကျယ်ဝတ်၊ သံလက်ကောက်ပတ်၊ ဆံပင်နီကြောင်ဆိုးတို့ကို ထိတ်လန့်ကြကုန်သော မြွေသကွင်းစွပ် အစရှိသော မြွေမျိုးတစ်ကျိပ်တို့လည်း ဝိပ္ပဋိသာရ ဖြစ်ခဲ့ပြီးသော အမှုကို ပြန်လည်တွေးတော၍ စိတ်နှလုံးပူပန်ခြင်း စသော နှလုံးမသာမှုတို့ ကင်းပကြလျက် သည်အိမ်ကြီးဝန်းကျင်မှာ ပြန်ပေါ်လာကြသည်ဟု ဆိုလေသည်။ ထိုနေ့မှစ၍သည်အိမ်ပေါင်း ခေါင်သုံးလုံးကို မြွေကို ကိုးကွယ်ရာဟု ယူမှတ်ကြသောသူတို့နှင့်တကွ မြွေနတ်ကတော် မိသားစုတို့ အညီအညွှတ် ပေါင်းစည်းခြင်း သမဂ္ဂပြုလျက် 'ဒုရာစိဝ' မကောင်းသော အသက်မွေးမှုကြီး ပြန်စကြလေသည်။

"တကယ်တော့ သည်အိမ်ထဲ ခြံထဲမှာ ဘာမြွေမှ မရှိဘူး ဆရာ ရဲ့၊ ဘွားတော်က သူ့တူလင်မယား ရောက်လာကြတော့မယ်ဆိုတာ ကြို သိထားလို့ အရင်က ရှိခဲ့ဖူးတဲ့ ဟိန္ဒူမြွေအလမ္ပာယ်ဆရာကြီး ဓာတ်ထုပ်နဲ့ ပြန်ဆက်ယူပြီး သတင်းလွှင့်ထားတာ ခင်ဗျ၊ ဒါကလည်း ကွက်စိပ်မှု ကိုပေါလူကို သတင်းပေးလိုက်တာနဲ့ ပျံ့သွားတာလေ"

တစ်ရက်မှာတော့ ကျွန်တော်တို့ ကိုရခိုင်က မြွေဓာတ်ထုပ်ကို ဖြောင့်ချက်ကြီးပေးခြင်း ဖြစ်သည်။ မြွေအိမ်ပေါ်မှာတော့ မြွေပရိယေသန ကြီး အားကောင်းချင်တိုင်း အားကောင်းလျက် ရှိလေ၏။



## အိမ်ကလေး ၁၀

ကျွန်တော်တို့ ဇနီးမောင်နှံ နေထိုင်ခဲ့ဖူးသော မြစ်ကမ်းပါးဝေါက အိမ်ကလေးလို့ ဆိုနိုင်သည့် တိုက်ခန်းကလေးသည်လည်း ကျွန်တော်တို့ ဘဝတွင် အမှတ်ထင်ထင် ရှိခဲ့သည်ဟု ဆိုရပါမည်။ အိမ်ကလေးတွေ အကြောင်းရေးလျှင် သည်နေထိုင်မှု ဘဝသည်လည်း မရေးမဖြစ် ရေးရဦးမည်ဟု ကျွန်တော် တွေးထားခဲ့သည်။ သည်အိမ်ကလေးက ကျွန်တော့် ဘဝ၏ အိမ်ပိုင်ရာပိုင် ဘဝအစလည်း ဖြစ်သည်။ ကျွန်တော် ငယ်စဉ်က အဘိုးအဘွားများ အဆက်ဆက် အိမ်ကြီးရခိုင်နှင့် နေခဲ့ကြသည်ကို မှတ်မိနေပါသည်။ တလောက ကျွန်တော့်ဇာတိရွာကို အလည်အပတ် ရောက်ခဲ့သည်။ ကျွန်တော်တို့ ဝိုင်းထဲမှာ ကျွန်တော်တို့ ဆွေမျိုးသားချင်း တချို့သာ နေထိုင်ကြတော့သည်။ ရောက်တုန်းရောက်ခိုက် အမေနှင့် ကျွန်တော် နေထိုင်ခဲ့သည့် အိမ်ဟောင်းရာကလေးကိုပင် ဓာတ်ပုံ ရိုက်ခဲ့သေးသည်။ အိမ်ကတော့ မရှိတော့။ သစ်ဆွေးပုံကြီးထဲမှာတော့ ကနုတ်ကွက်တွေ ပါ ရှာ ဖောက်ရုယ်ထားသည့် ပန်းဆွဲသစ်သားပြား အဟောင်းကလေးတစ်ချပ်ကို မြင်လိုက်ရတော့ အဘိုးတို့ အိမ်ကြီးကို ဖျတ်ခနဲ သတိရလိုက်သည်။

ကျွန်တော်တို့ မြေး၊ မြစ်များ အားလုံး အဘိုးကို မမီလိုက်ကြတော့ဘဲ အဘွားကိုသာ မီခဲ့သည်။ အဘွားသည်ပင် ကျွန်တော်တို့ သိတတ်သည့် အရွယ်ရောက်တော့ အသက်တွေ ရလှပြီ။ အဘိုးအိမ်က ရှေးအိမ်ကြီး ဖြစ် သည်။ လေးထောင့်စပ်စပ် အုတ်တစ်ထပ်ခံ ပျဉ်ထောင်အိမ်ကြီး ဖြစ်သည်။ အိမ်ကြီးက သည်နေ့ ခေတ်အမြင်ဖြင့် ကြည့်လျှင် လေးလံလှသည်ဟု ဆို ရပါမည်။ အုတ်ထုကပင် ကိုးလက်မ အုတ်ရိုး (သို့မဟုတ်) တစ်ေ အုတ်ရိုးဆိုတော့ ထုထုပိန်းပိန်းကြီး ဖြစ်သည်။ ပြတင်းပေါက်တွေ အိမ်ကြီးနှင့်စာလျှင် သေးငယ်လွန်းကြသည်။ ငယ်ငယ်က သတိမထား သော်လည်း အခု ပြန်စဉ်းစားတော့ အချိုးအစား မကျသလို ဖြစ်နေ သည်။ အတွင်းမှာ ကြီးမားသော အုတ်လှေကားကြီးတစ်စင်း ရှိသည် တစ်ဆစ်ချိုးတပ်ထားသော်လည်း လှေကားထစ်တွေက များလွန်းတာလည် မှတ်မိနေသည်။ အောက်ထပ်က မော့ကြည့်လျှင် သစ်သားဆင့်တုံး တွေက မီးရထားသံပေါင်ကြီးတွေလောက်ရှိနေတာ ဆေးမသုတ် ဘာမသု ဆိုတော့ သစ်သားရောင်မွဲမွဲမှာ ပိုးမျှင်တွေ အထွေးလိုက်၊ အပေါ်ထ တစ်ထပ်လုံး အခန်းတစ်ခန်းသာ ဖွဲ့ထားသည်။ အမိုးခေါင်ဆက်မှာ စာသိုက်တွေ မွှမွှကြိနေကြ၏။ ဝါးလုံးရှည်ကြီးတစ်လုံးကို ခါးကချည် အောက်ထပ်ကို ကြိုးနှင့်ဆွဲထားရသည်။ စာတွေ သောင်းကြမ်းဆူပွက် သည့်အခါ ကြုံရာလူက ကြိုးကို ဆွဲလိုက်ခြင်းအားဖြင့် ဝါးလုံးများ အပေါ်ထပ်မှာ တဒိုင်းဒိုင်းရိုက်သံကြီး ပေါ်လာရသည်။ သည်အသံ စာခြောက်သံ ဖြစ်သည်။ စာတွေ ခဏတော့ ငြိမ်သက်သွားသည်ဆို

"မင်းတို့အဘိုးက အိမ်ကြီး ဆောက်တော့မယ်ဆိုတော့ နှစ် ယက်ခေါင်၊ မဒရပ်ခေါင်၊ ယွန်းထပ်ခေါင်၊ အိမ်တော်ခေါင်တွေ လို ကြည့်ပြီးမှ လက်သမား ကိုက်ရနဲ့ တိုင်ပင်ပြီး ဆောက်ကြတာ။ သစ် တာလည်း ကောင်းပေ့ဆိုတဲ့ သစ်တွေ စလင်းတညောင်ဘက်က မှာ

တယ်။ မြို့စီးတစ်ရာ မြို့လာတစ်ထောင် ဆိုသလိုပဲ အပြင်အပက လေဒဏ် မိုးဒဏ်ခံအောင် ကျကျနန တွက်ချက်ပြီး ဆောက်ကြတာပေါ့”

ကျွန်တော်တို့ ဘွားအေက အိမ်ကြီးအကြောင်း စကားရောက်လျှင် ပြောပြတတ်သည်။ ဖြစ်လာနိုင်သည့် မကောင်းကျိုးကို ပျက်ပြယ်စေရန် လောကီအစီရင်တွေလည်း ပါခဲ့သည်ဆို၏။ အဘိုးအိမ်က ကွဲကြေကျလာတတ်သည့် အရိုပ်ပန်းများပါသည့် မှန်ရောင်စုံချပ် အကွဲများကိုပင် အဘွားက ကျွန်တော်တို့ ကစားနေရာက သိမ်းယူသွားတတ်သည်။ သည်အခေတ် ဒါမျိုးမင်းတို့က ဘယ်နားမှာများ တွေ့ဖူးလို့ ကစားစရာဖြစ်ရတာတုံးလို့လည်း ဆူတတ်ပါတယ်။ ဖုန်ထူ ပူအိုက်သော် အညာကျေးလက်က အိမ် ဆိုသော်ငြား လေဝင်လေထွက် မရှိ။ အရှင်ဖွင့်နိုင် ပိတ်နိုင်သော အရုတ်ကပ်ရှင်မပါ။ တစ်နေ့ခင်းလုံး ပူထားသည့် နေရောင်ကို အောက်ဆယ် အုတ်ရိုးတွေက စုပ်ယူထားကာ ညဘက်မှာ ထုတ်လွှတ်သော်လည်း အဘွားက ပြတင်းပေါက်တွေကို ကုန်စင်အောင် ပိတ်ထားတတ်သည်။ ပြတင်းပေါက်တွေမှာ သံချောင်းကြီးတွေ ဒေါင်လိုက် ကန့်ထားသော်လည်း စိတ်ချလောက်စရာ မရှိဟု တွက်ပုံရသည်။ မည်သို့ပင်ဖြစ်စေ ခံ့ညားခြင်း၊ သန့်စွမ်းနိုင်မာခြင်း၊ ကြီးမားသော ထုထည်ပေါ်မှာ ယုံကြည်စိတ်ချခြင်းအားဖြင့် အဘိုးအဘွား၊ အမေအမေတို့ နေခဲ့ကြသည်။ နောင် အမေတို့ အမေတို့လက်ထက်မှာ သည်ဝိုင်းကြီးကို ခွဲရေးတွဲရေးတွေ ပေါ်လာတော့ ဝိုင်းတိုက်အလယ်မှာ ကန့်လန့်ခံနေသည့် ရှေးအိမ်ကြီးကို ဖျက်လိုက်ကြသည်ဆို၏။

“အမေတို့တောင် အမေ (အဘွားကို ဆိုလိုသည်) သေမှ ဖျက်ရဲကြတာ၊ သစ်တွေက အကောင်းကြီးတွေ ရှိသေးတာရယ်၊ အောက်ထပ်အုတ် အင်္ဂတေကိုပဲ ဆယ့်ငါးရက်လောက် ဖျက်ရတာသာ ကြည့်တော့”

သည်လိုအိမ်ကြီးမှာ နေထိုင်ကြီးပြင်းခဲ့ရသည့် အမေ့ခမျှာ အမေ

နှင့် အကြောင်းပါတော့ အစိုးရဝန်ထမ်းပီပီ အစိုးရအိမ်တန်းလျားများ၊ တိုက်ခန်းများမှာ တစ်လျှောက်လုံး နေခဲ့ရသည်။ ဝန်ထမ်း၏ သားသမီးများဖြစ်သော ကျွန်တော်တို့ လက်ထက်မှာလည်း အစိုးရဝန်ထမ်းများသာဖြစ်လာကြလေရာ ဝန်ထမ်းအိမ်ရာများမှာသာ တစ်လျှောက်လုံး နေခဲ့ရသည်။ အိမ်လခက လစာ၏ ဆယ်ရာနိုင်နှုန်းသာ ပေးရခြင်း၊ ရေနှင့်လျှပ်စစ်မီး ဈေးပေါပေါသုံးရခြင်း စသည့် 'သာရည်' လောက်ကို ကြည့်ကာ ကိုယ်ပိုင်အိမ်နှင့် နေရဖို့ စိတ်မရောက်ခဲ့တာလည်း ပါပါလိမ့်မည်။ အိမ်တစ်ဆောင် ဆောက်နိုင်လောက်အောင် မစုမဆောင်းနိုင်ကြတာလည်း ပါပါလိမ့်မည်။

မန္တလေးရောက်တော့ ဘဝတစ်ခု စရပြီ။ ကျွန်တော့် အိမ်သူ၏ မိဘများကတော့ အိုးပိုင်အိမ်ပိုင်တွေ ဖြစ်သည်။ လှေသူကြီးနှင့် လှေသူကြီးတာတော်တို့ မြစ်ဆိပ်မှာ နှစ်ပေါင်းများစွာ ဝယ်ထားသည့်မြေက အတန်အသင့် ကျယ်ပါ၏။ အိမ်က အတန်အသင့် ကျယ်ပါ၏။ သို့သော် ညီအစ်ကို မောင်နှမသားချင်းများသဖြင့်လည်း ကျွန်တော်တို့ ကိုယ်ပိုင် မနေသာတာပါသလို မနေချင်တာလည်း ပါသည်။ သည်တော့ မြစ်ဆိပ်ကိုမေးတင်ထားသည့် စည်ပင်သာယာတိုက်ခန်းတွေမှာ ကနဦးက ငှားနေခဲ့ရသည်။ အိမ်ထောင်ပရိဘောဂကလေး မရော်မရည်နှင့် ဘဝကို စခဲ့ကြရပါသည်။ ပေါပေါလောလော ရှိတာက သူမဘက်က စာအုပ်များနှင့်ကျွန်တော့်ဘက်က စာအုပ်များသာ ဖြစ်လေသည်။ ရပ်ကွက်ထဲမှာ အိမ်ချင်းကပ်၊ တံစက်မြိတ်ချင်းထိ၊ နောက်ဖေးချင်း ဆက်နေရမှာကို စာရေးခြင်းဖြင့် အသက်မွေးရသော ကျွန်တော့်အဖို့ ဘယ်လိုမှ အပ်စပ်စရာအကြောင်း မမြင်သော်လည်း မရှောင်မလွှဲသာတော့လည်း နေရတော့မည်သာ။ ကျွန်တော့်အိမ်သူ၏ မိဘမောင်နှမများက ခပ်ဝေးဝေးမှာ မနေစေချင်။ သည်တော့ တိုက်ခန်းတစ်ခန်း ငှားကာနေဖို့ ဖြစ်လာခဲ့သည်။ ထိုစဉ်

က တစ်လသုံးထောင်၊ တစ်နှစ်စာ ကြိုပေးရသည်။ နောက်နှစ်ဈေး ပြန်ညှိ တစ်နှစ်စာပြန်တင်၊ အငှားဘ၀ဖြင့် သုံးနှစ်လောက် နေကြည့်တော့ အများနေတိုက်ခန်း ဆိုသော်လည်း နေပျော်စရာ ကောင်းသည်။

တိုက်ခန်းကချည်း ဆယ့်သုံးလုံးတန်းရှိလေရာ တောင်ဘက်ဆယ်လုံးက ချမ်းမြသာစည်မြို့နယ်ထဲမှာ ပါသည်။ မြောက်ဘက်သုံးလုံးက မဟာအောင်မြေမြို့နယ်ထဲမှာ ပါသည်။ ငှားနေစဉ်တုန်းကတော့ ချမ်းမြသာစည် တိုက်ခန်းတစ်ခန်းမှာ နေခဲ့ရသည်။ ဈေးနှင့် နီးသည်။ အိမ်ရှေ့တာရိုးကြီးအောမှာ လက်ပံပင်ကြီး ရှိသည်။ ရောဝတီမြစ်ကို ကျွန်တော်တို့နေသည့် အပေါ်ဆုံးထပ်က ဆီးမြင်ရသည်။ မြစ်ကို ကျော်လိုက်လျှင် စစ်ကိုင်းတောင်ပေါ်က ထုံးသင်္ကန်းဖွေးဖွေး စေတီတော်တွေကို ဖူးရသည်။ ညဘက်မှာ ရွှေတောင်ကြီး ပေါက်နေတတ်သည့် စစ်ကိုင်းတောင် တောင်ဘက်ထွတ်များမှ ဆွမ်းဦးပုညရှင်စေတီ၏ ရောင်လျှံတော် ဝင်းဝင်းကို ဖူးမြင်ရသည်။ နောက်ဖေး ပြတင်းပေါက်က ရှုမြော်သည့်အခါ မဟာမုနိဘုရားကြီး၏ ဂန္ဓကုဋိတိုက်တော်က ရွှေရည်တွေ ဖိတ်ကျနေသည်။ အရှေ့မြောက်ထောင့်က မန္တလေးတောင်တော်၏ ထိပ်ပိုင်းကိုလည်းကောင်း၊ ရန်ကင်းတောင်က မီးတန်းကိုလည်းကောင်း၊ ကောင်းကင်သာယာသည့်အခါ မြင်ရလေ့ရှိသည်။ အိမ်လခ တစ်နှစ်စာ ပေးနိုင်သည့်အခါ တစ်နှစ်စာ စိတ်အေးရသည်။ အိမ်အတွက် မရှိမဖြစ် အရေးကြီးသည့် စာရေးစားပွဲကိုတော့ အမေလှူထု ဒေါ်အမာထံ သွားတောင်းရသည်။ အမေကမင်းကြိုက်တာ ဝယ်လိုက်ပါကွယ်။ ကျသင့်တာ အမေပေးပါ့မယ်ဆိုသည့်အခါ အံဆွဲပါ စားပွဲတစ်လုံး ဝယ်လိုသည်။ ကျပ် ၆၀၀၀ ပေးရတာကို အမေ့ ပြောပြတော့ ပိုက်ဆံထုတ်ပေးသည်။ စာသာ ရေးစမ်းပါကွယ် မင်းတို့ ထမင်းမငတ်ပါဘူးလို့လည်း စိတ်ခွန်အား ပေးလိုက်သေးသည်။ သည့်နောက်တော့ စာယေသံယောဇဉ်ဖြင့် ဖြည့်ပို့ကြသော ကျေးဇူးတွေ

ကျွန်တော်တို့မှာ တစ်ထမ်းကြီး ရှိလာခဲ့သည်။ သည်ကျေးဇူးတွေကို ကျွန်တော်တို့ မမေ့ပါ။

ငှားနေရသည့် တိုက်ခန်းကလေးမှာ မျက်နှာဝ ပေနှစ်ဆယ် ရှေ့နောက် ပေလေးဆယ်လောက် ကျယ်သည်။ မီးဖိုခန်းကို ပိုင်းကန့်ထားသော အုတ်ထရံကလွဲလျှင် ခန်းမပုံစံ ဟင်းလင်းပြင် ဖြစ်သည်။ တရုတ်ကပ်ရှင်ကို အပြင်က သံတန်းကွက်ကျဲအုပ် ကာလိုက်သည့်အခါ နေ့ညမရွေး ဖွင့်ထားလို့ရသည်။ မြစ်လေ တသွေးသွေးထဲမှာ ရေငွေ့တွေပါသည်။ စစ်ကိုင်း မင်းဝံတောင်တန်းကိုဖြတ်၊ ဧရာဝတီမြစ်ပြင်ကို ကျော်လာသည့်လေက ကျွန်တော်တို့ အခန်းကလေးထဲမှာ စွန့်ကြဲခြင်း၊ ဖြောင့်မတ်ခြင်း၊ မညှဉ်းဆဲခြင်းအားဖြင့် ဝန်းဝန်းဝေ့ဝေ့ ရှိနေတတ်သည်။ အိမ်ရှေ့စင်္ကြံလမ်းက ကျဉ်းသော်လည်း အိုးစိုက်ပန်းတွေ ရသလောက် စိုက်ထားရသည်။ နှင်းဆီပင်တွေ ရှိသည်။ စံပယ်ရုံကလေးလည်း ရှိသည်။ ဂမုန်းနှင့် အင်ဒိုနီးရှားနှင်းဆီတွေလည်း ရှိသည်။

မနက်ခင်း နှစ်ယောက်အတူ ဈေးသွားချက်ပြုတ်ပြီးတော့ ဇနီးက ကျောင်းကို စက်ဘီးကလေးစီးကာ တာရိုးအတိုင်း နင်းသွားတာကို တိုက်ခန်းပေါ်မှ လှမ်းမြင်ရသည်။ မြစ်ကမ်းနားအတိုင်း တစ်မျှော်တစ်ခေါ်ကြီး နင်းသွားရာမှ ဂေါ်ဝိန်ဆိပ်ရောက်တော့ ၃၅ လမ်းအတိုင်း အရှေ့ကိုချိုးကာ သူ့ကျောင်းကိုရောက်ဖို့ အားစိုက်ရရှာဦးမည်။ ကျွန်တော်က စာရေးစားပွဲထိုင်ရုံ၊ ညဘက်ကျတော့ အဖြူအမည်း ကိုမိုတီဗွီကလေးကို ထမင်းစားစားပွဲဝိုင်းပေါ်တင်ကာ ကြည့်ကြရသည်။ တချို့ညတွေမှာတော့ စာဖတ်ကြ၊ ရေးလက်စ မပြီးပြတ်သေးတာ ရှိတော့လည်း ညဉ့်နက်သန်းခေါင်အထိ စာရေးကြ။ လသာညတွေမှာတော့ ဝရန်တာ ကျဉ်းကျဉ်းကလေးထဲက ပန်းပင်တွေကြားမှာ ပလတ်စတစ်ခုံကလေးတွေချကာ စကားတွေ ပြောကြသည်လည်း ရှိသည်။ သည်အိမ်ခန်းကလေးထဲမှာ မဒမ်ဆီမွန် ဒီဗိုးဗွား

ပြောသလို ဟန်ချက်ညီမှုကလေးကို တည်ဆောက်ဖို့ပဲ ရှိနေသည်။ ပစ္စုပ္ပန်ကို အတိတ်၏ ဇာတ်လမ်းဆက်အဖြစ် ထိန်းသိမ်းထားဖို့သာ ဖြစ်သည်။ ပစ္စုပ္ပန်ကို မရေရာလှသော အနာဂတ်၏ ခြိမ်းခြောက်မှု ကာကွယ်ထားဖို့သာ ဖြစ်သည်။ ဤနည်းအားဖြင့် ပျော်ရွှင်ချမ်းမြေ့မှုသည် သည်အိမ်ကလေးထဲမှာ အောင်းနေမြဲ ဖြစ်သည်။ ဤနည်းအားဖြင့် တည်ငြိမ်၍ ဣန္ဒြေရှိသော လှရိုသေရှင်ရိုသေ ဘဝအခြေကျမှုကို တည်ဆောက်ခဲ့ကြခြင်း ဖြစ်သည်။

"မဒမ်ဆီမွန်ဒီဗိုးဗွားက ရေးတာ မှတ်မိတယ်၊ ရွှေနန်းတော်ကြီးမှာဖြစ်ဖြစ်၊ တဲအိုပျက်မှာဖြစ်ဖြစ်၊ ဘယ်နေရာမှာပဲဖြစ်ဖြစ်ပေါ့လေ၊ ပျော်ရွှင်ချမ်းမြေ့မှုဆိုတာ ကိုင်တွယ်ပြလို့မရတဲ့ ဒြပ်မဲ့မဟုတ်ဘူးတဲ့၊ ကိုင်တွယ်ပြလို့ရတာမျိုးပါတဲ့၊ အိမ်နံရံ လေးဘက်အတွင်းက မိသားစုတစ်စုဟာ တိတ်တဆိတ် တည်ရှိနေတဲ့ ကာလပ်စည်းတစ်ခု၊ ယူနစ်တစ်ခုပါပဲတဲ့"

ကျွန်တော်တို့နှစ်ယောက်ကတော့ အတိတ်ကို သစ္စာရှိကြသူများဖြစ်သည်။ မိသားစုနှင့် ဇာတိရွာကို ချစ်ကြသူများ ဖြစ်သည်။ လှေနှင့်လှည်းကို မြတ်နိုးကြသူများ ဖြစ်သည်။ ကျွန်တော့်ဇနီးက အိုးအိမ်ကို ရှေးရိုးအစဉ်အလာအတိုင်း အိုးအိမ်နှင့်တူအောင် ဖန်တီးနေသူသာ ဖြစ်သည်။ မီးဖိုချောင်နှင့် အိုးအိမ်ကို ဖန်တီးခြင်းသည်ပင် နွေးထွေးမှုနှင့် အဓိပ္ပာယ်ရှိသော ဘဝကို ထုဆစ်ခြင်းဟု ခံယူသူဖြစ်သည်။ အိမ်ရှေ့က သစ်ပင်ကလေးတွေကို သစ်တောတစ်တောလို့ ယုံကြည်ဝံ့သူ ဖြစ်သည်။ မိုးကုပ်စက်ဝိုင်းကို အိမ်နံရံတွေလောက် သဘောထားဝံ့သူ ဖြစ်သည်။ သူက စကားတစ်ခွန်းပြောရင် ငါက တစ်ခွန်း ပြောနိုင်ရမှာပေါ့လို့ ခံယူသူလည်း ဖြစ်သည်။

တိုက်ခန်းအငှားနေရသည့်ကာလ ကြာလာသည်နှင့်အမျှ ကိုယ်ပိုင်အခန်းတစ်ခန်းတော့ ဝယ်သင့်ပြီလို့ သဘောပိုက်ခဲ့ကြသည်။ တိုက်ခန်း

ဝယ်ချင်ပြီဆိုတော့ တိုက်ခန်းများ၏ ရာဇဝင်ကို နှံ့စပ်သူ မိတ်ဆွေကို အရင်ရှာရသည်။ ရာဇဝင်ဆိုတာက မူလပိုင်ရှင်အမည်ပေါက် ဝယ်ယူနေထိုင်ခွင့်ရှိသူများထံက နေထိုင်ခွင့်ဖြတ်ပိုင်း လက်ဝယ် ရှိ မရှိ၊ ပေါင်နှံခြင်း ပြု မပြု၊ အစစ်အမှန် ဟုတ် မဟုတ်၊ အရှုပ်အရှင်း ရှိ မရှိဆိုသည့် ဇာတ်ထုပ် အူပေါက်ကို ဆိုလိုပါသည်။ တချို့က နေထိုင်ခွင့်ရထားကြသော်လည်း တိုက်ပေါ်မှာ မနေတတ်၍ မနေကြခြင်းနှင့် မတတ်နိုင်လို့ မနေကြခြင်း နှစ်မျိုးသော အကြောင်းကြောင့် နေထိုင်ခွင့်လက်မှတ်တွေကို အပြတ်ရောင်းကြသည်လည်း ရှိသည်။ ပေါင်ထားနှံထားတာလည်း ရှိသည်။ ပေါင်နှံရာက အတိုး သပွတ်အူလိုက်ကာ မတန်တဆ ဆုံးရှုံးနစ်နာကြသူတွေလည်း ရှိသည်။

"ဆရာတို့၊ ဆရာမတို့ စာအုပ်တွေ သတင်းစာတွေ၊ ဂျာနယ်မဂ္ဂဇင်းတွေနဲ့ ဘာစ်ခန်းတော့ မရလောက်ဘူးနော်၊ နှစ်ခန်းဝယ်လိုက်ပါ၊ စလစ်ကို အရင်ဝယ်လိုက်၊ အခန်းဖိုးက ဖြည်းဖြည်းချင်း အရစ်နဲ့ သွင်းသွားလို့ ရနေတာပဲ"

မိဝါဆွေက အကြံပြုသည်။ စလစ်ဆိုတာက နေထိုင်ခွင့်လက်မှတ်ကို ပြောခြင်းဖြစ်သည်။ ဤသို့အားဖြင့် ခြစ်ခြစ်ခြုတ်ခြုတ် ရှာဖွေကာ စလစ်နှစ်စောင် အရင်ဝယ်ရသည်။ ဖြစ်ချင်တော့ နှစ်စောင်စလုံးက (ပိုင်ဆိုင်သူ နှစ်ဦးစလုံးက) ရောင်းချင်သော်လည်း သူတို့လက်ဝယ်မှာ စလစ်မရှိ။ အပေါင်ခံသူထံမှာ နှစ်ချီနေပြီ။ မူလပိုင်ရှင်အဖြစ် လက်မှတ်သာ ထိုးနိုင်ကြသော်လည်း စလစ်ရောင်းရငွေကို သူတို့ ရစရာအကြောင်း မရှိလေ။ ထိုအခါ အပေါင်ခံထားသူနှင့် တိုင်ပင်ရသည်။ ပိုင်ဆိုင်ခွင့်လက်မှတ်တွေ ခဏငှားလိုက်ပါ၊ ရုံးမှာ မူရင်းပိုင်ဆိုင်သူနှင့် မူရင်းစာရွက်စာတမ်းများ ပြသပါမှ ငွေသွင်းဝယ်ယူခွင့်ပြုမှာမို့ပါ စသည်ဖြင့် တောင်းပန်ရသည်။ အပေါင်ခံရသူက သူ့စာရွက်စာတမ်းတွေ မူရင်းပိုင်ရှင်တွေ ပြန်

ယူမှာစိုးတော့ သူ့ကိုယ်စားလှယ်နှစ်ယောက် ထည့်ပေးပြီးမှ ခွင့်ပြုသည်။ သည်တော့ မူရင်းအမည်ပေါက်နှစ်ဦးက တစ်မျိုးတောင်းဆိုလာပြန်သည်။ သူတို့မှာ တစ်စုံတစ်ရာ ရစရာမရှိပါပဲလျက် တစ်နေကုန် ရုံးကိစ္စလိုက်ပြီး ဆောင်ရွက်ရမည်ဖြစ်၍ ထိုမျှ ဤမျှသော ငွေကြေးရပါမှ လက်မှတ်လိုက်ထိုးနိုင်မည် ဆိုကြလေ၏။ ဒါလည်း တရားမျှတသားပဲ၊ မှန်တာပေါ့။ ပေးရမှာပေါ့။ သည်တော့မှ ခများများ လက်မှတ်လိုက်ထိုးပေးကြသည်။

"မတရားတောင်းတာ မဟုတ်ပါဘူး ဆရာ ရာ၊ မတန်တဆနဲ့ ပေါင်ပြီး ဆိုင်ကယ်ဝယ်စီးတာ၊ အခုတော့ ဆိုင်ကယ်လည်း ပြုတ်ပြီ၊ တိုက်ခန်းစလစ်လည်း မရွေးနိုင်တော့ဘူး၊ ကျွန်တော်တို့တော့ လက်မှတ်လိုက်ထိုးခလေး နေ့တွက်ကိုက်အောင် ပေးပါဗျာ"

ထိုပုဂ္ဂိုလ်၏ အပြုအမူသည် ထိုပုဂ္ဂိုလ်နှင့်သာ ဆိုသည်ဟု အထင်အရှားပြခြင်း ပကာသနိယကံကိုသာ ယိုးမယ်ဖွဲ့ရတော့မည်။ ရွှေဒင်္ဂါးကို လက်ဝယ်ပိုက်မိပါလျက် မုန့်ညက်ဖြင့်ပြုသော ကတိုးဝါဖြင့် လဲမိကြသူတွေ ဖြစ်သည်။ ထိုနေ့က တိုက်ခန်းများ၏ ဝယ်စာရင်း ကျွမ်းကျင်သူ အကျိုးဆောင်သည်လည်းကောင်း၊ ဝယ်ယူကြမည့် ကျွန်တော်တို့ နှစ်ဦးသည် လည်းကောင်း၊ လက်မှတ်လိုက်ထိုးကြမည့် မူရင်းအမည်ပေါက်ပိုင်ရှင်နှစ်ဦးသည်လည်းကောင်း၊ အပေါင်ခံသူက ငွေသိမ်းငွေယူ ထည့်ပေးလိုက်သော ကိုယ်စားလှယ် နှစ်ဦးသည်လည်းကောင်း၊ မိမိတာဝန် မိမိ ကျေပွန်စေအံ့ဟူသော ဓာကိုယ်စီဖြင့် ရုံးစားပွဲတိုင်းကို လက်နှင့် လိုက်ထိနေကြရလေသည်။ ရုံးတော်က လိုအပ်သမျှ ဒူးနေရာဒူး၊ တော်နေရာတော်၊ ဝိဇ္ဇာမယိဒ္ဓိ သဘောကြီး ပြီးမြောက်သည့်အခါမှာတော့ တိုက်ခန်းဝယ်ယူခြင်းအမှုသည် အောင်မင်္ဂလာ၊ မျိုးညြဘာဖြင့်၊ ရက္ခာဝရုဏ၊ ချက်ရာကျလေပြီ။

ပေးချေသင့်တာကိုလည်း ပေးချေ။ အရစ်ကျသွင်းသင့်တာကိုလည်း သွင်း၊ ဆိုင်းငံ့စရာရှိတာကို ဆိုင်းငံ့ကြပြီးလျှင် နှစ်ခန်းကိုတစ်ခန်းတည်း ဖြစ်အောင် ကန့်ထားသည့် အုတ်ရိုးကို အပေါက်ဖောက်ရသည်။ မူလတပ် ထားသည့် တရုတ်ကပ်မှန်တွေကို ဖြုတ်ကာ စင်ကာပူမှန်တွေကို တပ်ရ သည်။ နိုင်သလောက် ဆေးကလေးသုတ်ရသည်။ အားလုံးပြီးစီးသွားတော့ လည်း နေပျော်စရာကလေး ဖြစ်ရသည်။ နှစ်ခန်းတွဲဆိုတော့ ကျွန်တော် တို့အတွက် ကျယ်ကျယ်လွင့်လွင့် ရှိသည်။ ပန်းပင်ကလေးတွေ ပိုစိုက်နိုင် သည်။ အိမ်ရှေ့မှာ ဧရာဝတီမြစ်၊ အိမ်နောက်မှာ တက်သေးအင်း။ သည် နှစ်ခန်းတွဲက မူလငှားရမ်းနေထိုင်သည့် တိုက်ခန်းထက်စာလျှင် မြစ်နှင့် ပိုနီးသည်။

တိုက်ခန်းပေါ်က လှမ်းမြင်ရသော မြင်ကွင်းတွေက လွမ်းစရာ ကောင်းသည်။ အထူးသဖြင့် နွေဦးရာသီတွေမှာ လေမှုန်တတ်သည်။ သာဂီမာန် နွေရတုဒ္ဒ ကြွေလုဟန်စောချင်ကြသော သစ်ရွက်အိုတို့ လမ်း ပေါ်မှာ တရွတ်သိုးသီရှိကြလေသည်။ တာရိုးတစ်လျှောက် ရဲနေအောင် ပွင့်ကြ၊ ရဲနေအောင် ကြွေကြကုန်သော လက်ပံပွင့် ဟင်္သပြဒါးရောင် တွေက ကုံကုမံ ရောင် နောက်ခံမှာ ဂုန္တန်ပွင့်ထိုးသလို ရှိလေသည်။ မြစ် ရေက အပြာ၊ တောင်တန်းက အပြာ၊ ကောင်းကင်က အပြာ၊ တိုက်ခန်း ပေါ်က ကြည့်လျှင် နှင်းပေါက်တွေထဲက တွားတက်သွားသော မနက်ခင်း နေရောင်ကို မြင်ရသည်။ မြက်ခင်းရေကန်ထဲကို ကြွေကျသော ကြယ် တွေကို မြင်ရသည်။ ကျွန်တော်ကတော့ ပုဒ်ဖြတ်ပုဒ်ရပ် မပါသော ကဗျာ လို ခံစားရသည်။ ထူးဆန်းတာက သည်နေရာမှာ ပလွေသံလည်းရှိ ဂစ်တာသံလည်း ရှိခြင်းဖြစ်သည်။ မြည်းလှည်းခြူသံရှိသလို အင်ဂျင်စက် သံဒိ ဒိ ရှိခြင်း ဖြစ်သည်။

"သည်နေရာကို မန္တလေးရဲ့ ဆင်ခြေဖုံးလို့ ခေါ်နိုင်တာပေါ့နော်။ ဆင်ခြေဖုံးဆိုတာ ဘာကိုပြောတာလဲ"

"ဆင်ခြေဖုံးဆိုတာ ရှေးက တိုက်ဆင်တွေကို တစ်ဖက်ရန်သူက တိုက်လာတဲ့အခါ မထိခိုက်ရအောင် ဖုံးရကာရတဲ့ ရဲမက်တွေကိုခေါ်တာ၊ နားနှစ်ဖက်၊ အစွယ်နှစ်ချောင်း၊ ရှေ့လက်နှစ်ချောင်း၊ နောက်ခြေနှစ်ချောင်းနဲ့ အမြီးကို ကာကြရသူကိုးယောက် ရှိရတယ်၊ ဆင်ကိုရံထားတဲ့ ရဲမက်တွေကို ဆင်ခြေဖုံးခေါ်တာပါပဲ၊ သဘောကတော့ မြို့တော်က ဆင်ဆိုရင် မြို့တော်ကို ဝန်းရံထားတဲ့ အကွက်အစုတွေကို ဆင်ခြေဖုံးတွေလို့ ခေါ်တာပေါ့"

ဆင်ခြေဖုံးဆိုတော့လည်း ဆင်ခြေဖုံးမြင်ကွင်းတွေ တွေ့နိုင်သည်။ နံနက် ဝေလီဝေလင်း ဈေးချိုဘက်က ကုန်စိမ်းတင်လာသော ထော်လာဂျီသံက ရှစ်လမ်းသွားလမ်းမကိုပင် တုန်ခိုက်စေသည်။ ထော်လာဂျီခန္ဓာအိမ်ပေါ်မှာ ကုန်စိမ်းထုပ်တွေ အတင်များလှသည်။ ကုန်စိမ်းသည်တွေက ကုန်စိမ်းအိတ်တွေကြားမှာ ငိုက်မျဉ်းကြလို့။ မနက်ခင်း သုံးနာရီ၊ လေးနာရီလောက်ကတည်းက ဈေးချိုကုန်စိမ်းဈေးကို ရောက်နှင့်ရသည်။ မိုးလင်းမှာ ဈေးခင်းမည့် ဈေးထွန်းဈေးကို အမီပြန်ပြေးလာကြရသည်။ အချိန်ကလေး ရတုန်းငိုက်ကြပေမပေါ့။ တချို့ မနက်ခင်းမှာ ဓနီးနှင့်အတူ လမ်းလျှောက်ရင်း ဈေးထွန်းဈေးကို ကျွန်တော်ပါ လိုက်သွားတတ်သည်။ သည်အခါမှာတော့ မဈေးသည်တို့ မငိုက်မျဉ်းကြတော့။ လန်းလို့ ရွှင်လို့၊ အော်လို့ ဟစ်လို့။

"ဈေးထဲက လွတ်တဲ့ခုံ အိမ်လုပ်နေရတာပဲ ဆရာမရဲ့၊ အိမ်က မိုးလင်းကတည်းက ထွက်လိုက်တာ မိုးကြီးချုပ်မှ အိမ်ပြန်ရောက်တယ်၊ အိမ်က လင်လည်း ဘယ့်နှယ်နေမှန်း မသိဘူး၊ သားလည်း ဘယ့်နှယ်နေမှန်း မသိဘူး"

ဈေးသည်အမျိုးသမီးတစ်ယောက်က ကျွန်တော်တို့ကို ပြောနေ ခြင်းဖြစ်သည်။ ဆင်ခြေဖုံးမြင်ကွင်းဖြစ်သော အလှူခံမဏ္ဍပ်ကလေး ဆောက် ကာ လာသမျှကား ဆီးပြီး အလှူခံကြတာလည်း ကျွန်တော်တို့ အခန်း ရှေ့မှာ မြင်ရတတ်သည်။ ရေကြီးချိန်တွေမှာတော့ ရေကင်းရှိသည်။ ရေ တွေက မြစ်မက ကျော်ကာ တာရိုးခြေကို လာလာပုတ်လေတော့ နေ့ရော ညညမပြတ် စောင့်ကြည့်ရသည်။ အနားရပ်ကွက်တွေမှာ ဘုရားပွဲရှိတော့ လည်း ပွဲသံ ဆိုင်းသံ တခြိမ်းခြိမ်း။ တိုက်ခန်း သူတို့ ဝတ်ကောင်းစားလှ ဖြင့် 'သလား' ကြချိန် ဖြစ်သည်။ နတ်ပွဲရှိလျှင်တော့ နတ်ခေတ်ခံရှိသူ တို့ ဝင်ကကြလိမ့်မည်။ သူတစ်ပါး လူမှုရေးတွေမှာလည်း ခါးကျိုးအောင် ကူညီတတ်ကြသူတွေ ဖြစ်သည်။

"သည်တိုက်ခန်းမှာနေကြသူတွေက ဆင်းရဲကြပေမယ့် စိတ်ချမ်း သာ ကြတယ်၊ သူတို့ကြည့်ရတာ ဘယ်တော့မဆို ပေါ့ပါးရွှင်ပျနေတာ ချည်းပဲ"

ကျွန်တော်တို့လည်း မထူးပါ။ သည်တိုက်ခန်းကလေးမှာ နေထိုင် ခဲ့ရသည့်နေ့ရက်တွေကို အမှတ်ထင်ထင် ရှိခဲ့ရသည်။ ဆယ်ခန်းတွဲလေး ထပ်ဆိုတော့ အခန်းလေးဆယ်။ တစ်ခန်းနှင့်တစ်ခန်း အရောင်ချင်းလည်း တူသည်၊ ဒီဇိုင်းချင်းလည်း တူသည်။ ဖွဲ့စည်းပုံချင်းလည်း တူသည်။ အကျယ်အဝန်းချင်းလည်း တူသည်။ မတူတာက သည်အခန်းတွေထဲက ဘဝတွေ ဖြစ်သည်။ Assorted biscuits တွေလို မတူသည့် ဘီစကစ်များ မုန့်ပုံးတစ်ပုံးထဲ ရောက်နေတာမျိုး ဖြစ်သည်။ တချို့က မီးသွေးရောင်း သည်။ တချို့က ကျောင်းဆရာမကြီးတွေ၊ တချို့က ပွဲစား၊ တချို့က ဓ ရွေးဆန်ရွေး၊ တချို့က ရွှေချည်ထိုး၊ တချို့က လက်သမား၊ တချို့ထ ဆိုက်ကားနင်း၊ တချို့က ကုမ္ပဏီမှာ ဝန်ထမ်း။ တဲပေါ်မှ တိုက်ပေါ်ထိ ဆွဲတင်ပေးလိုက်သဖြင့် နေထိုင်မှုပုံစံ ပြောင်းကြသော်လည်း တွေးခေါ်

မြော်မြင်မှုတွေက မပြောင်းပါ။ မီးနေသည့်အိမ်မှာ ဝိုင်းမည်။ ဟင်းခါးတွေ ချက်ပို့ကြလိမ့်မည်။ လူနာရှိလျှင် သဘောထားတွေ စုံအောင်ပေးကြလိမ့်မည်။ ဆေးမြီးတို အမျိုးပေါင်းလေးဆယ်လောက် 'မေတ္တာရှိ' ပေးကြလိမ့်မည်။ တစ်ယောက်ဈေးသွားတော့ လူဆယ်ယောက်က ဈေးဝိုင်းမှာကြလိမ့်မည်။ ရန်ဖြစ်ကြပြီဆိုတော့လည်း ဘယ်တော့မှ ဉဒါန်းမကျေနိုင်တာမျိုး အော်ကြဟစ်ကြမည်။ ပြီးတော့လည်း ပြီးကြတာပါပဲ။ သိပ်ရင်းနှီးကြပြီဆိုလျှင်တော့ ဟင်းခွက်တွေ အကူးအလူး ရှိကြသည်။ ပိုက်ဆံလိုလျှင် ထွမ်းကျင်သူက ပစ္စည်းတစ်မျိုးမျိုး သွားပေါင်ပေးလိမ့်မည်။

ဆရာ မြသန်းတင့် ဘာသာပြန်သည့် 'မိန်းမတို့အကြောင်း' မှာ အမ်ဆီမွန်ဒီဗိုးဗွားက ဤသို့ ဆိုသည်။

"မိန်းကလေးများသည် အိမ်ထောင်ပြုကြ၏၊ သူတို့ အိမ်ထောင်ပြုသောအခါတွင် အိမ်ကလေးတစ်လုံးရမည်၊ သူတို့အိမ်ဦးနတ်များ ပြန်လာသည့်အခါတွင် ကြိုဆိုရန်အတွက် မှန်အိမ်ကလေးတစ်လုံးရမည်၊ ပြတင်းပေါက်တွင် တင်ထွန်းရန် ဖယောင်းတိုင်ကလေးဖြစ်ဖြစ် ရှိရမည်၊ ထိုအခါတွင် အဝေးမှာပြန်လာသည့် အိမ်ဦးနတ်သည် ပြတင်းမှ မီးရောင်ကို မြင်သည့်အခါတွင် 'ကြည်စမ်း၊ ငါ့မိန်းမဟာ ဖယောင်းတိုင်ကလေး ထွန်းပြီး ငါ့ကို ကြိုရှာတယ်' ဟု တွေးပေလိမ့်မည်"

သည်တိုက်ခန်းက မိန်းမသားတွေကတော့ သည်လို ကြိုတာမျိုး ရှိ။ ပြန်လာသည့် အိမ်ဦးနတ်ကလည်း ငါ့ကို မကြိုလေခြင်းလို့ ခံစားနေသူတွေ မဟုတ်။ သို့သော် အချိန်တန်တော့လည်း ကြိုးပုခက်ပေါ်မှာ ကလေးတွေ ရှိလာကြသည်သာ။ ကျွန်တော်တို့သည်လည်း သည်တိုက်ခန်းကလေးပေါ်က ကြိုးပုခက်မှာ သမီးကလေးကို တင်လွှဲခဲ့ကြရသေးသည်။ အရုတ်ကဗျာဆရာ အိုက်ချင့်ကတော့ 'တဖျပ်ဖျပ်တောက်နေတဲ့ ဓားရှက်ကြီးတွေ ငါတို့ မြှောက်ကြ၊ ကြက်သွေးရောင်ပိတ်စတွေ ငါတို့ရက်

ကြ၊ ကြိုးတန်းပေါ် ငါတို့ လျှောက်ကြ၊ ဓားရှည်ကြီးတွေကို ငါတို့မျိုချ ကြ၊ အဲသဟာ ငါတို့ဘဝ' လို့ ကဗျာရေးသည်။ နောက်တစ်ပုဒ်မှာတော့ 'ငါ့ခရီးဖော်ရဲ့ နောက်ကျောပြင်ကို ငါ ကြည့်လိုက်တယ်၊ သူ့ပခုံးပေါ် က မျောက်က ငါ့ကို သွားဖြဲပြလို့။ ခြေလှမ်းကျဲကြီးတွေနဲ့ တကောက် ကောက်လိုက်နေရ၊ သစ်တောနဲ့ မြစ်တွေကို ကျော်ဖြတ်ရင်း' တဲ့။ ဒါ လည်း ကျွန်တော်တို့နှင့် မထူးပါ။ ရုပ်တရားအစု၊ ဝေဒနာအစု၊ သညာ အစု၊ သင်္ခါရအစု၊ ဝိညာဉ်အစုတည်းဟူသော ခန္ဓာငါးပါး၏ ပခုံးစွန်းပေါ် က ကိလေသာ ကာမမည်သော အာရုံကို တပ်နှစ်သက်သော တဏှာမျောက် ၏ သွားဖြဲပြရာနောက်ကို တကောက်ကောက် လိုက်နေရသူချည်း ဖြစ် သည်။

အင်ပါယာစတိုင် (Empire Style) ပရိဘောဂဟောင်းတွေပေါ် ထိုင်ကြရင်း ရေးတိုင်ကပ်နာရီကြီးဆီက မွန်းတည့် ၁၂ နာရီထိုးသံကြား တိုင်း နေစကြဝဠာအကြောင်း ပြောဖြစ်ခဲ့ကြသော ထိုနှစ်ခန်းတွဲ အိမ်ကလေး ကို ကျွန်တော်တို့နှစ်ယောက်စလုံး အောက်မေ့ကြပါသည်။ လွမ်းလည်း လွမ်းကြပါသည်။



## အိမ်ကလေး ၁၁

လက်သမားဆရာ ကိုသာဆောင်တို့ လင်မယား ကျွန်တော်တို့အိမ်နှင့် မနီးမဝေးကို ပြောင်းလာတာ မကြာသေးပါ။ ကလေးတွေက တစ်ပြုံ ဆောင်ကြီး ပါလာသည်။ ငယ်စဉ်ကြီးလိုက်ဆိုတော့ ခြောက်လုံးပတ်ကလေးတွေ ထောင်ထားတာနှင့်ပင် တူတော့သည်။ ကိုသာဆောင်မယား မစိန်နွဲ့ကတော့ ရောဂါသည်ပုံ ပေါက်နေသော်ငြား ပဋိသန္ဓေတည်ခြင်း အင်္ဂါသုံးပါးဖြစ်သော မိဘနှစ်ပါး ပေါင်းဆုံခြင်းလည်း တစ်ပါး၊ အမိဥတု စေ့ဝမ်းအိမ်၌ အညစ်အကြေး ကင်းရှင်းခြင်းလည်း တစ်ပါး၊ သဋိသန္ဓေ တည်မည့် သတ္တဝါ ရေးရှုတည်လာခြင်းလည်း တစ်ပါးတို့ကြောင့် နှစ်နှစ်ခြားလျှင် တစ်သား မှန်မှန်ကြီးပေါက်ရှာသူဖြစ်၏။ ကိုသာဆောင်ကတော့ လက်သမားဆရာဖြစ်သည်။ မြင်းခြံနယ် မြောက်လက်ကျေးရွာတစ်ရွာက ဖြစ်သည်။ မန္တလေးရောက်ကြလို့ မန္တလေးအပွေးတက်နေပြီ ဖြစ်သော်လည်း မြင်းခြံလေကား မပျောက်လေ။ လူက ပိန်ပါးပါးဖြစ်၍ ပုဆိုး ဒယဉ်တိုက် ဝတ်တတ်သည်။ လက်က လက်ပတ်နာရီကို ဥတုသုံးပါး စလုံး မချွတ်တော့တာထား၊ အကာလညအခါများမှာပင် နာရီမချွတ်ဘဲ

အိပ်တတ်သူ ဖြစ်သည်။ ကျွန်တော်က နာရီမေးလျှင် နည်းနည်းတော့ ရှက်သွားတတ်သည်။

"နေပါဦး၊ ရှစ်နာရီခွဲလောက်တော့ ရှိအုံထင်သာပဲ ဆရာရဲ့၊ ခုနင်က ဘုန်းကြီးကျောင်းက ရှစ်နာရီမောင်းထိုးသံ ကြားလိုက်သယ်"

"ဘယ့်နှယ်တုံး၊ ဘုန်းကြီးကျောင်းက မောင်းထိုးသံတုံး၊ ကိုသာဆောင်ရဲ့ လက်မှာလည်း နာရီပတ်ထားပြီးတော့"

"ရော်နှယ်... အဲသဟာပြောသာပေါ့၊ ဟိုအကြီးကောင် ဆိပ်ကမ်းသာလေ၊ မနေ့က နာရီပေါ် ရေတွေမှောက်ချလိုက်သာ၊ အအေးပတ်သွားသယ်နဲ့ တူပါရဲ့"

ကိုသာဆောင်က ဟာသရှိသည်။ ပျော်ပျော်ပါးပါး နေတတ်သည်။ သူ့နာရီက ပျက်နေတာများတာကို ရိုးရိုးအကြောင်းမပြ။ နာရီအအေးပတ်လို့၊ နာရီသရီးသရဲ့ဖြစ်လို့၊ နာရီ ရင်ကျပ်ချောင်းဆိုးဖြစ်လို့ စသည်ဖြင့် ရယ်စရာ မောစရာလိုလိုနှင့် ပျက်နေကြောင်း ပြောတတ်သည်။ တစ်ခါတစ်ခါတော့ သူ့နာရီကို 'အိုးချည်းပဲ နာရီ ဆရာရဲ့၊ စက်ကဖောက်နေပြီ' လို့ ဆိုတတ်သည်။ အိုးချည်းပဲဆိုတာက 'Ogival' နာရီကို ဆိုလိုခြင်း ဖြစ်သည်။ သည်နာရီကို ပစ်လိုက်ပါတော့၊ အသစ်တစ်လုံး ဘယ်လောက်မှ မပေးရပါဘူးဆိုတော့ ကိုသာဆောင်က နာရီ၏ သမိုင်းကို ပြန်တူးဆွတတ်သည်။

"သဟာက ကျွန်တော့်အဘိုးအမွေ ဆရာရဲ့၊ မြင်းခြံပုလိပ်ရုံးကြီး ဆောက်တုန်းက ကျွန်တော့်အဘိုးက လက်သမားခေါင်းတွေထဲက တစ်ယောက်လို့ ဆိုသာပဲ၊ ရုံးကြီးဆောက်ပြီးတော့ အင်္ဂလိပ် ဒိစတိတ်မင်းက ပေးသာ ပြောသယ်၊ အဘိုးသေ အဖေရ၊ အဖေသေ သာဆောင်ရဗျာ"

ဒိစတိတ်မင်းက district officer ကို ပြောခြင်း ဖြစ်သည်။ ကျွန်တော်က ရ ရပါဦးတော့ဗျာ။ မကောင်းတော့တာကို ဖြုတ်သိမ်းထား

ပြီး ကောင်းတာကို ပတ်ကရောပေါ့ဆိုတော့ ဘာမှတော့ မဖြေ။ သူ့အကြောင်း သူ့ခံစားမှုကို ကျွန်တော်လည်း မသိ။ မက်ရေစက်ရေ ပတ်နေတတ်တာ ဆတော့ ပြောင်းမသွားပေ။ တစ်ခါတစ်ခါ လက်သမားခေါ်လို့ လိုက်သွား သည့်အခါ မတွေ့ရတာ များသော်လည်း အလုပ်ကလေး ပါးလျှင်တော့ သူ့အိမ်ကလေးရှေ့က သရက်ပင်အောက်က ရွှေပေါ်ခုံမှာ လုပ်လက်စ တစ်ခုခုနှင့်အတူ တွေ့ရတတ်ပါသည်။ ခရမ်းချဉ်သီး 'တာ' ကလေးတွေ ရိုက်နေတတ်သည်။ တို့ဟူးဗန်းကလေးတွေ ရိုက်နေတတ်သည်။ လက်ဖက် ရည်ဆိုင် ခွေးခြေကလေးတွေ ရိုက်ရတာများသည်။ ကျွန်တော်ကိုယ်တိုင်က စာရေးရတာညောင်းလို့ သူ့ရှိရာ သရက်ပင်အောက် ရောက်သွားလျှင် ဘယ့်နှယ်တုံး ဆရာရဲ့၊ ဦးနှောက် ရွှေပေါ်ထိုးလိုက်ရတာ ရွှေဆော်စာ ဆက်တော်ထွက်ကဲ့လားလို့ ဆီးမေးတတ်သည်။ သူ့မယား မစိန်နွဲ့တ ရာနွေးဗန်းကလေး လာချကာ "သူကြီးမရှိတော့ ရွာဆူ၊ အမြည်းမရှိတော့ ဘာပူသယ်ဆရာကြီးရဲ့၊ မနက်က ထန်းလျက်လေးငါးခဲရှိသာ 'တို့လယ် သမား' စားသာနဲ့ ကုန်သာပဲ။ သင်းမှ ရင်မကျပ်သယ်" လို့ ညည်းတတ် မြဲ ဖြစ်သည်။ သည်နေရာမှာတော့ ကိုသာဆောင်၊ မစိန်နွဲ့တို့၏ ကလေး တွေအကြောင်း ပြောရတော့မည်။ ကိုသာဆောင်က လူကသာ လက်သမား သီချင်းများတော့ ကြိုက်သည်။ ကက်ဆက် အဟောင်းကလေးရှိသော်လည်း [illegible] ထောင်ရသည်မရှိ။ ကက်ဆက်တစ်လုံးတွင် ရှိရမည့် [illegible] တို့ တစ်မျိုးမဟုတ် တစ်မျိုး ချွတ်ယွင်းနေတာများလေရာ [illegible] နှင့် ပါးစပ်ကသာ သီချင်းညည်းနေတတ်သည်။ ဆိုတော့လည်း [illegible] သီချင်းမဆို။ ရှေးက တေးသံရှင် ရုပ်ရှင်မင်းသားကြီး [illegible] သည့် ခေတ်ဟောင်းသီချင်းတွေကိုသာ ဆိုသည်။ ရှေးလာ [illegible] တွေကို ဆိပ်ကမ်းသာ၊ တို့လယ်သမား၊ ဘိုးဘိုးဆောင် [illegible] သာသနာ စသည်အားဖြင့် မှည့်ထားသည်အထိ [illegible]

ကျွန်တော်က 'မဂ္ဂင်ရှစ်ပါး' ကျတော့ မမှည့်ဘူးလားဆိုတော့ မမှည့်
ကောင်းဘူးထင်သယ် ဆရာရဲ့ဟု ဆိုလေသည်။ မစိန်နွဲ့က သူ့သားတွေ
အကြောင်း ပြောတတ်သည်။

"မနေ့က တို့လယ်သမားနဲ့ ဘိုးဘိုးအောင် ထသတ်ကြသာ
ဘိုးဘိုးအောင် ထိပ်ပေါက်ကရော၊ သည်တော့ ညီကို သည်လောက် လုပ်
ရပါ့မလားလို့ စကြာသိုက်က ထထိုးသာပဲ၊ သားယောက်ျားကလေးတွေ
များ မကောင်းချက်တော့"

တစ်ခါတလေ ကျွန်တော်ကိုယ်တိုင် အူချာပေါက်ရသည်လည်း
ရှိ၏။ ကိုသာဆောင်ကတော့ လူအေး။ လက်သမားပညာတော့ သဘော
တရားရော လက်တွေ့ပါ တတ်သူဖြစ်သည်။ တစ်ခါတရံ သူ့ထံက ထူး
ဆန်းတာတွေ ကြားရသည်။

"အိမ်ဆောက်သယ်၊ အိမ်ဆောက်သယ်နဲ့ လွယ်မှတ်လို့၊ မြို့မယ်
ပိုဆိုးသာပေါ့၊ မလေ့နားမလည်၊ ထုံးနားမလည်ဆိုတော့ ဇာတ်စရိုက် ပျက်
ကရော။ အဆောက်အအုံများဆောက်ရင် မိကျောင်း၊ ယက်မ၊ ဆင့်
ယောက်ထုပ်၊ ဒိုင်း၊ ဒိုင်းချုပ်၊ အုန်းလက်၊ ကျား၊ ဝမ်းဘဲတောင်၊ သွ
တန်း မှန်ရသယ်။ မိုးတားခါးပန်းဒိုင်းပိတ် ညီရသယ်၊ သွပ်မိုး၊ ကြမ်းခင်း
ပျဉ်ထောင်၊ မျက်နှာကြက် သပ်ရပ်ရသယ်၊ တံခါး၊ ပြတင်း၊ ကျည်းတွေ
မှန်လည်လုရသယ် ဆိုသာလောက်နဲ့ သည်ခေတ် ပြီးကြသာကောဆရာရဲ့
ပြောကြကြေးဆိုရင် အင်နန်သေးယယ်တဲ့ ကိစ္စဖြစ်တဲ့ ပန္နက်ကြိုးကိုင်သာ
ကအစ အရေးကြီးသယ်"

ပန္နက်မချမီ မြေညီညှိရသယ်။ ဒါမှ ပန္နက်ကြိုးပြေးကောင်းသည်
ခန်းထောက်၊ ပေတံ၊ ပန္နက်ကြိုး၊ ပန္နက်တံ၊ မှန်ငုတ်၊ ချိန်သီး၊ ရိုက်
ကအစ ပြည့်စုံနှင့်ရသည်။ တနင်္ဂနွေသား၊ အိမ်ဆောက်ဌား၊ မှတ်သား
ရွေးချယ်ရာ။ ကြာသပတေး၊ သောကြာသား ကိုင်ဌား ကြိုးကိုသာ။

လျှင်နဂါး၊ စနေသား နက်ထား ပန္နက်မှာ။ တနင်္လာသား ဆောက်လိုပြား ဥဩစားသတိမှာ။ သောကြာသား ပေလွှနစ်တွေ၊ ကိုင်လေ ကြိုးကိုသာ။ တနင်္ဂနွေ ပန္နက်ချ၊ စိုက်ထ ဆောက်အပ်စွာ၊ ဤသွင်ပြင် ချမ်းသာမြင်၊ လုတွင် ကြွယ်ဝရာ၊ နေ့အလိုက်ကိုသာ ဆောင်ရွက်ပြသော လင်္ကာများ ဖြစ်သည်။ ကျွန်တော်က ဗုဒ္ဓဟူးသားဆိုတော့ကော ကိုသာဆောင်က ဆေးလိပ်ကို အူအောင်ဖွာရင်း ရွတ်ပြသည်။

"ဗုဒ္ဓဟူးပင်၊ အိမ်ဆောက်လျှင် အောင်မြင်စေဖို့ရာ၊ တနင်္လာသား၊ ဂျွန်သား၊ မမှားကြိုးကိုင်ရာ၊ ပန္နက်မမှားနက်စေပြား၊ နေ့ကား အင်္ဂါသား၊ ဤသို့ပြုကာ များစေ မုချ ချမ်းသာယာဆိုသယ်၊ ဆရာတို့ကတော့ ခေတ်ဆရာတွေဆိုတော့ ဒါတွေ ယုံချင်မှ ယုံမယ်"

အိမ်သစ်များ ဆောက်ပြီးသည်နှင့် ဆေးဖြင့် ပူဇော်ရသည်။ ဆိပ်ဖူး၊ လင်းနေ၊ မုန်ညင်း၊ ကြောင်ပန်း၊ ရှိန်းခိုး၊ ကြက်သွန်ဖြူ၊ ကြက်သွန်နီ၊ ဆေးဒန်း၊ ကန့်တိုက်၊ ဂမုန်း၊ ရနိုင်သမျှ နမ်းဆီနှင့်ဖျော်ကာ အရင်းဟုစ၍ အဆစ်အမြစ်တို့ကို လိမ်းကြရသည်။ အိမ်ဆောက်သစ်ကလည်း အရေးကြီးသည်။ သစ်တွင် သစ်ယောက်ျား၊ သစ်မိန်းမရှိသည်။ အရင်းအဖျား ညီသော သစ်က သစ်ယောက်ျား၊ အရင်းကြီး၍ အဖျားငယ်သော် သစ်မိန်းမ။ အဖျားက သေးလွန်းတော့လည်း သစ်တံရို ဖြစ်ရပြန်သည်။ သစ်ဆွေး၊ အခွံဆွေး၊ အခွံရှက်၊ သစ်နာကို ရွေးကာပယ်ရသည်။ သစ်ကောင်းမှ မင်္ဂလာ ရှိသည်။ အိမ်ကျက်သရေရှိသည်။ ဣာဓြေရှိသည်။ ဥရုသစ်၊ ကြံဖွာန်းသစ်ကို မှတ်ပြီးသည့်အခါ ထမင်းဆုပ်ကို အလုံးမကွဲအောင်ဆုပ်၍ အတွင်းမှာ ရွှေဒင်္ဂါး၊ ငွေဒင်္ဂါးမြှုပ်ကာ တင်ရသည်။ နတ်အပေါင်းကို ပူဇော်ပါကြောင်း အပ်ပြီးမှ အခြားတိုင်တွေကို သဘောညွှတ်သော 'အင်း' ဖြင့် ထမင်းဆုပ်ကို တင်။

"ပန္နက်အကြောင်းပြောရာကနေ ဘယ့်နှယ် တိုင်တွေဘက် ရောက်သွားတာတုံး ကိုသာဆောင်ရဲ့"

"စကားဆိုသဟာလည်း လွှသွားများလို ဖယ်သာပေါ့ ဆရာရဲ့၊ ပန္နက်များရိုက်ရင် ခန်းထောက်တံဆိုသာရှိသယ်၊ သစ်သားချောင်းကလေး ရွှေသော်ထိုးထားတဲ့ တုတ်ချောင်းကလေး ပြောပါတော့၊ ဒါက ပန္နက်ချတော့မှ အရေးကြီးသာ မဟုတ်ဘူး၊ ထုပ်၊ ယောက်၊ ယက်မများ တပ်တော့လည်း အရေးပါသယ်၊ နောက် ဆယ်ပေတံလည်း လိုသယ်၊ ဆယ်ပေတံမှာလည်း ပေကွက်၊ ပေဝက်ကွက်ဖော် ရေးမှတ်ထားရသယ်၊ ပန္နက်ကြိုးလုပ်မယ့်ကြိုးကလည်း မကြီးရဘူး၊ ကြီးတော့ လေးကရော၊ လေးတော့ မဖြောင့်တော့ဘူးလ၊ သေးလွန်းပြန်တော့ကောတဲ့၊ ဆွဲအား မကောင်းပြန်ဘူး၊ သည်တော့ ဘန်ချည်ကြိုး၊ ဘိလပ်မြေကြိုးများဟာ အကောင်းဆုံးပဲ"

ကြိုးရင်းကို အနောက်အရပ် ဒါမှမဟုတ် မြောက်အရပ်မှာ ထားရမည်။ ကြိုးဖျားကို အရှေ့အရပ် ဒါမှမဟုတ် တောင်အရပ်မှာ ထားရမည်။ အနောက်နှင့် မြောက်အရပ်က အဆန်။ တောင်နှင့် အရှေ့က အစုန်။ ဒါမှမဟုတ် အမြစ်အရပ်နှင့် အညွန့်အရပ်။ အမြစ်က အရင်း၊ အညွန့်က အဖျား။ သည်တော့ သစ်ဝါးတို့၏ အရင်းပိုင်းကို အနောက်နှင့်မြောက်မှာ ထားရသည်။ အဖျားပိုင်းကိုတော့ အရှေ့နှင့်တောင်မှာ ထားရသည်။ ကြိုးဖျားက အရှေ့နှင့် တောင်ဘက် ထားရသည်ဆိုသော်ငြား ရာသီအရ နဂါးဦးခေါင်းက အနောက်လှည့်ချိန်နှင့် ကြုံလျှင် ကြိုးဖျားကို တောင်မှာမထားရဘဲ၊ အရှေ့က ထားရသည်။ နဂါးခံတွင်း ကြိုးဖျား မသွင်းစကောင်း။ ရှေးက အရပ်ညွှန်း ကွန်ပါအိမ်မြှောင်မရှိတော့ မြောက်စူးစူးက မူဝံကြယ်ကိုမှူသေထားကြရသည်။ တောင်နှင့်မြောက် ပန်းလုံးတိုင်နှစ်တိုင် စိုက်၍ မူဝံကြယ်နှင့် ဖြောင့်အောင် ချိန်ခြင်းအားဖြင့် တောင်မြောက် မှုမှန်ကို ရလေသည်။ ပန္နက်တံကတော့ ဝါးလည်းရသည်။ သစ်ချောင်းလည်း ရသည်။ တချို့အိမ်ရှင်တွေက သူတို့ စိတ်ကြိုက်အသားကို ပေးတတ်သည်

လည်း ရှိ၏။ ပန္နက်တံ ချွန်တော့လည်း အရင်းကို အောက်စိုက်၍ ရွှန်းစေ၊ အထက်အောက် မမှားစေနှင့်။

"ချိန်သီးကကော အရေးကြီးတာပဲလား"

"ကြီးပြီလား ဆရာရဲ့၊ အထက်နဲ့အောက် မတ်နေဖို့ သည်ကောင်အရေးပေါ့၊ ချိန်သီးကြေးတုံးတွေ ပေါပါသယ်၊ ဂျင်လိုအလုံးနဲ့ အောက်ခြေက အချွန်နဲ့ဟာကော၊ ကြိုးနဲ့ တန်းချလိုက်တော့ အချွန်ထောက်တဲ့အရာဟာ အမှန်ပေါ့"

"မှန်ငုတ်ဆိုတာကကော"

"ရော်... ဆရာနှယ်၊ မြေတူးလိုက်လို့ မူလ ပန္နက်တံ ရိုက်ရာနေရာ အတိအကျကို ရှာနိုင်အောင် စိုက်ရတဲ့ ငုတ်ပေါ့ဗျာ၊ သစ်သား နှစ်တောင်လည် ကလေးချွန်ပြီး မူလပန္နက်နဲ့ နှစ်ပေခွာစိုက်၊ အုတ်ရိုးပန္နက်ဆိုရင် သုံးပေကွာစိုက်။ ပန္နက်ကြိုးကျရာ မှန်ငုတ်ထိပ်မှာ သံကလေး ရိုက်ထားရသယ်။ ဒါက ဆောက်မယ့်အဆောက်အအုံမှာ ထောင့်ရှိသမျှ စိုက်ထားရယ် ခင်ဗျာ။ အလျားတစ်ချောင်း၊ အနံတစ်ချောင်းနဲ့ လေးထောင့်ဆိုတော့ ရှစ်ချောင်းစိုက်ရသာကော။ မှန်ငုတ်ပြည့်စုံမှ မူလပန္နက်အလျားအနံ မှန်ကို ရှာနိုင်သယ်"

ခရမ်းချဉ်သီးသေတ္တာ (တာ) ကြမ်းကလေးတွေ ရိုက်နေရင်း အိမ်ကြီး ရနိုင်ဆောက်သည့်အခါ မြန်မာတို့ အရိုးအဆက် ယုံကြည်ခဲ့ကြသော ကြိုးပန္နက်ကိုင်နည်းတွေ ရှင်းပြနေသည့် ကိုသာဆောင်ကို ကျွန်တော် တရုဏာ သက်မိသည်။ သူသည် မြို့မှာ လာနေရတာကိုပဲ ဝမ်းမြောက်နေသူ ဖြစ်သည်။ ရွာမှာနေတုန်းက အဆင်ပြေရဲ့လားဆိုတော့ တစ်ရွာလုံး လက်သမားချည်းပါဗျာ၊ လက်သမားမရှိတဲ့ရွာက စစ်စစ်ပေါက်ပေါက်လားပါမှ လိုက်ရတာပါဟု ပြောပြတတ်သည်။ ကိုသာဆောင်တို့က ဘိုးဘွားစဉ်ဆက် လက်သမားတွေ။ အဘိုးကိုင်ခဲ့သည့် လက်သမားကိရိယာ

တွေက အဖေ့ဆီ ရောက်သည်။ အဖေ့ပစ္စည်းပစ္စယတွေက သူတို့သားသမီးတွေဆီ ရောက်သည်။ ကိုသာဆောင့်လက်ထက်မှာတော့ သားကြီး ဆိပ်ကမ်းသားသည်ပင် ရွှေဘော်ထိုး၊ ဆောက်ဖြတ်၊ စရွေးထွင်းလောက်တော့ ရနေပြီ။ မြေတိုင်မန္တန်ကို အလွတ်ကျက်ခိုင်းထားသည်။ တစ်ခါက ကျွန်တော် မေးဖူးသည်။ "ကလေးတွေ ရွှတ်တာဖတ်တာ များတော့ ဘယ်နှယ်လုပ်မတုံး"

"ဆရာ့နှယ်၊ သူက များလည်းရသယ်၊ မန္တန်ထဲမှာ ချုချုချီချီ၊ တီတီတွတ်တွတ်၊ မရွတ်တတ်သော်၊ ယွင်းချွတ်ချော်လည်း၊ ရှင်ပျော်စိတ်တွင်၊ ရက်ရက်ပင်တည့်၊ နတ်ရှင်စားတော်ခေါ်လှည့်လော့၊ ဟေဗေဟိ ဣမံ၊ အဂ္ဂဲ ဘုဉ္စာဟိ ဆိုသာကိုးဗျ၊ နတ်ကလည်း စားရပြီးသာပါပဲ၊ အထအန ကောက်နေသာ မှုတ်ဘူးရယ်"

ရွာက ထွက်လာတော့ မြို့မှာ နေစရာမရှိ။ ဓါဝိန်သဘော်ဆိပ်ကို တက်တော့ ဘယ်သွားရမှန်းမသိ။ သည်တုန်းကတော့ သူတစ်ယောက်တည်း ရောက်လာခြင်း ဖြစ်သည်။ ရွာခံဘုန်းကြီးကျောင်းကို ပြေးရသည်။ ထိုမှ အလုပ်ကလေးရတော့ ဆိုက် (Site) ထဲမှာပဲ သစ်ပုံစောင့်ရင်း နေခွင့်တောင်းရသည်။ မြို့မှာတော့ တိုက်တွေဆောက်တာများသည်။ အင်ဂျင်နီယာကချည်း သည်နေရာတူး၊ သည်နေရာဆွ၊ သည်နေရာယက်၊ သည်နေရာဖယ် လုပ်နေတော့ သူ့အလုပ်က လက်သမားခေါင်း ခိုင်းသမျှ လုပ်ပေးနေရတာပဲ ရှိသည်။ သူ့လက်ရာကို ကျေနပ်ကြတော့ အင်ဂျင်နီယာက သူ့ ဆောက်လေရာ ခေါ်တတ်သည်။ သူ့တစ်ကိုယ်စာနေဖို့ ပြဿနာမရှိသော်လည်း မိသားစုခေါ်ဖို့တော့ မဖြစ်နိုင်သေး။ တောသူတောင်သားဆိုတော့ ဗရာကြော်နှစ်ကွင်းလောက်နဲ့လည်း စားနိုင်သည်။ အသုပ်တစ်ပွဲနဲ့လည်း ငြိမ်းရသည်။ ပိုက်ဆံကလေး စုမိတော့ ဘုန်းကြီးကျောင်းကို ပြေးကာ ရွာလူကြုံကောင်းကို ရှာပြီးမှ ပိုက်ဆံထည့်ပေးလိုက်ရသည်။ တချို့

လူကြုံက သုံးဖြုန်းပစ်လိုက်တာရှိသောတော့ ဦးဇင်းပဲ တာဝန်ယူကာ အရောက်ပို့ပေးတော်မူ၏။ မြို့ကို သားမယားခေါ်ချင်တော့ သူ့ဆရာကို အကူအညီတောင်းသည်။ သူ့ဆရာက မဆောက်ရသေးသည့် မြေကွက်တွေမှာ နေကြဖို့ ခွင့်ပြုသည်။ မကြာခင် ဆောက်တော့မည့် မြေကွက်ဆိုတော့ မြေပိုင်ရှင်ကလည်း အင်ဂျင်နီယာ တာဝန်ယူလျှင် နေစေခွင့် ပြုတတ်သည်။ သည်လိုနှင့် မြေကွက်တစ်ကွက်ပြီးတစ်ကွက် ပြောင်းပြောင်းနေလိုက်ရတာ မန္တလေး ငါးမြို့နယ် နံ့လေပြီ။ တိုက်ကြီးတွေဆိုတော့ အနည်းဆုံး တစ်နှစ်နီးပါး ဆောက်ရသည်။ ကလေးတွေ ကျောင်းထားရတာ အရွှေ့အပြောင်း များသော်လည်း သည်နည်းပဲရှိတော့ ရွှေ့ရသည်သာ။ နောက်တော့ ဦးဇင်းက နှစ်ယောက် ကိုရင်ဝတ်၊ နှစ်ယောက် ကျောင်းသားအဖြစ် ကျောင်းကို ခေါ်ထားလိုက်မှပဲ ကလေးဝေယျာဝစ္စ ငြိမ်းလေသည်။

"သည်လိုနဲ့ ကျွန်တော်တို့အိမ်ကလေး စငားဖြစ်သယ်၊ သူများမြေထဲမှာ အမြဲနေလို့မဖြစ်သာက တစ်ကြောင်း၊ ဆောက်မယ့်မြေနေရာမယ် အိမ်ဆောက်ပစ္စည်းတွေ ကြုံချတဲ့အခါ ကိုယ်က အလိုလိုနေရင်း ပစ္စည်းစောင့်ဖြစ်ရရော၊ လခရယ်လို့လည်း ရသာမှုတ်ဘူး၊ တာဝန်ကြီးလိုက်သာများ။ ညဘက် အိပ်မပျော်ဘူး။ သူများမြေထဲ နေရတော့ ပစ္စည်းပျောက်ရင် ကိုယ့်ထင်တော့မှာ။ သည်တော့ စိန်နွဲ့နဲ့ တိုင်ပင်ပြီး အိမ်ကလေး စငားသယ်"

ကိုသာဆောင့်မယား မစိန်နွဲ့ကတော့ တောသူတောင်သားပီပီ အလကားမနေပါ။ ဝက်ကလေးတွေ မွေးဖက်မွေးသည်။ ဒီအိမ်ပေါက်နေ ထမင်းရည်နှင့် ထမင်းကျန် ဟင်းကျန်ဟောင်းများ လိုက်စုကာ ကျွေးလျှင်း ဝက်စားကျင်း တရှုတ်ရှုတ် ဖြစ်နေတတ်သည်။ ဈေးဆိုင်စပ်တွေမှာ ဟက်ပြားလည်းခေါ် ပဲပြားလည်းခေါ်သည့် အလေ့ကျပင်တွေကို တစ်စိတ်စလက်နှင့်ရိတ်ယူကာ အိမ်အရောက် ရှက်သည်။ ဒါကိုမှ နုပ်နုပ်ညှိ၊ ထမင်းသိုး

ဟင်းသိုးရည်တွေနှင့် ရော၍ မနက်နှင့် ညကျွေးရခြင်း ဖြစ်သည်
ကျွန်တော်က ပင်ပန်းတာနဲ့ ကိုက်ရဲ့လားဗျာလို့မေးတော့ မစိန်နွဲ့
မဆိုးပါဘူးလို့ ဆိုသည်။ မွေးဖက်ဆိုတာက ပိုက်ဆံရှိသူက ဝက်ကော
ပေါက်ကလေးတွေ ဝယ်ပေးရသည်။ မွေးသူက မွေးရသည်။ ရောင်းလော
ပြီဆိုတော့ ထုတ်ရောင်းကာ ရသမျှ ထက်ဝက်ခွဲယူကြရခြင်း ဖြစ်သည်

"ကျွန်တော်က မလုပ်နိုင်းပေါင်ပါဗျာ၊ ဝက်မွေးသာ နောက်
တော့ ငရဲနဲ့ ဝက်ချေး ကျန်သာပါလို့ ပြောသာပဲ၊ ပြောမရတော့
ပေါ့။ ပြောသေးသာ၊ သားတွေ ရှင်ပြုဖို့ စုသာဆိုသာပါသေး"

ဝက်တွေ ကြီးလာတော့ မစိန်နွဲ့တစ်ယောက်တည်း မနိုင်တော့
အကြီးနှစ်ကောင် ဦးဇင်းကျောင်းက နုတ်ထွက်နိုင်းရတော့သည်။ အင
ဆုံးကောင်မွေးပြီးတော့ မစိန်နွဲ့ ချူချာလာခဲ့သည်။ ဘာရောဂါမှန်းလည်
မသိ။ ဆေးဝါးနှင့် အာဟာရလို့ အလျှင်မမီတော့ ပိုဆိုးသည်။ ကျွန်တော်
တော်ကြပါတော့ဗျာ၊ နောက်ထပ် သားသမီး မယူကြပါနဲ့တော့ဆိုတေ
ကိုသာဆောင်က လွှကလေး တကျိုကျိုသွေးရင်းက ပြုံးလေ၏။ ပြုံးရင်း
သီချင်းကလေးညည်းရင် ညည်းနေတတ်သည်။ သီချင်းညည်းနေရာ
လွှအိမ်ကို မျက်စိတစ်ဖက်မှိတ်ရင်း ဖြောင့်မဖြောင့် ကြည့်သည်။
သည့်ဘက် ဆွဲဆန့်ကာ ပြန်ကြည့်သည်။ ညီပြီဆိုတော့ တံစဉ်းက
နှင့် ရှေ့တိုးနောက်ငင် သွေးပြန်လေသည်။

"ဆရာက ပြောတော့သာ လွယ်သာ၊ ကိလေသာများဟာ အ
ဖို့ ခက်သားပဲ၊ ခင်မောင်ရင်ကြီးဆိုသယ်၊ ရတနာသုံးပါး ကြည်ညိုသ
သံယောဇဉ်တွေ လည်ကာဝိုင်းတဲ့ ကာမဂုဏ်တိုင်းကို အစဉ်ရွာမယ်။
သာရယ်၊ ကြားသာရယ်၊ မွေးသာရယ်၊ အရသာရယ်တဲ့။ ကာမဂုဏ်
ဘယ့်နယ်လုပ် အစဉ်ကွာလို့ရမှာတုံး။ ရွာမရလို့ သာဆောင်တို့ က
တွေများ နေသာပေါ့။ ကြည့်ပါလား ပန္နက်တိုင်ကလေးတွေ၊ မှန်

ကလေးတွေလားကျလို့၊ ပန္နက်ကြီးက တိုင်စေ့တင်းနေအောင် ချည်ထား ရသလို သံယောဇဉ်က နှောင်ဖွဲ့ထားလေတော့…”

ကိုသာဆောင့် ဝါကျက မဆုံးတော့ပါ။ သည်တော့ ကျွန်တော် က မေးခွန်းတစ်ခုဖြင့် စကားလမ်းကြောင်း လွှဲရသည်။ လွှဖယ်တယ်ဆို တာ ဘာလဲ၊ သည်လိုဆိုတော့ ချက်ချင်း လွှဘက် စိတ်ရောက်သွားကာ မျက်စိတစ်ဖက်မှိတ်ပြီး ရှိန်ပြန်လေသည်။ ကိုသာဆောင့်အဖြေအရတော့ လွှထိုးသည့်အခါ လွှစာတွေ ရှောရှာရှူရှု ထွက်နိုင်ဖို့နှင့် လွှစားချောင်ချို ရန် စွယ်များကို ဘယ်ညာတစ်လှည့်စီ အပြင်ငိုက်ထားရခြင်းကို ဆိုသည်။ လွှသွားကို မ ‘ဖယ်’ မီ လွှစားညီစေရန်အတွက် စွယ်တွေကို တံစဉ်းဖြင့် ညီအောင် ညှိရသည်။ စွယ်တွေ မငိုက်မညီလျှင် လွှဖြတ်သည့်အခါ ဖယ် များသည့်ဘက် လိုက်တတ်သည်။ ဒါဆိုရင် လွှကို စစ်ရသည်။ ဖယ်များ သည့်ဘက် ခုံးနေလိမ့်မည်။ ဖယ်နည်းသည့်ဘက်က ခွက်နေလိမ့်မည်။ ကိုသာဆောင်က လွှဖယ်တော့ စွယ်ဖျားကလေးတွေ တစ်ခုနှင့်တစ်ခု လွတ်အောင် မဖယ်ရပြန်ဘူး။ စွယ်ဖျားချင်း လွတ်အောင်ဖယ်တော့ ဖယ် လမ်းကျယ်လို့ သစ်သားဖြတ်တဲ့အခါ တုံးသာပေါ့လို့လည်း ဆိုသည်။ စွယ်နောက် မလန်ရဘူး။ လွှဖယ် ညီရမယ်။ စွယ်ဖိုစွယ်မ ခေါ်တဲ့ တစ် ချောင်းကြီးတစ်ချောင်းသေး ဖြစ်လို့လည်း မကောင်းဘူးလို့လည်း ဖြည့် သေးသည်။ လွှဖြတ်တော့ ပယ်မည့်ဖြတ်စပိုင်းကို ညာက ထား၍ ဖြတ်၊ လွှထိုးတော့လည်း လွှစွယ်ဆုံးအောင် ထိုးဖြတ်၊ သည်လိုမှ လွှစွယ်အားလုံး အသုံးညီနိုင်သည်လို့လည်း စွက်လိုက်သေးသည်။

ကျွန်တော်က ကိုသာဆောင်ကို သဘောကျသည်။ သူသည် ခံနိုင် ရှိသူ ဖြစ်သည်။ အောက်သက်ကြေသူ ဖြစ်သည်။ သဘောတကျ ရှိ လက်တွေ့ပါ နားလည်သူ ဖြစ်သည်။ ဝိဇ္ဇာမည်သော ပညာဉာဏ်ကို သည်းကောင်း၊ သိပ္ပံမည်သော လက်အတတ်ကိုလည်းကောင်း တတ်မြောက်

သူပေတကာ။ ခုတလော ကိုသာဆောင် ပျောက်သွားပြန်လို့ မေးကြည့်တော့ သူ့ဆရာ အင်ဂျင်နီယာက မြောက်ပြင်ဘက်မှာ အလုပ်ဝင်ဖို့ လာခေါ်သွားသည်ဟု ဆိုသည်။ သားကြီးဖြစ်သူ ဆိပ်ကမ်းသာသည်ပင် လက်သမားနောက်လိုက် ဖြစ်နေပြီ။ သည်အတိုင်းဆိုတော့လည်း ကိုသာဆောင် လက်သမားပစ္စည်းတွေ သူ့သားကြီးကို မိဘအမွေအဖြစ် လက်ဆင့်ကမ်းလိမ့်မည်ဟု ထင်သည်။ တစ်ရက်တော့ ကိုသာဆောင် ကသုတ်ကရက် ရောက်လာသည်။ သည်လကုန်လျှင် အိမ်ငှားရက်ပြည့်ပြီ။ မြောက်ပြင်က ဆိုက်ထဲမှာ သားအဖတစ်တွေ ပြောင်းနေကြမည်ဆိုလေသည်။ ကျွန်တော်ကတော့ သူတို့မိသားစု ပြောင်းကြတော့မည်ဆိုတော့လည်း စိတ်မကောင်းဖြစ်ရသည်။ ကျွန်တော်က ကိုသာဆောင်ကို သည်အကြောင်း ပြောပြတော့ သူက ပြုံးသည်။

“ဆရာ့နှယ်၊ ဆရာကသာ ဆန်းသာ၊ ကျွန်တော်တို့က မဆန်းဘူးရယ်၊ အိမ်ပြောင်းသာ ရွှေ့သာများအခါ နှစ်ဆယ်လောက်တောင် ရှိရောမယ်။ သူများမြေပေါ်လည်း နေခဲ့ဖူးလှပေါ့၊ ကိုယ့်ထရံ ကိုယ့်ကပ်ကြမ်းကလေးနဲ့လည်း နေခဲ့ဖူးလှပေါ့၊ ပြောင်းကြစို့ဆိုရင် ထရံလေးချပ်ရွှေ့အမိုးနှစ်ချပ်ရွှေ့ပြီး နေလိုက်ကြတာများလည်း ရှိးနေပေါ့။ အခုက အိမ်လခ တိုးတောင်းနေသာ ဆရာရဲ့၊ ခုနစ်ထောင်ပေးနေရာက ဆက်နေရင်တစ်သောင်းဆိုတော့ မတတ်နိုင်တော့ဘူး”

အိမ်ပြောင်းအိမ်ရွှေ့သည်ပင် အခါနှစ်ဆယ်ကျော်ပြီဆိုပါသကော။ ထိုနေ့က ကိုသာဆောင် ကျွန်တော်တို့အိမ်ကို လိုက်လာသည်။ သူ့ထုံးစံအတိုင်း ပတ်နေကျ ‘အိုးချည်းပဲ’ နာရီကြီး ပတ်လိုက်လို့။ သည်တစ်ခါတော့ သူ့နာရီသွားပုံရသည်။ ပတ်ထားပုံကိုက နှစ်ပေါင်းသုံးရာမှာ တစ်စက္ကန့် မယွင်းချေဟု ဆိုကြသော ကမ္ဘာကျော် ဘစ်ဘင်းနာရီကြီးကို ကြိုးတပ်ပြီး ပတ်ထားပုံ။

ကျွန်တော်က နာရီကောင်းသွားပြီလားဆိုတော့ ကျောက်ငါးကြင်းလဲလိုက်တော့ ကောင်းသွားပြီ ဆရာရဲ့ဟု ဆိုသည်။ ကျောက်ငါးကြင်းဆိုတာကို ကျွန်တော် မသိ။ ကိုသာဆောင်က ကျွန်တော် ညှော်ခံသည့်ကော်ဖီကို မုန့်ကလေးနှစ်ချပ်နှင့် တို့ကာစားသည်။ ပြီးမှ သူ့ထုံးစံ မထင်ရသော စကားကိုဆိုသည်။

"ကျွန်တော်တို့ လက်သမားများမယ် စရွေးနဲ့ မလွတ်ဘူးဆရာရဲ့၊ ထောင့်ချိုးဆက်စရွေးတဲ့၊ အဖြောင့်ဆက်စရွေးတဲ့၊ မျှဉ်းပြိုင်စရွေးတဲ့၊ အဓိက သုံးမျိုးရှိသာကိုး၊ သစ်သားတစ်ချောင်းနဲ့ သစ်သားတစ်ချောင်း ဆက်ချင်ရင် သည်စရွေး သုံးမျိုးထဲက တစ်မျိုးကို သုံးရတယ်၊ သည်မှာမှ ထောင့်ချိုးဆက်စရွေးမှာ စည်ကြီးပိတ် ထောင့်ဆက်စရွေးတို့၊ လက်ယှက် ခွထောင့်ဆက်စရွေးတို့၊ နဘေထောင့်ဆက်စရွေးတို့ရယ်လို့ ရှိသယ်၊ အဖြောင့်ဆက်စရွေးမှာလည်း သည်လိုပဲ ဖွန်မြီးအဖြောင့်ဆက်စရွေးတို့၊ မြင်းဇက်ခွ ဖြောင့်ဆက်စရွေးတို့ စသည်အားဖြင့် ရှိပြန်သလိုပဲ မျှဉ်းပြိုင်စရွေးမှာကောတဲ့၊ လျှာဆက်စရွေးတို့ နဘေဆက်စရွေးတို့ ရှိပြန်ရော…"

ကိုသာဆောင်က ကျွန်တော် မမေးဘဲ ပြောနေခြင်းဖြစ်သည်။ သူပြောပြသလောက် စရွေးပေါင်း သုံးဆယ်လောက် ရှိသည်။ စရွေးဆိုတာ တစ်ဖက်သစ်သား အပေါက်ထဲကို တစ်ဖက်သစ်သား အကျတာပ်ရခြင်းဖြစ်သည်။ စရွေးတံနှင့် စရွေးဖောက် ခပ်စေးစေးကလေးရှိပါမှ ရေရှည်နိုင်သည်။ အခံနှင့်အကပ် ချပ်ချပ်ရပ်ရပ် ရှိရသည်။

"သည်လိုပါပဲ ဆရာရယ်၊ ကမ္ဘာ့ရေပဆိုသာကော၊ ကမ္ဘာ့ဇ ကံကြောင့်ဖြစ်ရတဲ့ ပစ္စုပ္ပန်ရုပ်မှာ ရေးကပြုခဲ့ဖူးတဲ့ မကောင်းမှုကံကြွင်းက အမြဲတမ်းစရွေးစွပ်ချင်နေသာ၊ တစ်ခါတလေများ စရွေးကောင်းများလို့ ဝန် 'ထမ်း' အားတောင် ကောင်းလိုက်သေး ဟေး… ဟေး… ဟေး"

ကျွန်တော်က အိမ်အကြောင်း၊ လက်သမားအကြောင်း သိမြင် နှံ့

စပ်ရှိသော ကိုသာဆောင်ကိုသာ ငေးနေမိသည်။ သူပြောပြသမျှ မှတ်သ
စရာတွေချည်း ဖြစ်သည်။ သူတကာ အိမ်တွေ လိုက်ဆောက်နေရ
လည်း သူ့မှာ အိမ်မရှိ။ မြင်းခြံပုလိပ်ရုံးကြီးဆောက်စဉ်က သူ့အ
လက်သမားဆရာကို ဒီစတိတ်မင်းကပေးခဲ့သော နာရီကိုကြည့်ရင်း
ထလိုက်သည်။ ထသွားသော သူ့ကျောပြင်ကိုကြည့်ရင်း သည်လက်သ
ဆရာကတော့ သူ့တစ်သက် ကိုယ်ပိုင်အိမ်ကလေးနှင့် နေရပုံမပေါ်
သာ တွေးနေမိသည်။



# အိမ်ကလေး ၁၂

ခေတ်ကြီးလေးပါးတွင် အာပေါခေတ်နှင့် ပထဝီခေတ်ကို 'ဂရုရုပ' ဟု ခေါ်ကြသည်။ လေးလံထိုင်းမှိုင်းသောရုပ်ဆိုသည့် သဘောဖြစ်သည်။ သည်အိမ်ကိုလည်း ဂရုရုပဟု ခေါ်နိုင်မည်ထင်သည်။ အိမ်သည်ပင် လေးလံထိုင်းမှိုင်းသောရုပ် ပေါက်နေသောကြောင့် ဖြစ်သည်။ အိမ်ကတစ်ထပ် မြေစိုက်ဖြစ်သော်လည်း ဤရိယပုတ်လေးပါးတို့၌ အလမ္ပာယ်ဆရာ၏လက်သို့ ရောက်ရသည့် မြွေကဲ့သို့ ငုတ်တုတ်ငေါင်းစင်း၊ အင်း အဲ မလှုပ် ရှိနေပုံ ဖြစ်၏။ အိမ်က တောင်လှည့်ဖြစ်သော်လည်း တံစက်မြိတ်စွန်း နှစ်ဖက်မှာ အဟန့်ကောင်းလှသော သွပ်ရေတံလျှောက်က အရှေ့ဘက်ခြမ်းမှာ တပ်ထားသည်။ သည်တံစက်မြိတ်စွန်းမှာ တပ်ထားသည့် ရေတံလျှောက်ကလည်း တစ်ဖက်ခြံကို မြေက မကျူးဘဲ လေကျူးကျူးနေသည်။ သည်အိမ်ကို စတင်ဆောက်သည် ဆိုကတည်းက အရှေ့ဘက်ခြမ်းကို ကပ်နိုင်သမျှ အရကပ်ကာ ဆောက်ထားခဲ့ရလေရကား တစ်ဖက်သော အနောက်ခြမ်းမှာ အတန်ငယ်ကျယ်သော မြေကွက်ကလေး ကျန်လေသည်။ ထိုမြေကွက်လပ်၏ ထောင့်စွန်းမှာ ရေပေး ရေး ရေဟု သမုတ်ကြသော အချိန်

နှင့် ပေးဝေသည့် စည်ပင်သာယာရေး 'ရေ' ရောက်ရာအရပ် ဖြစ်သည်။ ပိုက်ငုတ်ကလေးမှာ ပလတ်စတစ် ပိုက်ဟောင်းတစ်ချောင်း အမြဲတပ်ထား ပြီး အနီးက ရေညှိအထပ်ထပ် ကွန်ကရစ်ခွေကန်အတွင်း ထာဝရထိုးထည့် ထားခြင်းအားဖြင့် လူ့လုံ့လမပါဘဲ ရေက သူ့အလုပ် သူ လုပ်သွားနေကျ ဖြစ်သည်။ ရေလာချိန်မှာ ရေကျမည်။ ရေပြတ်ချိန်မှာ ရေမကျ။ နို့ ရေ လာချိန်မှာ လူမရှိတော့ ရေတွေလျှံကျ မကုန်နိုင်ပါလား မေးစရာရှိလိမ့် မည်။ မစိုးရိမ်ပါနှင့်။ သည်ခြံတွင်းက သုံးခုသော အိမ်ထောင်စုထဲက တစ်စု သို့မဟုတ် နှစ်စု၊ သို့မဟုတ် သုံးစုစလုံးက ရေကျလာချိန်ကို မီး ရောင်ကို ဖျတ်ခနဲ မြင်လိုက်ရသော ဝင်လယ်တွင်း မျောပါနေသူပမာ အမြဲအကဲခတ်နေကြသူတွေချည်း ဖြစ်သည်။ သည့်နောက်မှာတော့ ပလတ် စတစ် ပုံးကြီးပုံးငယ်၊ သဘောဆေးပုံး၊ နံရံသုတ်ပတ်တီးပုံး၊ ဘာလီသံပုံး စသော ရေတို့တည်ရာ ပုံးပေါင်းမျိုးစုံတို့ ရောက်လာကြမည်သာ ဖြစ်၏။ သည်အတွက် ရေတို့ အလဟဿ ဖြစ်ရသည်မရှိ။

သည်ခြံတွင်းမှာ နေထိုင်ကြသည့် အိမ်ထောင်စုသုံးစုသည် အချင်း ချင်း ညီညွတ်ကြသော သမဂ္ဂ သဘောမရှိကြသော်ငြား သည်ရေတိုင်ကို တော့ ဘုံဝါဒစနစ် ထွန်းကားရာနေရာအဖြစ် သဘောထားကြခြင်းမှာ တော့ တူညီကြသည်ဖြစ်ရာ သည်အိမ်ထောင်စု သုံးစုမှ လာရောက်စုပုံကြ ကုန်သော ပုဆိုးဟောင်း၊ ထဘီဟောင်း၊ စွပ်ကျယ်ဟောင်း၊ လက်နှီးစုတ် ဟောင်းများကအစ စားပြီးလက်စ မဆေးမကြောရသေးသည့် အိုးဟောင်း၊ ပန်းကန်ဟောင်း၊ ဒယ်ဟောင်း၊ ယောက်မဟောင်းအလယ်၊ ထမင်းကျန်၊ ထမင်းသိုး၊ ဟင်းကျန် ဟင်းသို့တို့အဆုံး ယင်ရိုင်းအုန်းအုန်း ကြွက်ရှန်း ရှန်းနှင့် ရှိနေကြသည်ကိုလည်း အချင်းချင်း သပ္ပာယ မှုကြတာတော့ ရှိ လေသည်။

အိမ်ထောင်စု သုံးစုဆိုသော်လည်း ကျွန်တော်ပြောခဲ့သည့် 'ဂရုရုပ' အိမ်ကတော့ 'ပင်မ' အိမ်မကြီးဖြစ်သည့် အားလျော်စွာ အသရေမဲ့သော၊ ကာဋ္ဌကဏ္ဍီနတ်သမီး မီးလောင်ငုတ်တိုပေါ် ထိုင်နေဘိသကဲ့သို့ လမ်းဘက်ကို မျက်နှာပြုရင်း အိမ်ရှင်ပြန်အလာကို မျှော်လင့်နေပုံဖြင့် ရှိလေသည်။ တစ်ဖက်သော ခြံနှင့် ကပ်နေသည့်ဘက်မှာ တံစက်မြိတ်နှင့် ရေတံလျှောက် ကချည်း လေကျူးကျူးနေသည် မဟုတ်ဘဲ တစ်ထပ်လည်းပေါ်ကလေး ဝါသည့် မြတ်စွာဘုရားရှင် ကိန်းဝပ်ရာ ဘုရားဆောင် ဝေါဝေါသည်လည်း တစ်ဖက်ခြံက ဝါးထရံကိုပင် ထိလုထိခင် ကျူးချင်ချင် ဖြစ်နေသည်။ တံစက်မြိတ်စွန်းမှာ သွပ်ရေတံလျှောက်ကြီး အလျားတိုက် တပ်ဆင်ထားခြင်းအားဖြင့် မိမိအိမ်ပေါ်ကျသည့် မိုးရေတို့ သူတစ်ပါးအိမ်ကို လုံးလုံးကြီး မထိခိုက်စေရဆိုသည့် ကျင့်ဝတ်သီလကို ဆောင်ထားသော်လည်း တကယ်တမ်း မိုးရွာပြီဆိုသည့်အခါမှာတော့ တစ်ဖက်ခြံတွင်းသို့ ရေလုံးကြီးထိုးဆင်းသည်သာ ဖြစ်၏။ သွပ်ပြားရေတံလျှောက်၏ ရေပြေးရာ အခြေတစ်လျှောက်လုံး သံချေးအလိမ်းလိမ်း စားနင့်ပြီးဖြစ်ရာ ရေတံလျှောက်ဟူသော ဟန်ဓာတ်ကလွဲလျှင် အသုံးမတည့်သလို ဖြစ်နေသည်ဆိုပါစို့၊ အိမ်ဘေးပတ်လည်မှာတော့ ခြောက်ငါးမူး ပျဉ်ချပ်များ အနားချင်းထပ်ဆောင် ရိုက်ထားသည့်အတွက် အကြိုအကြား၌ စိမ့်တတ်သော လေသော်မှဝင်နိုင်စရာ အကြောင်းမမြင်။ အိမ်ရှေ့ (တောင်ဘက်) မှာတော့ အထပ်နှစ်ထပ် ဆင့်ထားသည့် ဖိနပ်ချွတ်လိုလို၊ လှေကားနိမ့်လိုလို အင်္ဂတေအုတ်ခုံကလေးရှိနေကာ စက်ပိုင်းခြမ်းပုံ ရစ်ပိုက်ထားလေသည်။ သည်စက်ပိုင်းခြမ်းက ဘာကျာတံခါးလို့ ခေါ်ကြသည့် တစ်ဖက်လျှင် တံခါးရွက်နှစ်ချပ်ဖြင့် နှစ်ဖက်တံခါးရွက်လေးချပ် ထိပ်မှာရှိ၏။ တံခါးရွက်တွေဝယ်ဂိတ်ထုသံပြားကို ဖလီပတ်လည် အနားသတ်လျက် ကြဲ့ကြဲ့ကြီး ပိတ်ထားသည်ဖြစ်ရာ အရက်ကိုးမောင်း တိုက်ထားသည့် နာဠာဂီရိ ဆင်သော်မှ

တိုးနိုင်စရာမရှိ။ ဟိတ်အကြီးဆုံးကတော့ မျောက်မြီးကွင်းမှာ ကျကျနန ကြီး ခတ်ထားသည့် အာမခံသောစလောက်ကြီး ဖြစ်လေသည်။

"သည်အိမ်မယ် လျှပ်စစ်မီတာရှိပါလျက်ကနဲ့ ကျုပ်တို့မယ် မီး မသုံးရပေါင်ဗျာ၊ ပိုင်ရှင်က မီတာပုံးကို အတွင်းထဲထည့်ပြီး သော့ခတ် ထားတော့ ခက်ကရော။ တွေ့ဖူးလား၊ ဟောဟိုမှာ မီးသီး၊ အခု ကျုပ်တို့ မယ် ငါးဆယ်မီးနဲ့ နေရတယ်"

သည်အိမ်ကြီးကို သုံးချိုးတစ်ချိုးငှားနေသည့် အချဉ်ပေါင်းသည် ကိုမောင်မောင်သယ်က ကျွန်တော့်ကို တိုင်တည်ခြင်း ဖြစ်သည်။ သူ့အမည် က ကိုမြစ်ဖြစ်သော်လည်း အချဉ်ပေါင်းသည်တို့ သုံးလေ့ရှိသော မောင်းသံ ကို အစွဲပြု၍ ရပ်ကွက်က သူ့ကို 'မောင်မောင်သယ်' ဟု ခေါ်ကြခြင်း ဖြစ်သည်။ ကိုမြစ် ပြောလည်း ပြောစရာ။ ပင်မမီးကြိုးကြီးကတစ်ဆင့် လမ်းထောင့်မှာ ဘုံစိုက်ထားသော မျောတိုင်ကျွေးကျွေးကြီးမှာ တစ်ထောက် နားသည့် ဓါးကြိုးက သည်အိမ်မြင်းမိုရ်ပိတ်ပေါ်က အတွင်းထဲအထိ တိုး ဝင်သွားတာကို မြင်နေရသည်။ အိမ်ဘေးပတ်လည်မှာလည်း မီးသီးကျွမ်း တွေ တပ်လျက် ရှိသည်။ သည်ခြံထဲက အိမ်ထောင်စု သုံးစုစလုံးသည် လျှပ်စစ်ဓာတ်မီးကို မြင်နေရသော်ငြား လူ့ပြည်ဟူသော ပြည့်စုံသော ကတိ ဉ္ဖြစ်ခြင်း၊ ပြည့်စုံသော ခန္ဓာကိုယ်ရှိခြင်း၊ ပြည့်စုံသော ကတိဉ္ဖ ဖြစ်ခြင်း၊ ပြည့်စုံသော လုံ့လဉာဏရှိခြင်း စသော သမ္ပတ္တိလေးပါး စုံသည်ဖြစ် ပါလျက် မသုံးမစွဲ မကိုင်မတွယ်ရသလို ဖြစ်နေသည်။

"နေပါဦးဗျ ကိုမြစ်ရဲ့၊ အခုကော နေရတာ အဆင်ပြေရဲ့လား"

"ဟာ... ဘယ့်နှယ် ပြေရမှာတုံး စာရေးဆရာကြီးရဲ့၊ ဝါးလုံး ခေါင်းထဲ ဆင်အောင်းသလို နေရသာပေါ့၊ ဒါပေမဲ့ အိမ်လခက သည်ကာလ ကြီးမယ် လေးထောင်ဆိုတော့ မဆိုးဘူးလေဗျာ၊ ရေလည်းသုံးရတယ်"

"ဒါဖြင့် အိမ်ရှင်က ဘယ်သူတုံး၊ ဘယ်ကတုံး"

"ဒါတော့ ဘုရားမှ သိတော်မူမှာပဲ ဆရာကြီးရ"

ဘုရားရှင်မှ သိတော်မူမည့် အိမ်ရှင်ဆီက ကိုမြစံ ဘယ်လိုများ
အိမ်ငှားပါလိမ့်။

သည်နေရာမှာတော့ သည်ခြံထဲက အိမ်ထောင်စု သုံးစုအကြောင်း
ကို ပြောထားရမည် ထင်ပါသည်။ စောစောက ကျွန်တော်ပြောခဲ့သည့်
သုံးလံထိုင်းမှိုင်းသောအိမ်မှာ ကြီးမားလှသည့် သော့ခလောက်ကြီး ခတ်
ထားခဲ့ကြောင်း ကျွန်တော် ပြောခဲ့ပြီ။ သို့သော် သည်အိမ်၏ သုံးပုံတစ်ပုံ
ကျယ်အဝန်းရှိသော သုံးစိတ်တစ်စိတ်စာကိုတော့ အိမ်ငှားတင်ထား
ကြောင်းပြောမှ ပြည့်စုံမည်။ သည်အိမ်ငှားက ကိုမြစံမိသားစု ဖြစ်၏။ မူလ
အိမ်ရှင်က သည်အိမ်ကို နှစ်ပုံစာလောက် ကန့်ထားကာ အသေပိတ်ထား
ခြင်းသာ ဖြစ်၍ ကျန်တစ်ပုံက ပစ္စည်းပစ္စယ တိုလီမုတ်စတွေ မရှိဘဲ လွတ်
နေသလို ဖြစ်နေသည်။ သည်အကန့်လွတ်ကို အိမ်ငှားတင်ခြင်း ဖြစ်သည်။
သို့ဘက်ကလည်း သွပ်မိုးပျဉ်ကာ သမံတလင်းခင်းအိမ်ဆိုတော့ မိသားစု
နေကျပ်နိုင်သည့်တိုင် အပြားလိုက် ကျောခင်းနိုင်ကြလျှင် အဆင်ပြေ
သည်။ သည်တော့ အချုပ်ပေါင်းသည့် ကိုမြစံက သည်အခွင့်အရေးကို
လက်လွတ်မခံဘဲ တစ်လလေးထောင် ဘတ်စနဲ့မြည်အောင် ပေးချေကာ
တစ်လ တစ်ခါပေးစနစ်ပြင့် နေခဲ့ခြင်း ဖြစ်၏။ ကိုမြစံ မိသားစုက ခြောက်
ဘက် အိမ်ထောင်စု ဖြစ်သည်။ အကြီးနှစ်ယောက်က သားတွေ၊ အငယ်
ယောက်က သမီးတွေ၊ အရွယ်တွေ ရောက်ကြလုပြီ၊ အကြီးကောင်
သည်ပင် ကြီးလှပေါ့၊ ကိုမြစံကတော် မကုလားမသည်လည်း လင့်လုပ်စာ
ထိုင်စားတာတော့ မဟုတ်။ လမ်းထိပ်မှာ မုန့်ပျားသလက်ခင်းရောင်းသည်။
သားက ကျောင်းကလေးကို မီကာ ရောင်းရခြင်း ဖြစ်သည်။ ထွေးသိ
ရှိသော အချုပ်ပေါင်းနှင့် မုန့်ပျားသလက်သည်မှာ အဖြောင့်ခတ်
ပြင်နဲ့ဓာတ်နှစ်ပါးတွင် အဖြောင့်ကြီးကျလို့သာ ဆော်တော့သည်။ တစ်နေ

ကုန် လှည်းတစ်စီး မောင်းတစ်လုံးရင်းကာ လှည့်ရသော လင်နှင့် အထိုင် ချရောင်းရသော မယားတို့၏ ဝင်ငွေက မလောက်။ ခြိုးခြံတော့ နေလို့ ရသည်။ စားရတာ မပန်း၊ နေရတာသာ ပန်းသည်။ ဖအေနှင့်သားများက အရှေ့ဖျား၊ မအေနှင့်သမီးများက အနောက်ဖျားဆိုသလို အပြားလိုက်နေ ကြရသည်။ သစ်သားကွပ်ပျစ်ကြီး အလျားလိုက်ရိုက်ပြီး နေကြရလေရာ ထမင်းစားတော့လည်း သည်ကွပ်ပျစ်၊ အချဉ်သီးတွေ လှီးတော့လည်း သည်ကွပ်ပျစ်။ ဧည့်သည်လာတော့လည်း သည်ကွပ်ပျစ်။ ဗာဟီရ ဝေယျာ ဝစ္စမှန်သမျှ သည်ကွပ်ပျစ်ဆိုတော့ ကွပ်ပျစ်နှင့်ပင် မတူတော့ဘဲ ရှေးထ ကုန်ကူးကြသော 'ဗျတ်' လှေနှင့်ပင် တူတော့သည်။

"ဆရာကြီးရေ၊ ကလေးတွေက ဝမ်းမီးကောင်းတဲ့အရွယ်တွေ ဆိုတော့ ပြောင်းခင်းထဲ ဆင်ကျသလို ကျိုးကျိုးဖျမ်းဖျမ်းမြည်အောင် စား ကြတာကိုး ခင်ဗျရဲ့၊ သားသမီးများ စားတာဆိုတော့လည်း သဒ္ဓါလိုက် တာခင်ဗျာ"

ပြောမည့်ပြောရသော်လည်း ကိုမြစ်က ငွေးသီးပိန်ပုံပေါက်နေတာ မကုလားမက မုန့်ဖျားသလက်ပုံ ပေါက်နေကြသည်။ ဒါက ပထမ အိမ်ထောင်စု စီဗီ (CV) အကျဉ်းဖြစ်သည်။

ဒုတိယအိမ်ထောင်စုကတော့ သော့ပြင်ဆရာ ကိုဘသောင်း လင် မယား ဖြစ်သည်။ သည်အိမ်မကြီး၏ အနောက်ထောင့်မှာ နဂိုက ဘာ အတွက် ဆောက်ထားမှန်း မသိရသည့် အဆောင်ကလေးတစ်ဆောင် ရှိ သည်။ မျက်နှာစာ တစ်ဖက်ဖွင့်ထားသည်။ သုံးဖက်ပိတ်ရုံကလေး ဖြစ် ၏။ လူနေသည့်အခါ အပိတ်နှစ်ဖက်မှာ ပြတင်းဖောက်ကာ ကဲလား ထောက်လိုက်တော့ အဆင်ပြေလေသည်။ ဖွင့်ထားသည့် မျက်နှာစာကို ည့အခါ ပိတ်ရန် ဆို့ရန် ဝါးဖျာနှစ်ချပ်ကို သုံးလိုက်ရုံဖြင့် တံခါးဖြစ် သည်။ ကိစ္စမရှိ။ ပိတ်ဆို့နိုင်ခြင်းဟူသော တံခါး၏အလုပ်ကို လုပ်နိုင်လျှင်

ပြည့်စုံပြီ။ သော့ပြင်ဆရာ ဆိုသော်လည်း ခတ်စရာ သော့မလိုသည့် အိမ်ကလေးမှာ သူတို့ စိတ်ချမ်းသာပုံ ပေါ်သည်။ ကိုဘသောင်း၏ မယား မစံမေကတော့ စီးပွားဖက်နိုင်သူ မဟုတ်တော့ ထမင်းချက်၊ ပုဆိုးချုပ်၊ ကလေးနှစ်ယောက် ရှိသော်လည်း ငယ်ကြသေးသည်။ အကြီးကောင်က ဥမမယ်၊ အငယ်မက စာမမြောက်။ သူတို့မိသားစုကလည်း ကျွန်တော်နှင့် ခင်မင်ကြသည်။ တစ်ခါတစ်ခါ ကျွန်တော့်ဇနီး အလုပ်များလျှင် မစံမေ ကူးလာတတ်သည်။ ကျွန်တော့်ဇနီးနှင့် မစံမေ အင်တာဗျူး။

"ကိုဘသောင်း သော့ပြင်တာ အဆင်ပြေရဲ့ မဟုတ်လား"

"မဆိုးပါဘူး အစ်မရယ်၊ စားဖို့တော့ ရပါရဲ့"

"ရသမျှ စားမပစ်ကြနဲ့ဦး၊ ကလေးတွေက ရှိသေးတယ်"

"လောက်ငရုံ ရှိတာပါ၊ အိမ်လခက တောင်းတော့ မဟာန်ဘူး၊ မကုလားမတို့က လေးထောင်တန်တာပေါ့၊ ကျွန်မတို့ အိမ်ကုပ်ကလေး ကျတော့ သုံးထောင်ဆိုတော့ လွန်တာပေါ့"

"နေပါဦး၊ သည်သုံးထောင်က ဘယ်သူပေးရတာလဲ"

"မပြောပါနဲ့ အစ်မရယ်၊ ဓာတ်ထုပ်က ရှုပ်ရှုပ်ပါ"

သည်အင်တာဗျူးကို နားထောင်ရင်း ကျွန်တော့်မှာ ရေးလက်စစာကို ပစ်ထားကာ စဉ်းစားရတော့သည်။ ကိုမြစ်ကိုမေးတော့ ဘုရားမှ သိမှာပါဟု ဆိုသကဲ့သို့ အခု မစံမေကလည်း ဓာတ်ထုပ်က ရှုပ်ရှုပ်ပါ ဆိုပြန်ပါသကော။ ဘာသဘောများပါလိမ့်။ ဘယ်လိုများ ဖြစ်နေကြတာ ပါလိမ့်။ အိမ်ရှင်နှင့် အိမ်ငှား ဆန်းပြားသည့်ကိစ္စ မဟုတ်။ ငှားရမ်းခွင့်ရှိသူ ပိုင်ရှင်နှင့် နေထိုင်ခွင့်ရှိသူ အိမ်ငှားတို့ အဆင်ပြေကြသည်ဆိုကတည်းက နှစ်ဦးနှစ်ဖက် ကျေနပ်သည့်သဘော သက်ရောက်သည် မဟုတ်လော။ ကျွန်တော်တို့အိမ်နှင့် မလှမ်းလှသော အိမ်ဆိုသော်လည်း ကျွန်တော်တို့ကလည်း သည်ရပ်ကွက်ကိုရောက်တာ ကြာလှသေးတာ မဟုတ်။ အရှေ့

ခုနစ်အိမ်၊ အနောက် ခုနစ်အိမ် မသိသေး။ ကြောင်မစားမှ ကြွက်မပါးတန်ရာ ဆိုသကဲ့သို့ အိမ်လခကို လစဉ် ရယူနေသူတော့ ရှိရလိမ့်မည်။ အခုတော့ တစ်ဦးက မသိသလိုလိုဆို၍ တစ်ဦးက သိသော်လည်း ရှင်းရှင်းလင်းလင်း မဟုတ်ပါဟု ဆိုပြန်သောအခါ နားမလည်နိုင်အောင် ဖြစ်ရလေသည်။

သည်ခြံထဲက တတိယအိမ်ထောင်စုမှာ အနိုပ်သည် ကိုသံချောင်းလင်မယား ဖြစ်သည်။ အနိုပ်သည် နာမည်က ကိုသံချောင်းဆိုမှတော့ အနိုပ်ခံကြသူတို့အဖို့ မထိမှာ ပူစရာမလိုပါ။ ကျွန်တော်သည်ပင်လျှင် တစ်ခါတလေ ကိုသံချောင်းကို ခေါ်နှိပ်ရတာမျိုး ရှိဖူးသည်။ အနိုပ်သည် ပီပီ စကားများများ၊ ကိုယ်ရည်သွေးများများ။ သူတစ်ယောက်သာ တတ်ကျွမ်းသည့်သဘောရောက်အောင် ပြောနေတတ်သည်။ များသောအားဖြင့် ထီးတစ်လက် ပခုံးချိတ်ကာ မနက်ရှစ်နာရီလောက် ထွက်သွားတတ်သည်။ အနိုပ်သည် ထွက်သွားသည်နှင့် အနိုပ်သည်ကတော်ကလည်း တစ်ဖက်ရပ်ကွက်ကသူ့ဆွေမျိုးများရှိရာကို ကူးလေတော့သည်။ သနပ်ခါးပိန်းကျားရိုက်၊ ဘီးကို ကန့်လန့်ထိုးကာ ခင်ယုမေပုံ လည်ထောင်အင်္ကျီ ဝိုင်စကလေးဝတ်ပြီး ထွက်သွားတတ်သူ ဖြစ်၏။ ကိုသံချောင်းတို့ နေထိုင်ရာဘုံရိပ်သာက အိမ်မကြီးနှင့်ကပ်လျက် အနောက်မှာ အကြော်တဲကလေးလိုထိုးကာ အကာကာထားသည့် တင်းကုပ်ကလေး ဖြစ်သည်။ မီးဖိုချောင်ရယ်လို့ မရှိတော့ ဥတုသုံးပါးစလုံး အပြင်မှာ ချက်ရသည်။ ညှော်နံ့တွေက မနက်စောစော လင်သား အနိုပ်မထွက်ခင် အူလှိုက်နေတတ်သည်။ စင်စစ်ဆီနံ့ ကြက်သွန်နံ့ကြောင့် ညှော်နံ့ခြင်း မဟုတ်ဘဲ အိုးဆီတက်နေသည့် ဒယ်အိုးက နံ့ခြင်းဖြစ်လေရာ မခံနိုင်ကြသူတွေက အော်ကြ ဟစ်ကြ ဆဲကြ ဆိုကြသည်လည်း ရှိ၏။

"ညော်လို့ အကြောတက်တော့လည်း ငါ့လင် နှိပ်ပေးလိမ့်မဟော့၊ မြေပြေပြပ်လောက်ရှိတဲ့ ဝက်စားကျင်းကလေးထဲ ဘယ်နှယ်လုပ် မီးဖိုထား လို့ ရမှာတုံး အရပ်ကတို့ရဲ့၊ ဒါတောင် အိမ်လခက သုံးထောင်တော်ရေ့"

သည်လို ပြန်ပက်သံထဲမှာ အဓိပ္ပာယ်သုံးမျိုး ပါသည်။ ညော်နံ့ မခံနိုင်သူတို့ သူ့လင်၏ အနှိပ်ခံရုံသာ ရှိသည်ဆိုပြီး ငေါ်သည့်သဘော ပါသည်။ 'မြေပြေပြပ်လောက်' ဆိုတာက အိမ်ကလေးက ငယ်လွန်းသည် ဆိုသည့်သဘော ဖြစ်ကာ 'သုံးထောင်တော်ရေ့' ဆိုတာက ပိုက်ဆံကျ တော့ အနားက မစ်မေနှင့် မထူးပါဟု ဆိုလိုခြင်း ဖြစ်သည်။ သည်တော့ မစ်မေကလည်း သည်းမခံလေ။ ဘယ်နှယ် ညော်ကိစ္စက အိမ်လခဘက် ရောက်လာရပါသနည်း။

"အိမ်ကောင်းကောင်း လိုချင်ရင် စောစောကြွတော်မူခဲ့ကြပါလား အိမ်ကြီးရှင်ရေ၊ နောက်ကျတော့ သလဲနဲ့ခဲ တော်ရဲ့"

"နှုတ်ခမ်းပုံချင်း မီးလာမမှုတ်နဲ့၊ ကျုပ်တို့လည်း ဗွမ်းတစ်လှည်း စာမှုတ်လို့ ပြာတစ်ဆုပ်ရတာ မဟုတ်ဘူး"

ဗွမ်းတစ်လှည်းစာ မီးမှုတ်သော်လည်း ပြာတစ်ဆုပ် မရဆိုသည့် စကားက ကျုပ်အိမ်လခကတော့ အိမ်ကလေးထက်ကြီးသည် မှန်၏။ အိမ်မကြီးကို တစ်ဖုံတားနေရသူ မကုလားမနှင့် နှိုင်းယှဉ်ပြန်တော့ သူလည်း မထူးပါဆိုသည့် သဘောရောက်သည် မဟုတ်လော။ သည်တော့ မကုလားမ ကလည်း နှမ်းကြားမှာတော့ အခြားသက်သေမလို။

"အလိုတော် ဘယ်နှယ် ဇရာထောင်းမှ တရားကောင်းရှာနေကြ သတုံး၊ သည်မှာလည်း နေရတာ ကြည့်ကြဦးဗျို့၊ ပီလောပင် ပက်ကို တက်နေတာ၊ အမျိုးက မဆဲဘူးတော်ရေ...၊ ထီးတင်ပွဲ မမီလို့ ကျွဲလှည်း နဲ့ ပြန်ရတယ်မှတ်ပါ၊ မိဘလက်ထက်က အိမ်ရှေ့နဲ့ နောက်ဖေး ဆယ့်ငါး မိနစ်လျှောက်ရတဲ့အိမ်မှာ နေခဲ့တာဟဲ့"

ဤသို့ဖြင့် အိမ်ထောင်စုသုံးစုသည် အရိုးကြေကြေ၊ အရေကြွင်းကြွင်း စိတ်ဓာတ်ကို တင်းမာစေလျက် လေအားနှင့် မနိုင်သော် လူလုံးချင်း တိုက်တော့မည်ကဲ့သို့ ရှိကြမြဲ ဖြစ်သည်။ အချိန်တန်လို့ လေကုန်ကြတော့ လည်း ပြီးကြရတာပါပဲ။ သည်ဝိုင်း သည်မြေထဲမှာ ဘဝက ရေစက်ပါ လို့နေရသူချင်း ဖြစ်ခြင်းသည်လည်း ခဏ၊ ပျက်ခြင်းသည်လည်း တဒင် ဆိုသလို ရေရှည် တိုက်ပွဲရယ်လို့တော့ မရှိ။ အချင်းချင်း ပြောလိုက်ဆို လိုက်ရလျှင် ဝမ်းတွင်းအေးကြသူတွေ ဖြစ်သည်။ ယောက်ျားသားတွေ ကတော့ ကိုယ့်ကိစ္စနှင့် ကိုယ်ဆိုတော့ ပဋိပက္ခမရှိ။ မနက်မိုးလင်းသည် နှင့် ချဉ်သီးပေါင်းလှည်းဆရာကလည်း အိမ်က ထွက်သည်။ အနှိပ်ဆရာ ကလည်း အိမ်ကထွက်သည်။ သော့ပြင်ဆရာကလည်း အိမ်က ထွက်သည်။ တစ်နေ့ခင်းလုံး မိုင်ချီကာ လမ်းလျှောက်ကြရသူတွေဆိုတော့ ညဘက် ပြန်ရောက်တော့ တုံးခနဲနေအောင် အိပ်ကြသူတွေ ဖြစ်သည်။ သည် ယောက်ျားသား သုံးယောက်ထဲမှ အနှိပ်ဆရာက လူရည်လည်သူ ဖြစ်သည်။

"စာရေးဆရာနှယ်... ကျုပ်တို့ အနှိပ်ပညာဆိုတာက လက်ရောက်တာနဲ့ ပျောက်တဲ့ပညာဆိုတော့ ပညာကြီးခေါ်တာပဲ၊ ကိုးဆယ့်ခြောက်ပါး ရောဂါများကို လက်ဖျားထိရောက်၊ ကင်းကွာပျောက်လိမ့်၊ မှတ်လောက် စရာ၊ ရေးဆရာတို့၊ စဉ်လာဥပဒေ၊ ထားခဲ့လေသား ဆိုတာကိုး"

"လူတွေက အမြဲညောင်းညာနေကြတာပဲလား ကိုသချောင်းရဲ့"

"ဆရာနှယ်၊ လူတွေက အနှိပ်ဆရာကို ညောင်းမှ ခေါ်ထောင်းနှိုင်းရတဲ့လူ မှတ်နေတာကိုက လွဲနေတာဗျ၊ ခေါင်းခဲတာကအစ နှိပ်လို့ ပျောက်တယ်၊ ဒူးဖျားအထက်၊ လေးသစ်တက်၌၊ နှိပ်ချက်တစ်မှုံ၊ ဆိုကုန် မပျက်၊ ပုံအတွက်နှင့်၊ နားရွက်အောက်ပါး၊ ဝဲယာခြား၍၊ မေးဖျားနားထင် မျက်မှောက်ပြင်၌၊ လက်ပြင်ညွှန့်ဖူ၊ ခလုလုကို၊ လက်နချောမွေ့၊ တည် တည့်တွေ့၍၊ ဆေ့ဆေ့နှိပ်က၊ ပျောက်နေကျသည်၊ ပွဲရအဟုတ်၊ စာပင်ချုပ်

လော့၊ ယုံနတ်အမြစ်၊ တူး၍ပစ်သို့၊ စင်စစ်ခေါင်းခဲ၊ ပျောက်စမြဲတည်းတဲ့။ ဟောသည့် လက်ပြင်မှုကလေးကို ပြောတာ"

ကိုသံချောင်းက လက်တွေ့ လုပ်ပြနေသဖြင့် တောင်းပန်ရသေးသည်။ တစ်ခါတစ်ခါတော့ ဘယ်ရောဂါကို သူ နှိပ်လိုက်တော့ အနှစ်နှစ်ဆယ် အိပ်ရာထဲ ပက်လက်လဲနေသူပင် ငေါက်ခနဲ ထထိုင်ကြောင်း၊ ဘယ်ပုဂ္ဂိုလ်ကြီးက ပင့်ထားသဖြင့် ဘယ်နေ့အရောက် ရန်ကုန်ဆင်းရမည်ဖြစ်ကြောင်း၊ တစ်ခါက လူနာရှင်က ငွေငါးသောင်းထုပ်ကျကန်တော့သော်လည်း သူက ကိုးနဝင်းကျေ ရှစ်ဆယ့်တစ်ကျပ်သာ ယူခဲ့ကြောင်း တွေလည်း ပါ၏။

"ဒါနဲ့တောင် ကိုသံချောင်းရယ်၊ ခင်ဗျား သည်လိုနေရာ နေရသလား၊ ခင်ဗျား ပညာကြီးနဲ့..."

"အထက်ပုဂ္ဂိုလ်များက ချပေးတဲ့နေရာ နေရတာလို့ပဲ ပြောပါရစေတော့၊ စာရေးဆရာ မသိတာတွေ လောကမယ် များသားပဲ"

ထိုနေ့က ကိုသံချောင်းနှင့် စကားတွေ ပြောဖြစ်သည်။ အထက်ပုဂ္ဂိုလ်များက ချပေးသည့်နေရာကို တစ်လသုံးထောင် ပေးနေရသည့် ကိုသံချောင်းဆီက အင်ဖော်မေးရှင်းအသစ်တွေလည်း ရသည်။ ကျွန်တော်ပြောခဲ့သည့် လေးလံထိုင်းမှိုင်းသည်ဆိုသော 'ဂရုရှပ' အိမ်ကို ပိုင်ဆိုင်သူ ကို အချဉ်ပေါင်းဆရာ ကိုမြစ် မိသားစုသည် လည်းကောင်း၊ သော့ပြင်ဆရာ ကိုဘသောင်း မိသားစုလည်းကောင်း၊ အနှိပ်ဆရာ ကိုသံချောင်း မိသားစုသည်လည်းကောင်း တစ်ခါဖူးသော်မှ မမြင်ဖူးကြဟု ဆိုလေသည်။ သူတို့ သိထားကြသလောက် အိမ်ပိုင်ရှင်မှာ အကျင်းဆိုသူဖြစ်၍ တရုတ်ပေသည်ကိုသာ ကြားဖူးကြောင်း ဆို၏။ မြို့သစ်မြေနေရာတွေ ချပေးသည့်အခါ နေခွင့်ရသူထံမှ လက်လွှဲဝယ်ယူခဲ့ပြီး အိမ်ကို ဆောက်သည်။ မူလက ကိုဘသောင်းတို့ နေထိုင်သည့် ရုံကလေးက မြွတ်စဖျင်းတောင်း အတို

အစတွေ ထားဖို့ ဆောက်ထားသည့် မီးသွေးအိတ်ရုံကလေး ဖြစ်သည်ဆို၏။ အိမ်ဆောက်ပြီးသည်နှင့် ကိုအကျင်း ခရီးထွက်သွားလိုက်တာ ဆယ်နှစ်ရှိပြီဖြစ်သော်လည်း တစ်ခါတစ်ခေါက်ပင် ပေါ်မလာခဲ့။ အိမ်ပတ်ဝန်းကျင်မှာလည်း ထိုစဉ်က လူသူလေးပါး များများစားစား မရောက်ကြသေးသည့်အတွက် ရှိနေသည့် မိသားစုနှစ်ဦးသုံးဦးကို ရှုတ်အားဖြင့် အပ်ခဲ့သည်။ တပ်ဆင်ခွင့်ရထားသည့် မီတာပုံးနှင့်၊ ပရိဘောဂ၊ ပန်းကန်ခွက်ယောက်တွေကို အိမ်အတွင်း သွင်းခဲ့ကာ အပြင်က သော့ကြီးတစ်ချောင်း ခတ်သွားတာ နောက်ဆုံး မြင်ကြရသည်ဟု ဆိုသည်။

"အခု ကျုပ်ပြောနေတာ ကျုပ် မြင်ဖူးလိုက်လို့ပြောတာ မဟုတ်ဘူး စာရေးဆရာရဲ့၊ ကျုပ်တို့သုံးအိမ်ထောင်က မနေ့တစ်နေ့ကမှ ရောက်လာတာ ဘယ်မြင်ဖူးကြလိမ့်မလဲ၊ လမ်းထဲ နောက်ပိုင်းပြောင်းလာတဲ့လူတွေကလည်း မတွေ့ဖူးလိုက်ကြဘူး၊ မြင်ဖူးလိုက်သူက အဲသည့်အချိန်ကရောက်နေကြတဲ့ အဘွားကြီးသုံးယောက်ပဲ ရှိတယ်၊ ဒေါ်ဖုံတို့ရယ်၊ ဒေါ်မြရယ်၊ ဒေါ်အမီနာရယ်... ဖြစ်ပုံက သည်လို"

ကိုသံချောင်းပြောမှ ဇာတ်ကွက်လည်လေသည်။ မြို့သစ်တည်ကာစ အိမ်ကွက်တွေ ချထားပြီးသည့်တိုင် အခြေတကျ နေကြသူတွေ မရှိသေးသည့် အချိန်ဆိုတော့ မြေကွက်တွေသာများ၍ လူသူလေးပါး နည်းသေးသည်။ သည်တော့ ရှိသည့်လေးငါးအိမ်က ခရီးညဥ့်အိပ်ညဥ့်နေသွားလျှင် အချင်းချင်းအပ်ပြီး သွားကြရသည်။ ကိုအကျင်းပြောင်းလာပြီး အိမ်ဆောက်ပြီးသည်အထိလည်း လူချင်းသာ ခင်လိုက်ရသည်။ သူ့ဇာတ်မြစ်ကို မသိကြရ။ မိန်းမ ရှိသလား၊ မရှိသလားလည်း မသိ၊ ဆွေမျိုးသားချင်းရှိသလား၊ မရှိသလားဆိုတာလည်း မသိကြ၊ ဘယ်မြို့ဘယ်ရွာက ပြောင်းလာလို့ ဘာလုပ်ကိုင် စားသောက်သည်ဆိုတာလည်း မသိ၊ ရုတ်တရက်ရောက်လာပြီး အိမ်ကို ဖြုန်းဖြုန်းဖျင်းဖျင်း ဆောက်နေတာပဲ သိကြသည်။

အိမ်ပြီးလို့ မီးဆင်၊ ရေတိုင်စိုက်၊ အားလုံးပြီးတော့ သိမ်းသင့်တာ မှန်သမျှ အိမ်မကြီးထဲ သွင်းပြီး သော့ခတ်လိုက်တာကလွဲလျှင် ကိုအကျင်းဆိုသည့် အမည်ကိုပင် မနည်းသိလိုက်ကြရသည်ဆို၏။ တစ်ရက်တော့ ကိုအကျင်း အထုပ်အပိုးပြင်သည်။ ထိုအချိန်မှာ နေပူဆာလှုံနေကြသည့် အမယ်ကြီး သုံးယောက်ကို 'ကြီးတော်တို့ ကျွန်တော့်အိမ်နဲ့ ခြံလေး ကြည့်လိုက်ကြ ပါဦး၊ သရက်ပင်ကလေးလည်း ကြည့်လိုက်ကြပါဗျာ၊ ကျွန်တော် နည်း နည်းတော့ ကြာမယ်' ဆိုတာလောက်သာ မှာခဲ့သည်။ အမေကြီးတစ်ဦး ကို ငွေငါးရာစီ ပေးခဲ့သည်ဟုလည်း ဆိုသည်။

ကိုအကျင်းပြောခဲ့သည့် နည်းနည်းတော့ ကြာမယ်ဆိုသည်မှာပင် ပေါ်မလာတာ ဆယ်နှစ်ရှိပြီ။ သရက်ပင်ကလည်း နှစ်စဉ်သီးနေပြီ။ ကိုအကျင်း ထွက်သွားလို့ သုံးနှစ်လောက်နေတော့ အမယ်ကြီး သုံးယောက် စိတ်ကူးရခဲ့ကြပြီ၊ အကျင်းမရှိခိုက် အိမ်ကို ငှားစားမည်။ ရသမျှ သုံးဦး ဝေယူမည်။ အကျင်း ပြန်ရောက်လာတော့လည်း ရှင်းရလွယ်အောင် တစ်လ တစ်ခါပေး အိမ်ငှားမျိုးသာ ထားမည်။ ကိုအကျင်းက ပြဿနာ လုပ်လာလျှင်လည်း ညစဉ် မစောင့်ရှောက်နိုင်လို့ အစောင့်ထားရကြောင်း ပြောမည်ဟု အကြံမ်းလျာထားကြသည်။ သည်အစည်းအဝေးပြီးသည်နှင့် အိမ်မကြီးမှာ ပထမဆုံး လူငှားစတင်သည်။ အိမ်ငှားကိုလည်း စိတ်ချ လက်ချရှိဖို့ တာဝန်ယူသည်။

"ခက်သားပဲကွယ်၊ မောင်အကျင်းက အပ်ခဲ့ပေမယ့် အသက်ရှယ် လို့ သေသလား ရှင်သလား မသိရ၊ ကျန်းမာရေးပဲ မကောင်းရှာသလား၊ ထောင်တန်းပဲ ကျနေလေသလားဆိုတာလည်း မသိရတော့ ဘယ့်နှယ် လုပ်ကြမတုံး၊ ဆွေမျိုးသားချင်းရယ်လို့ သူငယ်ချင်းမိတ်ဆွေရယ်လို့ မလာ တော့ ဘယ်ကို ဘယ်လိုပြောရမှန်းလည်း မသိဘူး၊ သည်တော့ အရပ် စာချုပ် စတိသဘောပေါ့ကွာ၊ မင်းတို့ကလည်း အိမ်လခကို တစ်လတစ်ခါ

ပေးကြ ဒါမှ ကာယကံရှင်လာတော့လည်း ချက်ချင်း ဖယ်နိုင်တာပေါ့။ သည်တော့ ဖြစ်လာရင် မောင်အကျင်းကိုလည်း တို့က တာဝန်ယူမကွာ၊ မင်းတို့ကလည်း ချက်ချင်း ဖယ်နိုင်ရမကွာ၊ ဒါဆို ပြီးတာပဲ"

အိမ်တစ်ခြမ်းကို တာဝန်ယူဖွင့်ပေးကြသူ ကြီးတော်သုံးဦးအနက် အသက်အကြီးဆုံး ကြီးတော် ဒေါ်ပုံတိုက အိမ်ငှားသူကို အာမခံသည်နှင့် ပထမတစ်လစာ စတင်ရလေသည်။ ယုံမှတ် အပ်နှံခြင်းခံရသူ ကျန်ကြီးတော် နှစ်ဦးကလည်း ကန့်ကွက်မဲမရှိ ထောက်ခံကြလေ၏။ နောက်လများမှာ တော့ ကြီးတော်တို့ သက္ကာရဒိဋ္ဌိကြီးကြလေပြီ၊ အိမ်မကြီး၏ သုံးချိုးတစ်ချိုး အခန်းလွတ်ကို လူငှားချသကဲ့သို့ အနောက်ဘက်က မီးသွေးရုံကိုလည်း လူငှားချထားလေသည်။ နောက်လမှာ အိမ်မကြီး အနောက်ကပ်လျက်ကို တဲကလေးထိုးကာ လူငှားထပ်ချကြပြန်သည်။ အိမ်ငှားနေသူပေါင်းများစွာ တို့သည် နေရာသုံးခုမှာ ဝင်လာလိုက်ကြ၊ ထွက်သွားလိုက်ကြ မနည်း တော့ပြီ။ စငှားကာစက အိမ်မကြီး ၁၅၀၀၊ မီးသွေးရုံ ၁၀၀၀၊ တဲကလေး ၇၀၀။ အပြင်အိမ်ငှားဈေးတွေ တရိပ်ရိပ်တက်လာတော့ ကြီးတော်တို့ ကလည်း လိုက်တက်သည်။ တက်ရတာလည်း လွယ်ပါသည်။ အိမ်လခ တစ်လတစ်ခါ ရှင်းကိုး။ တစ်လရသမျှဝင်ငွေကို ကြီးတော်သုံးဦး ဝေယူ ကြသည်။ တချို့က မခံချင်ကြ၊ နှုတ်ဖြင့်အပ်ထားရုံနှင့် ငှားစားကြတာကို ဝေဖန်ကြခြင်း ဖြစ်သည်။ သည်တော့ ဒေါ်အမိနာက ပက်ခနဲ ရန်တွေ့ သည်။ 'ဟဲ့… မောင်အကျင်းက ငါ့တူအရင်းခေါက်ခေါက်ဟဲ့' ဟူ၏။ အိမ်ငှားတို့ တစ်လလုံး သုံးကြသမျှ ရေခွန်ကို အိမ်ငှားသူတွေကပဲ ရှင်း ကြရသည်။ သီးနေသည့် သရက်သီးတွေကို မထိရ၊ အနောက်ဆောင်တွေ က အမိုးအကာကို အိမ်ငှားနေသူကပဲ တာဝန်ယူ ပြင်ကြရမည်။ အိမ် လခကို လစဉ် လကုန်ရက်တွင် မပျက်မကွက် ပေးဆောင်စေ။

"အခုလက်ရှိကတော့ ကျုပ်တို့သုံးဦးပေါ့ စာရေးဆရာရဲ့ အခုက တစ်မျိုးလုပ်ပြန်ပြီ၊ ခြောက်လတွက် ကြိုပေးမှ ငှားတော့မယ်တဲ့ဗျ၊ ပိုက်ဆံ ကောက်ရတာ အလုပ်ရှုပ်တယ်ပြောနေပါပကော။ ငှားခကလည်း တက် တော့မယ်၊ မင်းတို့လည်း စဉ်းစားကြလို့ မနေ့က ဆော်ပြောတယ်။ ဘယ့် နှယ် လုပ်ရမှန်းတောင် မသိပါဘူးဗျာ"

သည်အချိန်မှာပဲ ရေပေးရေး ရေငုတ်က 'ပလုတ်ပလုတ်' ရေကျသံ ကြားရလေရာ ကိုသံချောင်းလည်း ချက်ချင်း ထပြေးလေ၏။ 'တုန်၍ ဖျားသော်၊ ခြေဖဝါးလယ်၊ ဖနောင့်စွယ်ကို၊ နယ်ကာနှိပ်မှု၊ ပျောက်မြဲယှ သင့်၊ ခြေမှချည့်နဲ့၊ ဖြစ်တုံခဲ့သော်၊ တည့်တည့်ဒူးဖျား၊ နှိပ်ချက်ထား၏' ဆိုသည့် ရွက်ပြနေကျစာကိုပင် ရွတ်မပြနိုင်ခဲ့လေ။



# အိမ်ကလေး ၁၃

ကျွန်တော် ပထမဆုံး မှတ်မိလိုက်သည့်အရာမှာ ဆရာဝတ်ထားသည့် တိုက်ပုံအင်္ကျီ ဖြစ်သည်။ လွန်ခဲ့သည့် နှစ်ပေါင်းများစွာကတည်းက သည်တိုက်ပုံကို ဆရာ အမြဲဝတ်တတ်သည်။ မီးခိုးရောင်ဖျော့ဖျော့ တိုက်ပုံက ဝတ်ဖန်များလို့ ဖြူပျက်ပျက်ရောင် ပေါက်နေကာ တိုက်ပုံလက်ဖျားခေါက်တစ်လျှောက် ရိစုတ်နေသည်။ ခပ်ပွပွ တိုက်ပုံအင်္ကျီလက်များထဲက ထွက်နေသည့် ဆရာ့လက်တွေက လှီလွှန်းလှကာ အကြောကြီးတွေက လက်နှင့် မလိုက်အောင် ခုံးခုံးထနေလေသည်။ ဗမာဂီတာခေါ ဘိဂီတာတီးကြသူတို့ ထုံးစံ ညာဘက် လက်ညှိုးထိပ်နှင့် လက်မထိပ်ကလေးတွေ ဖြူလျော်လျော် ရှိနေကြ၏။ သံမဏိအစွပ်ကလေးတွေ စွပ်နေကျနေရာ မဟုတ်လား။ သံမဏိခေါင်း စွပ်ထားသည့် လက်ချောင်းကလေးများနှင့် တိုက်ပုံအင်္ကျီဟောင်းသည် ဆရာ့အမှတ်အသား ဖြစ်သည်။ တိုက်ပုံအင်္ကျီ၏ အောက်အိတ်နှစ်လုံးမှာ တစ်လုံးက ချွေးသုတ်လက်ကိုင်ပဝါကလေး ရှိတတ်ကာ ကျန်တစ်လုံးမှာတော့ သံမှန်ကိုက် သ[illegible]ကြွတ်ကလေး ရှိတတ်သည်။ သည်သတ္တုကြွတ်ကလေးက ဆ[illegible] ဂီတာကြိုး

ညှိသည့်အခါ အလွန်အသုံးတည့်သည်။ ကြုတ်ကလေးကို ပါးစပ်မှာငုံကာ ပီပီ ပီပီမြည်အောင် မှုတ်သည်။ သည် 'ပီပီ' သံက သံမှန်ကိုက် (စီကိုက်) သံဖြစ်၍ ဂီတာသံမှန်ကြိုးကို ညှိရာတွင် မူတည်သံ ဖြစ်ရသည်။ ပီပီ... ပီပီ... ဒင်ဒင်... ဒင်ဒင်။ ပီပီ... ဒင်ဒင်။ ပါးစပ်က 'ပီ' သံနှင့် ကြိုးကိုခတ်သည့် 'ဒင်' သံ တစ်ထပ်တည်းကျပြီဆိုလျှင် သံမှန်ကိုက်ပြီ။ သည်လိုကိုက်လို့ စိတ်တိုင်းကျပြီဆိုလျှင် သည်သံမဏိကြုတ်ကလေးကို တစ်ဖက်အိတ်ထဲက လက်ကိုင်ပဝါနှင့် သုတ်လိမ့်မည်။ ပြီးလျှင် သည် ကြုတ်ကလေးကို လက်အုပ်ချီထားသည့် လက်ဖဝါးနှစ်ဖက်အတွင်းထည့်ကာ ခေါင်းပေါ်ရောက်အောင် အရိုအသေပြုမည်။ ကြုတ်ဘူးကလေးလည်း ထည့်ပြီးပြီ၊ ဂီတာကလည်း သံမှန် သေချာပြီဆိုလျှင် တခြားအသံတွေ မညှိသေးဘဲ နဖူးကချွေးတွေကို စောစောက လက်ကိုင်ပဝါနဲ့ပဲ ရဲသွားအောင် ပွတ်လိမ့်မည်။ ကြိုးတွေအားလုံး ညှိပြီးပြီဆိုလျှင်တော့ ပေါင်ပေါ် တင်ထားသည့် ဂီတာကြီးကို ခဏပြန်ချကာ တိုက်ပုံအင်္ကျီအပေါ် အိတ်ထောင်ထဲက ဆေးလိပ်တစ်လိပ်ကိုယူကာ အနားက ရေနွေးပန်းကန်ထဲ ဆေးလိပ်ဖင်မြုပ်အောင် နှစ်သည်။ တစ်ခါ ဆေးလိပ်ကို ခေါင်းက မှုတ်လိုက်သည့်အခါ ဆေးလိပ်ဖင် ရေစိုဘက်က လေပလုံစီကလေး ထွက်သွားလိမ့်မည်။ သေချာပြီဆိုတော့မှ ဆေးလိပ်ဖင်ကို ထမင်းစားစားပွဲစွန်းမှာ ခေါက်ကာ ခေါက်ကာ ညီစေ၏။ ညီပြီဆိုတော့မှ ကြေးမီးခြစ် မီးတောက်ကြီးကြီးနှင့် ရဲနေအောင် မီးညှိ၊ မီးခိုးတွေက အူအူချောင်း ချောင်းထွက်အောင် ဖွာ၊ ဆေးလိပ်ကို စဥ်ဆေးလိပ်ခွက်ထဲ အသာချ၊ ရှေ့မှာထိုင်နေသည့် လူကို ခေါင်းဆတ်ပြ။ ကိုင်း... ငါ့ဘက်ကတော့ ပြီးပြီ၊ မင်းကကော ဘာဆိုမှာတုံးဆိုသည့် အဓိပ္ပာယ်။

တိုက်ပုံနွမ်းနွမ်း မန္တလေးအောက်က စွပ်ကျယ်ကတော့ ဖွေးနေအောင် သန့်ပြန့်သည်။ စွပ်ကျယ်ဟောင်း မီးပူကျက အမြဲတမ်း ပြပြ

စင်စင်ရှိသည်။ ဒါကလည်း ဆရာကတော့် လက်ရာမှန်း ကျွန်တော် သိပါသည်။ ရှေးပစ္စည်း သဘော်ဦးပုံ သံမီးပူနှင့် မီးပူတိုက်နေတတ်သည့် ဆရာကတော်ခမျာ ချွေးအလိမ်းလိမ်း ပြာအလိမ်းလိမ်း။ လင်သားဖြစ်သူ ဂီတဆရာနှင့် ပြောင်းပြန်ကျရှာသူ ဖြစ်သည်။

"မင်းတို့ဆရာက တိုက်ပုံအသစ် မဝယ်နိုင်လို့ မဟုတ်ပါဘူးကွယ်၊ သူကိုယ်က ဝတ်ချင်နေတာ အမြင်မတော်တော့ပါဘူး၊ ချုပ်ချင်လည်း ချုပ်ပါ ဝယ်ချင်လည်း ဝယ်ပါဆိုတာကို လက်မခံဘူး"

ဆရာကတော်က ဖျာသနဆိုက်နေသည့် လင်သား၏ တိုက်ပုံကို ရှာပါရဖြင့် ညည်းရှာလေသည်။ ဆရာကလည်း သူ့အစွဲနှင့်သူ။ သည် တိုက်ပုံ ကိုယ်နှင့်မခွာသူဆိုတော့ ညည်းသူက အမြဲညည်းသကဲ့သို့ ဝတ်သူကလည်း အမြဲဝတ်လေသည်သာ။

ကျွန်တော့်ကိုမြင်တော့ ဆရာက ကသိုဏ်းရှုရာ၌ နောက်ဆုံးထင်သော နိမိတ်ကဲ့သို့ ထိတ်ကျည်းလန့်ကျည်း အံ့သြဟန်ပြုသည်။ မျှော်လင့်ထားသူတစ်ယောက် ဆိုက်ဆိုက်ကြီး ပေါက်လာသကဲ့သို့ ကြည့်နေခြင်းဖြစ်သည်။ ဆရာထောင်ထားသည့် တီးဝိုင်းထဲက ကောက်ကာငင်ကာ ခွက်ခွာသွားခဲ့သည့် တပည့်ဆိုးတစ်ယောက်ကို တစ်သက်စာ မြင်ဖွယ်အကြောင်းမရှိဟု စိတ်နှလုံး ဖုံးဖုံးကြီးဖိထားရာက ရုတ်တရက်ကြီး မြင်ရတော့ ဝမ်းသာဝမ်းနည်းရှိပုံလည်း ရလေသည်။ ကျွန်တော်ကတော့ မစဲနေညာ၊ တစ္စစ္စလျှင်၊ ဓဏသန္တတိ၊ အဂ္ဂိရော၊ နစ်ဖြာလောင်မီး၊ ရှိန်ရှိန်ကြီး ညီးနေရှာသည့် ဆရာကိုလည်းကောင်း၊ ဆရာ့အိမ်ကလေးကို လည်းကောင်း ကြည့်နေမိ၏။ ဆရာ့အိမ်ကလေး ကျဉ်းသော်လည်း ဆရာကတော်၏ ထားအသို အသိမ်းအထုပ်ကြောင့် သပ်သပ်ရပ်ရပ် ရှိသည်။ သည်အိမ်ကလေးကို သည်တစ်ကြိမ် ပထမအခေါက်အဖြစ် ရောက်ဖူးခြင်း ဖြစ်သည်။ ကောင်ဒဂုံ မြို့သစ်ဆိုသော်လည်း ဆရာ့အိမ်ကလေးက အစွန်ကျလွန်း

သည်။ ကျွန်တော် ငှားလာသည့် တက္ကစီပင် လမ်းဝက ဆောင့်နေရသည်။ ရေဆိုးတွေ အိုင်ထွန်းနေသည့် သည်လို မြို့စွန်ပြဖျားကို ဆရာတို့ ဘယ်လို က ဘယ်လို ရောက်လာကြတာလဲ။ ဆရာနှင့် ကျွန်တော် မတွေ့ရတာ နှစ်ပေါင်း နှစ်ဆယ်နီးပါးရှိပြီ။ ကျွန်တော် မဟာဂီတသီချင်းတွေကို စွန့်ခွာလာကတည်းက ဖြစ်၏။

"မင်း မန္တလေးမှာဆို၊ ကိုသန်းဆောင်ကတော့ ပြောသား၊ ကိုစိန်ဖေ ဆုံးတာတော့ သိတယ်နော်"

ဆရာအသံက ဇာတ်မင်းသားအချို့မှာ ရှိတတ်သည့် ပလုပ်သံ ဖြစ်သည်။ ပလုတောနဝါ၊ အက္ခရာစေဝစ်၊ စည်းဝါးအုပ်သော ပလုပ်သံ အကြောင်း၊ ဖျူတောနဝါ၊ သံရှည်သံတို၊ ထုတ်ဆိုမှုလ၊ နားချမ်းမြရသော ဖျူတသံအကြောင်း ဆရာ သင်ပြဖူးတာကိုလည်း သတိရလိုက်မိ၏။ ကြမ်းပြင်ကျဲကျဲကို ဒီဇယ်ဆီဖတ်ဖြင့် ပြောင်လောက်အောင် တိုက်ထား သော ကြမ်းခင်းကို ကြည့်ရင်း ဆရာကတော်ကိုလည်း သတိရသည်။ မြင်တော့ မမြင်။

"ဦးစိန်ဖေဆုံးတာ ကျွန်တော် မသိလိုက်ဘူး။ ဦးသောင်းကော ရှိ သေးသလား ဆရာ"

ဦးစိန်ဖေက ကျွန်တော်တို့ မဟာဂီတဝိုင်းထဲက တယောဆရာ ကြီး ဖြစ်သည်။ ကျွမ်းကျွမ်းကျင်ကျင်ထဲကတော့ မဟုတ်ရှာပါ။ အသံလွှင် ရန် လျှာထားသည့် မဟာဂီတသီချင်းတွေထဲက တစ်ပုဒ်စ နှစ်ပုဒ်စ ထိုးနိုင်သူသာ ဖြစ်၏။ ကျွန်တော် ဆိုခွင့်ရသည့် သီချင်းတွေမှာ ဦးစိန်ဖေ ၏ တယောလက်သံ ပါလေ့ရှိသည်။ ဦးသောင်းကတော့ ဝါးပလွေဆရာ ဖြစ်သည်။ ပလွေကြီးမှ စကာ အဆင့်ဆင့်ငယ်သွားသော ပလွေ လေး လက်ကို ရှုံ့အိတ်ထဲထည့်ကာ ဆရာ့အိမ် ရောက်ရောက်လာတတ်သူ ဖြစ် သည်။ ပလွေကို ကျွမ်းကျင်သလောက် မဟာဂီတ သီချင်းတော်တော်

များများရသူ ဖြစ်သည်။ အထူးသဖြင့် ဝါးပတ္တလားနှင့် တွဲဖက်ရသည့်အခါ ဦးသောင်း၏ ပလွေသံက လွမ်းလောက်အောင် ကောင်းသည်။ ဆရာ ပြောသည့် နာမည်တွေထဲက ကိုသန်းမောင်ကတော့ ကျွန်တော့်ဆရာရင်း ဖြစ်သည်။ မယ်ဒလင် ဧည့်ဝတီသန်းဆိုလျှင် မဟာဂီတနယ်မှာ ဒိသာရို ထျိုးထဲက ဖြစ်၏။ ဆရာကပဲ တီးဝိုင်းခေါင်းဆောင် ပေးခဲ့သည်။

ကျွန်တော်က ဆရာ့အိမ်ကလေးကို ငေးကြည့်လိုက်သည်။ ကြမ်းခင်း က ခြောက်ငါးမူးခေါ်သည့် ပျဉ်ချပ်တွေ ဖြစ်သည်။ တစ်ချပ်နှင့်တစ်ချပ် ခပ်ကျဲကျဲခင်းထားသဖြင့် အိမ်အောက်က ရေတွေကို မြင်နေရသည်။ အနံ့ ဆိုးနှင့် ခြင်တွေက အိမ်အောက်မှာ ရုန်းရုန်းရင်းရင်း ရှိနေကြသည်။ တိုင် တွေက မျောသားမာမာတွေ ဖြစ်သော်လည်း အဖြောင့်တွေမဟုတ်။ ခေါင်း ရင်းမှာ လေးထောင့်စပ်စပ် ဘုရားစင်ကလေး ရိုက်ထားကာ ဉာဏ်တော် တစ်မိုက်လောက်ရှိမည့် ဘုရားရှင် ဆင်းတုတော်တစ်ဆူ ကိန်းဝပ်နေသည်။ ဘုရားပန်းတွေကတော့ ဂန္ဓမာဖွေးဖွေး။

"ဆရာတို့ ဘယ်လို သည်ကို ရောက်လာကြတာလဲ။ ကျွန်တော် မေးမြန်းမေးပြီး လာခဲ့ရတယ်။ ကျွန်တော် မန္တလေးရောက်နေတာ ကြာပြီ။ စာပဲရေးနေတာပါပဲ။ သီချင်းတွေ မဆိုရတာကြာတော့ လျှာထောင် သံချေး တက်ချင်ချင် ဖြစ်နေပါပြီ"

ဆရာက ကျွန်တော် ပေါ့ပေါ့ပါးပါး ပြောလိုက်သည့် ဟာသကို ရယ်ပါ။ ကျွန်တော် မေးသည့် အိမ်ကိစ္စကိုလည်း မဖြေပါ။ ဆရာကို ကျွန်တော်တို့က ဆရာသြလို့ပဲ ခေါ်ကြသည်။ အမည်ရင်းက ဦးသြမောင် ဖြစ်၍ မဟာဂီတ သီချင်းကြီးဝိုင်းမှာတော့ 'ဦးသြမောင် သီချင်းကြီး တူရိ ယာအဖွဲ့' လို့ မှတ်ပုံတင်ထားသည်။ ကျွန်တော် ဆိုခဲ့စဉ်တုန်းကတော့ တစ်နှစ်ကို နှစ်ကြိမ်လောက် အသံလွှင့်ဖြစ်သည်။ သီချင်းတိုက်တာကတော့ အမြဲလိုလို ရှိတတ်သည်။ သည်တော့ ဆရာ့အိမ်ကို ကျွန်တော်တို့ မှန်လယ်

နေ့ခင်း ရောက်သွားကြမြဲ ဖြစ်၏။ ဆရာက ရုံးတစ်ရုံးမှာ ရုံးအုပ်ကြီး တာဝန်ထမ်းဆောင်ဖူးသည်။ သည်တုန်းကတော့ သီချင်းတိုက်ရက်ကို စနေ တနင်္ဂနွေလို အားလပ်ရက်တွေလို နေ့တွေမှာ တိုက်ကြတာ များသည်။ ပထမဆုံး ဆရာ့သီချင်းကြီးဝိုင်းကို ကျွန်တော် ရောက်စဉ်က အင်းစိန်ဘက် က လမ်းတစ်လမ်းမှာ ဖြစ်သည်။ သည်တုန်းက ဆရာ့အိမ်က တော်တော် လေး ကြီးမားသော နှစ်ထပ်တိုက်ခံအိမ် ဖြစ်သည်။ အောက်ထပ်က အုတ် ထားပြီး အပေါ်ထပ်က ပျဉ်လျှာထိုး ပတ်လည်ကာ ဖြစ်၏။ ပျဉ်လျှာထိုး တွေကို နီညိုရောင်ဆေးတွေ သုတ်ထားသဖြင့် ကျွန်တော်တို့က ကွယ်ရာ မှာ ကိုလိုနီခေတ် ဂါတ်တဲနှင့်တူကြောင်း ပြောဖြစ်ကြသည်။ ပြတင်းပေါက် တွေက ဆေးဖြူတွေ ပိန်းနေအောင် သုတ်ထားသဖြင့် အနီနှင့် အဖြူသည် တင်းတင်းကြီး ကန့်ထွက်နေတတ်သည်။ သည်အိမ်ကြီးက ဆရာ့အိမ်လား ကျွန်တော် မသိ။ မေးလည်း မမေးကောင်းတော့ တီးဝိုင်းထဲက ဘယ်သူက လည်း မေးတာမျိုးမရှိ။ သည်အိမ်ကြီးမှာ တီးဝိုင်းတိုက်ရသည့်အခါ ပတ်ဝန်း ကျင်ကပါ လာနားထောင်လေ့ရှိသည်။ ကျွန်တော်တို့ တီးဝိုင်းကလေးမှာ သီချင်းတိုက်ချိန်လင့်သွားလျှင် ဆရာကတော်က ချက်ပြီးပြုတ်ပြီး ခူးခပ် ကျွေးနေကျ။ ဆရာကတော့်လက်ရာက ကောင်းလှသဖြင့် ကျွန်တော်တို့ အားလုံး စားပြီးမှ ပြန်ကြတာများသည်။

"သီချင်းဆိုမယ့်သူများဟာ သဒ္ဒနိကာယ်ခေါ်တဲ့ အသံအင်္ဂါ၊ အသံ ဩဇာ ရှိကြရတယ်၊ သဒ္ဒပညတ်ခေါ်တဲ့ စကားသ ပီရ မြည်ရတယ်၊ သဒ္ဒ ယုတ္တိခေါ်တဲ့ သဒ္ဒါအနေဖြင့်လည်း အနေသင့်ရတယ်။ ပုဒ်ဖွင့်ပါဠိဖွင့် ကျိုးသင့်ကြောင်းမှန် သဒ္ဒရိတ်ကြန် နိမိတ်ဆိုတဲ့အတိုင်း စကားရိပ်ကိုသိ မှ ကောင်းတယ်။ သည်သီချင်းစာသားဟာ လိုတာလား၊ မလိုတာလား မျိုး ဘဲဆိုနေရင် ဂိုဏ်းသင့်တာပဲ။ လုံးစုံနှုတ်ဝယ်၊ သရစ္စာယ်လျက်၊ အသွယ် အသွယ်၊ ရလွယ်ထုံးစံ သဒ္ဒါင်ဆိုတဲ့ စကားရှိတယ်။ မဟာဂီတသီချင်း

များဟာ အလွတ်ရွတ်ဆိုနိုင်ရတယ်။ အက္ခရာတွေကို ရွတ်တဲ့ဆိုတဲ့အခါ ဗျဉ္ဇနဗုဒ္ဓိဆယ်ပါးဖြစ်တဲ့ ဒီဃ၊ ရဿ၊ ဂရု၊ လဟု၊ သိထိလ၊ ဓနိတ၊ သမ္ဗန္ဓ၊ ဝဝတ္ထိတ၊ နိဂ္ဂဟိတ်၊ ဝိမုတ်တွေကို နားလည်ရတယ်။ သည်ဆယ်ပါးမှ နားမလည်ရင် မဖြစ်ဘူး"

အသံရှည်ရွတ်ရခြင်း၊ အသံတိုရွတ်ရခြင်း၊ လေးလေးရွတ်ရခြင်း၊ ပေါ့ပေါ့ရွတ်ရခြင်း၊ ပျော့ပျော့လျော့လျော့ ရွတ်ရခြင်း၊ မာမာပြင်းပြင်း ရွတ်ရခြင်း၊ နောက်ပုဒ်နှင့်စပ်၍ ရွတ်ရခြင်း၊ ပုဒ်ဖြတ်၍ ရွတ်ရခြင်း၊ ကရိုဏ်းကိုနှိပ်၍ ရွတ်ရခြင်း၊ ဖွင့်၍ ရွတ်ရခြင်းတို့နှင့် စပ်လျဉ်း၍ အဆိုနှင့်အတီး သဘောချင်းနီးအောင် အာစရိယဝါဒနှင့်တကွ သင်ကြရသည်။

သည်အိမ်ကြီးမှာ လပေါင်းများစွာ သီချင်းတွေ တိုက်ကြ၊ တိတ်ရကော်ဒါဖြင့် အသံတွေ ဖမ်းကြည့်ကြ၊ စားလိုက်သောက်လိုက်ကြ။ သည်အိမ်ကြီးသည်ပင် 'စံခမ်းသည်ထုံကြော၊ ဝတ်ရှည်လျောညာစီစီ၊ နေနတ်ကယ် နွေရာသီ မှုန်သိင်္ဂီသင်းတဲ့တော' ဖြစ်ခဲ့ရသည်။ ဖူးငုံဝေဆာ ကျူးညံစာ၊ ကန္တာလွန်သာမော၊ ပန်းစုံစုံ ဝတ်မှုန်စီစီ လေပြည်လေညင်းရောသည့်နေရာ ဖြစ်ခဲ့ရသည်။ နေညိုညို ရွှေကိုယ်မျှော်တော်ရေးနှင့် ဆွေးတသိမ့်သိမ့်၊ မြိုင်ရိပ်ကယ်ခို လေချိုသွေး အေးတခြိမ့်ခြိမ့်ဆိုတော့လည်း လွမ်းစိတ်ကလေး ဝေ့ရသည့်နေရာ ဖြစ်ခဲ့ရသည်။ စုံသာမြိုင်လယ် လွမ်းဖွယ်တစ်ခန်း၊ ယဉ်ပုံဗွေ တွေဆန်းလှသည့် တောကြီးမြိုင်စွန်လို့ ခံစားခဲ့ရသည်လည်း ရှိသည်။ နန်းချင်း ချီချ၊ တက်လှတက်ရေး လှေသံရေးသ ပေးသည့်နေရာဆိုတော့ကော။

"ဇမ္ဗူကျွန်းလုံး၊ သိမ်းကျုံးပေါင်းရုံး၊ ဘူမိပတ်ကုံး၊ ရေမြေတောင်တောဆုံးမျှမျှ၊ ချုံးချချ။ ကျွန်းကျွန်းတိုင်းခန်း၊ မင်းပေါင်းထီးနန်း၊ နိုင်ငံကျယ်စွာ၊ ထူးထူးဆန်းဆန်း၊ ဝန်းဝန်းလျားလျား၊ နီးဝေးအများ...."

ဇမ္ဗူကျွန်းလုံး သီချင်းခံကြီးကို သည်အိမ်ကြီးမှာပဲ လေ့လကျော်

ကျော် တက်ယူခဲ့ရသည်။ တစ်ရက်မှာတော့ သည်အိမ်ကြီး၏ ခေါင်းရင်းခန်းမှာ ကန်တော့ပွဲကြီးတစ်ပွဲ ထိုးထားတာ သတိထားမိကြသည်။ ဆရာကတော်က ဝေယျာဝစ္စ ဆောင်ရွက်ပေးနေသော်လည်း မျက်နှာမကောင်းတာ သတိထားမိသည်။ ကျွန်တော့်ကို လက်တို့ခေါ်ကာ ပြောပြရှာသည်။

"သည်အိမ်ကြီးကို အမွေခွဲလိုက်ကြပြီ၊ မင်းဆရာရဲ့ မောင်နှမတွေ ခွဲယူကြရမှာဆိုတော့ မနက်ကပဲ အိမ်ကြီးကို ရောင်းထွက်အောင် ခတ်ရိုက်ခတ်ဆင် ဆရာနဲ့ ကန်တော့ပွဲ လာထိုးသွားကြတယ်။ မင်းတို့ဆရာက တီးမှုတ်နေရတာကို ဘဝင်နေတာ၊ ငါကတော့ ရှေ့နေရေးကို မှ ရသော်ကောကွယ်"

သည့်နောက်တော့ သီချင်းတက်တာတွေကို တစ်လလောက် နားလိုက်ကြရသည်။ နောက်တစ်ကြိမ် လှုပြန်စုကြတော့ ကမာရွတ်ဈေးနားက အခန်းကျဉ်းကလေးတစ်ခန်းမှာ ဖြစ်သည်။ ဆရာ့အတွက် ရသည့် ဝေစုကလေးနှင့် ဝယ်လိုက်ကြသည့်အိမ် ဖြစ်သည်။ အနားမှာ ဈေးရှိသည်။ အဆောင်တွေ ရှိသည်။ စားသောက်ဆိုင်တွေရှိသည်။ ဈေးနံ့တွေက ဆရာ့အိမ်ကလေးထဲမှာ ရွှေပြည်တော် မျှော်တိုင်းဝေး၊ ရေကန်သာ ကြာတိုင်းအေး ဖြစ်နေလေသည်။ သည်အိမ်ကလေးက အခန်းသုံးခန်းတွဲထားသည့် အိမ်တစ်လုံး၏ အလယ်ခန်းဖြစ်သည်။ တစ်ဖက်ခန်းက အရက်ပုန်းရောင်းသည့်ဆိုင်ဖြစ်၍ တစ်ဖက်ခန်းက ပင်မင်းဆိုင် ဖြစ်သည်။ အရက်ဆိုင်နှင့် ပင်မင်းဆိုင်ကြားမှာ မဟာဂီတသည် သိမ်ငယ်လွန်းလှသည်။ တောကြိုးတောင်ကား၊ သေလာတောင်စောင်းမှာ တစ်ဆင့်တက်သော် တစ်တောင်ကျော် နေရသည်။ တစ်မော်ရုံ လျှိုးပြန်တော့ တစ်ချုံနှင့် တိုးပြန်သည်။ တစ်မိုးသောက်မည် မကြံနိုင်ခင် တစ်နေဝင်နေရသည်။ တစ်ပင်မြိုင်ကြိုးကနိုင်ဆီးသည့်နယ် ရှိလေသည်။ ဤနေရာ၌ အချင်းချင်း ကျေးဇူးပြုခြင်းသည် မရှိ။ အချင်းချင်း ရှုမြင်ခြင်းသည် မရှိ။ အချင်းချင်း ကိုယ်တူခြ

ခြင်းသည် မရှိ။ နောက်အဖို့၌ ထင်ရှားပြခြင်းသည် မရှိ။ ငြိမ်းချမ်းကျေအေးခြင်းသည် မရှိ။ မြင်းတားတံတိုင်း ပရဝိုင်းနှင့် ဝိုက်သိုင်းကာရံ၊ လုံကြောင်းကြံသော်လည်း ဤနေရာ၌ ကြည်လင်ခြင်းနှင့် ကြည်ညိုခြင်းသည် ရပ်တည်၍ မရအောင် သွက်သွက်ခါနေလေသည်။

“မင်းတို့ဆရာက ဝယ်ချင်လှချည့်ရဲ့ဆိုလို့ လိုက်လျောခဲ့ရတဲ့အိမ်ပါကွယ်၊ အတန်တန် တားခဲ့ပါသေးတယ်၊ အခုတော့ သည်အခန်းကို ရသလောက်နဲ့ ရောင်းတော့မယ် ပြောပြန်ပြီ၊ မင်းတို့ကလည်း ပြောကြပါဦးကွယ်”

သောင်းရွှေလယ် အိနှောင်စာတ်ထွက် ယိုးဒယားထဲကလို အိုပန်းပါဘိ၊ လှမ်းခြေယူနေး၊ ပူရေးပိုခဲ့ပြီ၊ မြူမှေးညှိုလုံ့ရည်ဆိုသည့် စာသားတွေကို ကျွန်တော် သတိရနေမိသည်။ ထိုပုဂ္ဂိုလ်၏ အပြုအမူသည် ထိုပုဂ္ဂိုလ်နှင့်သာ ဆိုင်သည်ဟု အထင်အရှားပြခြင်း ပကာသနိယကံ အားကြီးလာသည့်အခါမှ ဤအရပ်ကား ‘ပဋိရူပ’ မကျလေဟု ဆရာကိုယ်တိုင် ဆုံးဖြတ်ချက် ကျလေသည်။ ထိုအခါ ဓာတ်ရိုက်ဓာတ်ဆင်ဆရာတို့၏ ကန်တော့ပွဲနှင့် ဆေးဖယောင်းတိုင်သည် နေ့မီးညမီးအားဖြင့် ဥဩမရှိ၊ သျှန္တိမဖန်၊ မန္တန်မနိုးရဘဲ အာနိသင်ဝိပါတ်၊ အကျိုးဆက်ကို ပြက်ပြက်ထင်အောင် အကြောင်းဆောင်ကြလေသည်။ အမှန်ဆိုသော် ကိုလိုနီခေတ်ဂါတ်တဲနှင့်တူသော အိမ်ကြီး၏ အဖိုးစားနားသည် ကာလတန်ကြေးမနည်းလှသော်လည်း ဆရာ့အတွက် ရလိုက်သည့် ခွဲတမ်းက မစို့မပို့သာဖြစ်ကြောင်း၊ မိသားစုအတွင်းရေးဖြစ်၍ သူလည်း သေချာကနမသိရကြောင်း ဒေဝတီသန်းက ကျွန်တော့်ကို ပြောပြဖူးသည်ဖြစ်ရာ ဆရာရလိုက်သည့် ငွေကလေးက သည်လိုအခန်းကလေး တစ်ခန်းအတွက်သာ လောက်ငံ့ပေါ်သည်လို့သာ မှတ်ရတော့သည်။ တစ်ရက်မှာတော့ ဆရာက မထင်သောစကားကို ဆိုလေသည်။

“သည်အခန်းကလေး ရောင်းထွက်ဖို့ ပိတ်ဖြူစင်ကြာပိ ခုနစ်ရက်

ဝတ်ပြီး သက်သတ်လွတ် စားရမယ်၊ ဥပေါသထသီလ ဆောက်တည်ရမယ်လို့ ဓာတ်ဆရာက ပြောလို့ သီချင်းတိုက်တာ ခဏနားကြရအောင်"

ဆရာ့ထံ အာစရိလက်ဆုပ်၊ အာစရိမုဋ္ဌိ နည်းကောင်းကြီး ခံကြကုန်သော အဆိုအတီးဆရာတို့လည်း ဆရာ့စကားကြောင့် တီးလက်စ၊ မှုတ်လက်စ၊ သီလက်စ ဆိုလက်စကို ချက်ချင်းကြီး ရပ်ကြလေသည်။ ငါးတန် သီလ၊ စောင့်ထမယုတ်၊ ဥပုသ်သီတင်း၊ သုံးခြင်း မြို့လှ ဘယ်တုန်းကမှ မရှိခဲ့သော ဆရာ့ကိုသာ အံ့သြကြရတော့သည်။ သည့်ထက်အံ့သြစရာ ကောင်းသည့်အချက်မှာ ကြောင်းအားလျော်စွာ၊ သူ့ခြင်းရာနှင့်သူ့သဘာဝ၊ သူ့ကိစ္စကို ဆောင်ကြသမှု အကြောင်းပြု၍ ထိုအိမ်ကလေးရောင်းထွက်ခြင်း ဖြစ်လေသည်။ အခန်းကလေးရောင်းရသည့်ငွေက ဝယ်ရင်းထက် များလေသည်ဖြစ်ရာ ငွေထုပ်ကလေးပိုက်၍ အိမ်ရှာထွက်ကြတာကိုလည်း ကြားနေရသည်။ သည်အချိန်မှာတော့ ဆရာ ရုံးက သက်ပြည့်ပင်စင်ရပြီ။

"ကန်တော်ထိကရ၊ ပြောဝန်းနက်ကျယ်စွာ၊ ချောင်းမြောင်း ရေလျှံဖြာ၊ ဘုန်းပန်း ဘုန်းပန်းဝေ၊ လေလှိုင်းရေ၊ လေးဒီပါအေးမြ၊ လယ်တာလုပ်ခင်း၊ ပြည့်လျှမ်းကောက်ပင်၊ သောင်းခွင်ဖြိုးမှုလေး၊ ဘုန်းမြတ်မြူတေ၊ ရွှန်းဝေလျှံညီး၊ စကြာဆိုက်လုနီးပါလို့၊ ကန်ကြီး ဆည်တော်မှုလေတည့်မှ ကန်ကြီးဆည်တော်မှု..."

ဤသို့ဖြင့် ကန်တော်ကြီးကြိုးမှ စကာ သောတာ လင်္ကာရဂီတ၊ ဝစနာလင်္ကာရဂီတတို့ ပြန်လည်ဝေစည်လာပြန်လေ၏။ ရွှေနန်းထွက်မဟာဂီတ၊ ဂီတဝိသောဓနီ၊ မဟာဂီတပေါင်းချုပ်၊ မဟာဂီတမေဒနီ၊ မဟာဂီတ အသစ်ကျမ်းစသော ဂီတကျမ်းလာ သီချင်းတွေ ဆရာ့အိမ်ကလေးထဲက ပျံ့လွင့်ပြန်လေ၏။ သည်တစ်ခါ ဆရာ ငှားလိုက်သော အိမ်က အုတ်ကျင်းရပ်ကွက် အနောက်ဘက် လှိုင်မြစ်ကမ်းနားမှာ ဖြစ်သည်။

မဟာဂီတသီချင်းသည်၊ အတီးသည်တို့ ပြန်စုကြရပြန်ပြီ။ ဥညဝတီသန်း ကတော့ သီချင်းစတိုက်သည့်နေ့က 'မြစ်ကြီးဆည်တော်မူတည့်မှ မြစ်ကြီး ဆည်တော်မူ' ဟု တိုးတိုးကလေး ရွတ်လေသည်။ ဘယ်လိုပဲဖြစ်ဖြစ် မြစ် စောင်းက အိမ်ကလေးသည်လည်း မြစ်လေတဖြူးဖြူးဖြင့် အေးအေးလူလူ ရှိသည်။ ပင်စင်စားဘဝဆိုသော်လည်း ဆရာက ပူပူပန်ပန်မရှိ။ အိမ်ကလည်း ငှားအိမ်ဆိုတော့ ငွေထုပ်ကလေး ပိုက်မိထားတာလည်း ပါပါလိမ့်မည်။

"ပန်းမြိုင်လယ် ဖရင်းချားကြီးမှာ သုံးမျိုးခွဲတယ် 'ပန်းမြိုင်လယ်' ကနေ 'ကြောက်ဖွန်ကြက်သီးမို့' အထိက ဖရင်းချား၊ 'စုံဆယ်ဖြာ' ကနေ 'ညာနန်းနတ်ကယ်သွင်' အထိက ဘယက်လည်ဆွဲ၊ 'ညာနန်းနတ်ကယ် သွင်' ကနေ 'သည်းခေါင်ကြွေလုပန်း' က ရာမဇာတ်ထွက်၊ တို့တော့ အဲသလို အမှတ်အသား ရှိတယ်၊ တချို့ကလည်း ရှိတာပေါ့ကွာ 'စုံဆယ် ဖြာ' က စဆိုလိုက်တာ 'တင်ကာ ပန်းလျှောက်ကြား' မှာ ခဏရပ်ပြီး ဦးတိုးရဲ့ ရာမရကန် ဆက်ဆိုကြတာ၊ 'ခြုံသံစာစာ၊ မနည်းကွာက၊ တရောထံတျာတေးလုံမကလေး ကွေးအောင်လှ၊ ပွတယ် ရွတယ်၊ ကြာ နန်းသူ့နယ်၊ ဖြူဖြူတုတ်ကယ်...' ဆိုတာပေါ့၊ တချို့ကလည်း 'သည်းခေါင် ကြွေလုပန်း' ဆုံးတာနဲ့ 'ဖြစ်လာကုန်စင်၊ မော်ရုံခွင်စုံမြိုင်ချာက မင်းသီတာ ဒေဝီမယ် နှ... ပျောက်တယ်အရေး' ဆိုတဲ့ သံထောက်ကို ဆက်ကြတာ ရှိတယ်"

ကျွန်တော်တို့ မဟာဂီတတူရိယာအဖွဲ့မှာ အဆိုကျွမ်းကျင်ကြသူ သမ္မာရင့်သူတွေလည်း ပါသည်ဖြစ်ရာ တစ်ခါတစ်ရံ ဆရာနှင့် ကတောက် ကဆ ဖြစ်ကြရသည်လည်း ရှိသည်။ ကျွန်တော်က အဆို မကျွမ်းကျင် သော်လည်း သီချင်းရွေးတာ၊ အတွဲအဖက်တူရိယာ ရွေးတာတွေမှာ ဆရာ နှင့် မကြာခဏ သဘောကွဲလွဲရတာ များလေသည်။ နောက်ထပ် တက်

လာသည့် ပြဿနာက မြစ်ကမ်းဘေးက အိမ်ကလေးဆီကို အသက်ကြီး တူရိယာ တီးမှုတ်သူတွေက စိတ်ရောက်တိုင်း ကိုယ်မရောက်နိုင်သည့် ပြဿနာတွေ ဖြစ်လာသည်။ အသံလွှင့်ရက်နီးလာသော်လည်း သီချင်းတွေက အဆိုရော အတီးပါ ကျေကျေညက်ညက် မရှိတာတွေ ရှိလာသည်။ အပျော်တမ်းဂီတအဖွဲ့ဆိုတော့ ဆရာကလည်း မပြောသာ။ ဆရာကတော်ကတော့ မီးသွေးရောင်းနေရှာပြီ။ မဟာဂီတ ကျမ်းလေးငါးအုပ်၊ စည်းနှင့်ဝါး၊ ဗမာဂီတာကြီးတစ်လက်နှင့် ကြေးဝါဘီ၊ သံမဏိ လက်ထိပ်စွပ်ကလေး နှစ်ခုနှင့်သာ ပြီးနေရသော ဆရာ့အဖို့ စားဝတ်နေရေးအတွက် ဘဝကိန်းချေနိုင်ခြင်းမရှိ။ ဂီတဟူသော ပါရမီ ဘာဂီအငွေ့စာကီလေ့ဖြင့်သာ ပြီးရတော့ ပရိယေသနသည်လည်း နိမ့်ပါးရတော့သည်။

ဆရာတို့ ဓနီးမောင်နှံ မြစ်ကမ်းဘေးအိမ်ကလေး ရွှေ့ကြကာ သာကေတဘက် ပြောင်းကြသည်ဆို၏။ ကျွန်တော်သည်လည်း ဘဝက ပြဋ္ဌာန်းသောအရပ်၌ နေခွင့်ကြုံရသည်ဖြစ်ရာ ဆရာနှင့်တကွ မဟာဂီတ တူရိယာတီးဝိုင်းနှင့်ပါ ဝေးခဲ့ရသည်။ သာကေတက အိမ်ကလေးကကော ငှားတာလား၊ ဝယ်လိုက်တာလား။ သေချာတာကတော့ ဆရာက မဟာဂီတ သီချင်းတွေကို တီးကာမှုတ်ကာ ရှိလိမ့်မည်။ ဆရာကတော်ကလည်း မီးသွေးအိတ်တွေကို သွန်ကာ ရွေးကာ ဆယ်ကာရှိလိမ့်မည်။ ဆရာနှင့် ဝေးခဲ့ရသည်ပင် အနှစ်နှစ်ဆယ် ပျော့ပျော့တော့ ရှိရော့မည်။ တစ်ခါတစ်ရံ မဟာဂီတ သီချင်းဟစ်ပိုဒ်တလေ ညည်းချင်စိတ်ကလေး ဝင်လာလျှင် ဆရာ့ကို သတိရတတ်သား။ သည်တစ်ခေါက် ရန်ကုန်ရောက်ဖြစ်တော့ ဆရာက 'တောင်ဒဂုံ' မြို့စွန်မှာ။

"ကျွန်တော် ပြန်ဦးမယ် ဆရာ၊ အပြင်မှာ တက္ကစီစောင့်နေတာ ကြာပြီ၊ ကျွန်တော် မန္တလေးမပြန်ခင် တစ်ခေါက် လာခဲ့ပါဦးမယ်၊ ဆရာကတော်လည်း တွေ့ချင်သေးတယ်"

"နေပါဦးကွ၊ ရောက်တုန်းရောက်သနိုက် မင်းဆရာကတော်က ဒေါ်ပုံဘက် မီးသွေး လက်ကားဆိုင်သွားတာပါ၊ ရောက်လုပါပြီ၊ ဆိုကွာ မန္တလေးမြို့ ဘွဲ့တွေထဲက သိဂ်ါရွှေဘုံ မကောင်းဘူးလား"

ဆရာက သူ့တိုက်ပုံဟောင်း မီးခိုးရောင်ဖျော့ဖျော့ အောက်အိတ်ထဲက လက်ကိုင်ပဝါကလေးကို ထုတ်ကာ မျက်နှာကို ရဲနေအောင် ပွတ်နေပြီ။ တကယ်တီးတော့မည် ဆိုတာလည်း သေချာပြီ။ သီဆိုခြင်းမည်သော ပေးကမ်းခြင်းဖြင့် စာဂစွန့်ကြဲ၊ ကုသိုလ်ရဲရတော့သည်။ ကြဲ့လိုသော လက်တစ်ဖက်က သံမဏိကြိုးတွေကို ခတ်လျက်၊ အရိုးအရေတင် လက်တစ်ဖက်က ကြေးဘီတုံးကို ဖိလျက်။ ဆရာ့ခန္ဓာကိုယ်က ယိမ်းလျက်၊ နွဲ့လျက်၊ ဆရာ့ရင်ထဲ ပီတိသည် မျက်နှာပေါ်မှာ အခိုးအလျှံတွေလို မွှမွှမွှားမွှား ထင်ဟပ်နေလေသည်။ ပြန်ခါနီးတော့ ဆရာ့ကို တတ်စွမ်းသမျှနှင့် ကန်တော့သည်။ ဆရာက ဘိုးမင်းခေါင်ထိုင် ထိုင်ရင်းက ဆုတွေပေးရှာသည်။

"သည်အိမ်ကလေးတော့ ခြစ်ခြုတ်ဝယ်လိုက်တာကွ၊ တို့ဝယ်တုန်းက ဈေးမရှိသေးဘူး၊ အခု ရောင်းဖို့ လုပ်နေတယ်၊ ဝေးလွန်းတော့ ဆိုမယ့် တီးမယ့်လူတွေ မလာဘူးကွာ၊ မဆိုရ မတီးရရင် ငါ သေမှာပဲ၊ ဥပါဒါန်ဆိုတော့လည်း မခွဲနိုင် မစွန့်နိုင်၊ မဖြတ်နိုင်ဘူးပေါ့ကွာ"

ဆရာ့အိမ်ကလေး ကျွန်တော် တစ်ခေါက်မရောက်ဖြစ်တော့ပါ။ ဓာတ်ဆင်ဓာတ်ရိုက် ဆရာတို့၏ အစီအရင်ဖြစ်သော ကန်တော့ပွဲတစ်ပွဲ၊ တောက်လောင်နေသည့် ဆေးဖယောင်းတိုင် တစ်တိုင်နှင့် ပိတ်ဖြူစင်ကြယ် ဝတ်ထားသည့် ဆရာ့ကို မတွေ့ချင်တော့တာ ပါသည်။ နောက်တစ်ခေါက် ရန်ကုန်လာဖြစ်လျှင်ကော ဆရာတို့ ဇနီးမောင်နှံ ဘယ်လို အိမ်ကလေးမှာ ရှိနေမှာလဲ။ ဒါကတော့ ဘုရားရှင်မှ သိတော်မူလိမ့်မည်။

## အိမ်ကလေး ၁၄

သည်အိမ်ကြီးကို ကျွန်တော် ရောက်သွားချိန်မှာ မွန်းတိမ်းနေပြီ ဆိုသော်လည်း နေရောင်က ကျည်ကျည်လောင်လောင် ရှိနေသေးသည်။ တစ်ခြမ်းစောင်းနေသည့် အိမ်တစ်ခြမ်းစာကို နေရောင်ကလည်း တစောင်း ကျလျက်ရှိ၏။ အိမ်က တော်တော်ကြီးယိုင်ရွဲ့နေသည်ဖြစ်ရာ အိမ်ဘေးက ပန်းတက်ရသော သွပ်ပြားအမိုးတပ် လှေကားအိမ်ကလည်း သွေးမညီ ဆီနှင့်ညို၊ မြေမညီ ရေနှင့်ညိုဆိုသည့် စကားပမာ အစောင်းကို အစောင်း နှင့် ညှိထားပုံမျိုး။ မြင်ရသလောက် အခြေအနေသည်ပင် သစ်နင်းတော့ သစ်ကျိုး၊ ဝါးနင်းတော့ ဝါးကျိုး၊ မရိုးနိုင်သော အနိစ္စမေ့ ထင်ရှားရှိသည် ဖြစ်ရာ ကျားသေကို ရှင်အောင်ပြုတတ်သည်ဆိုသော ဇော်ဂျီသော်မှ သည် အိမ်ကြီးကို နိုင်မတ်အောင် တတ်နိုင်ဖို့ မလွယ်။ စုတေ့သွေ့လှန်၊ နေ့ နက်ဖြန်ဟု၊ ကေန်မကျ၊ အနိစ္စအား၊ သိရခဲလှော်ဆိုသည့်တိုင် သည်အိမ် ကြီး၏ ကြမ္မာခယ အနိစ္စကတော့ ချက်ချင်းကြီး ကျရောက်တော့မည့် သဘောရှိ၏။ ရှေးကတော့ အဟာန့်ကောင်းခဲ့ပုံရသည်။ လွန်ခဲ့သော နှစ် ပေါင်းများစွာက ဆောက်ခဲ့သည့် အိမ်ဆိုတော့ ရှေးအတိတ် ပျူးအရိပ်တွေ

ကြွင်းနေသေးသည်။ မည်သို့ပင်ဖြစ်စေ သည်ကနေ့ မျက်စိနှင့် ကြည့်သည့်အခါ သိမ်ဟောင်း ဇရပ်စဆွဲဟောင်းနှင့် ပိုတူသည်ဟု ဆိုရမည်။ မြင်ရသမျှ အခင်းအကျင်းတွေမှာ သစ်ကိုပင် ကြိုးဆယ်မျိုးထင်အောင် ကနုတ်နရီ ကပိ ဂဇာ ဖွယ်ဖွယ်ရာရာ ရှိလေသည်။ ခရု၊ ပုခက်၊ ဘယက်၊ မှော်ပတ်၊ ပေတ်ခံတွင်း (ငါးပတ်ခံတွင်း)၊ မှော်သီး၊ ပြောဝမ်းကြီး၊ နဂါးလိမ်၊ ရာမလက်ညှိုး၊ တမုတ်ဆွဲ၊ နန်းပြောက် စသော ဇဝါရေးရိုးကြိုးဆယ်မျိုးတို့ မိုးတိုးမတ်တတ် ရှိနေသေးသည်။ နတ်ဆော်ပန်းဆော် စသော ကြက်မောက်တန်းတွေကတော့ ကျိုးတာကျိုး၊ ကြေတာကြေ။ ကြက်ရင်ဒေါင်းရင်ခေါ်ကြသည့် အသားထွင်းရင်ပုံ ပုံ့ပုံ့တွေက အလုံးအရွေကစီကရင်၊ ကစီးကနင်း...၊ ယွင်းချင်တိုင်း ယွင်းလုပြီ။ ကြမ္မာမျိုး ၃၂ ပါးတို့ မွေချင်တိုင်း မွေခဲ့ပုံပေါ်သည်။ တံခါးရွက် နတ်ရုပ်တွေကတော့ 'ဘက်သကတ်ဘက်သချာ' လေဖြတ်နာစွဲကြပုံဖြင့် နတ်အချင်းချင်း ရိုင်းပင်လျက် ရှိကြလေသည်။

ကျွန်တော်က အပေါ် ပတ္တာဆက်ပြုတ်နေသည့် တံခါးရွက်ကိုကိုင်လိုက်တော့ နတ်ရုပ်တွေ ချိုးချိုးချွတ်ချွတ် မြည်သွားလေသည်။ မြင်ရသလောက် အတွင်းခန်းမှာ မှောင်မှောင်ကြီး ပိန်းနေသည်ဖြစ်ရာ ငါ သူတစ်ပါး ယောကျ်ား မိန်းမ ဘာကိုမှ ချက်ချင်း မမြင်ရလေ။ မျက်လုံးတွေမှေးကာ အားစိုက်ကြည့်တော့မှ ပရိဘောဂအချို့နှင့် ပစ္စည်းတချို့ကို ရိုးရိုးရိပ်ရိပ် မြင်ရလေသည်။

"ဒါ ရတနာပုံ ဒေါ်မွေးထုံတို့အိမ်လားခင်ဗျ"

အိမ်ကြီးထဲက အသံတစ်စုံတစ်ရာ တုံ့ပြန်တာ မရှိ။ ကျွန်တော့်ခေါ်သံကိုသာ ကျွန်တော် ပြန်ကြားနေရသည်။ ကျွန်တော့်အသံကပဲ တိုးလွန်းလုလို့လား၊ ခပ်ကျယ်ကျယ်ကလေး အော်တော့လည်း ထူးသံမကြားရ။ လူရိပ်လူယောင်ပင် မရှိ။ အလင်းရောင်က အမိုးပေါက်တစ်နေရာက

ဝုန်းခနဲ ပြုတ်ကျလာကာ ကြမ်းခင်းပေါ်မှာ တစ်စစီ ကွဲကြေလွင့်စဉ်ရာက အလင်းပုံစတစ်စ အောက်ထပ်ကို စဉ်ထွက်လာတာလောက်သာ ရှိသည်။ တံခါးမကြီးမှလွဲ၍ ပြတင်းတွေအားလုံးကို ပိတ်ထားသည့်အတွက် အပလေ၊ အပအလင်းတို့ကို ကန့်သတ်ထားသလို ဖြစ်နေသည်။ ပရိဘောဂဟောင်းများဆီက ထွက်လာဟန်ရှိသော မှိုနံ့၊ ဖုန်နံ့တွေက ထွက်ပေါက်ဖြစ်သော တံခါးမကြီးဘက်ကို အလုအယက် တိုးထွက်နေကြသည်။ ပြင်းရှူးရှူးအနံ့ တစ်မျိုးကြောင့် သည်အိမ်မှာ ကြောင်တွေရှိနေလေသလား တွေးမိခိုက်မှာပင် ကြောင်လိုလိုကလေးတစ်ကောင်က ကျွန်တော့် ခြေထောက်တွေကို ပွတ်သပ်ခြင်း ခံလိုက်ရသည်။ ကြောင်ကလေးကို ကောက်ပွေ့လိုက်ဖို့ ငုံ့လိုက်သည့်အခါမှာတော့ ဖွေးဖွေးဆွတ်ဆွတ် လူ့ခြေထောက် သေးသေးကလေးတွေကို မြင်လိုက်ရသည်။

ကြက်သီးများ ဖြန်းခနဲ ထသွားမှန်း ကျွန်တော့်ကိုယ် ကျွန်တော်သိလိုက်သည်။ မိန်းမအိုကြီးတစ်ယောက်က ကျွန်တော့်ကို စိုက်ကြည့်နေသည်ကော။ ထဘီကတော့ ရှေးမင်းသမီးများ ဝတ်တတ်ကြသည့် ပြန့်ထဘီ။ ကုံးစပ်ထဘီလည်း ဖြစ်နိုင်သည်။

"ရတနာပုံ ဒေါ်မွေးထုံလားခင်ဗျ"

ကျွန်တော်က ဒုတိယအကြိမ် အသံထွက်လိုက်သော်လည်း အိမ်ရှင်ဆီက ပထမအသံကို မကြားရ။ မျက်ရစ်မပါသော ပျော့တွဲတွဲ မျက်ခုံးတွေကို ပုတ်ခတ်ပုတ်ခတ် လုပ်ရင်းက ကျွန်တော့်ကို ကြည့်နေခြင်းသာ ရှိသည်။ မျက်လုံးတွေက ဖန်ဂေါ်လီလုံး အပုံ့ထဲက ပန်းပွင့်စိမ်းလို မျက်လုံးအိမ်ထဲမှာ ညပ်ညပ်သပ်သပ် ရှိနေပုံမျိုး။ တစ်ချိန်က လှပခဲ့ပုံရသည့် မျက်နှာသွယ်သွယ်က ရှည်လျားလှသော အရုပ်နှင့် လိုက်ဖက်သလိုတော့ ရှိ၏။ သို့သော် မင်ခံစက္ကူကို ဒေါသတကြီး ဆုပ်ချေထားသလို တွန့်ရှုံ့နေသည်။ နှုတ်ခမ်းပါးပါးက လေဟာနယ်တစ်ခုခုက စုပ်ဆွဲထားသလို

အတွင်းကို ခွက်ဝင်နေသည်။ တံခါးရွက်ကို ကိုင်ထားသည့်လက်တွေက ငရဲခန်းနံပါတ်တော်တွေမှာ တွေ့ရတတ်သော ယမမင်း၏ လက်ချောင်းတွေလို ဆစ်ပျောက်ငေါငေါ။ ဝတ်ထားသည့် နီညိုရောင် ကတ္တီပါစအင်္ကျီက ရင်ဖုံးလက်ရှည် ဖြစ်သည်။ သည်အင်္ကျီသည်လည်း အမွေးကျွတ် ဝက်မင်ဘီးဟောင်းတစ်ချောင်းနှင့် တူနေပြီ။ အင်္ကျီ၏ လည်ကွေးအဝိုက်၊ လက်ဖျားနှစ်ဖက်နှင့် ကြယ်သီးတန်းတစ်လျှောက်မှာတော့ သော်ကြယ်ပွင့်တွေ ပြိုးပြိုးဖျောက်ဖျောက် ကျန်နေသေးသည်။

"မင်းက ဘယ်သူတုံး"

အမေအို၏အသံက ပင့်ကူသံ၊ ခလုတ်သံပါသော ဓာတ်သံဖြစ်သည်။ ကျွန်တော်က ရှုတော်မူသဘင်မဂ္ဂဇင်းမှာ လူတွေ့မေးမြန်းခန်း တာဝန်ယူရသည့် စာရေးဆရာဖြစ်ကြောင်း ပြောပြလိုက်သည်။ သဘောပေါက်ပုံတော့ မရ။ ကျွန်တော်က တတ်နိုင်သမျှ နားလည်အောင် ရှင်းပြရသည်။ တစ်ချိန်က ထင်ရှားခဲ့သော ဓာတ်မင်းသားကြီး မြို့တော် အောင်သန်းကျော်နှင့် အတွဲအဖက်ညီခဲ့သော မင်းသမီးကြီး ရတနာပုံ မမွေးထုံတို့အကြောင်း မေးချင်မြန်းချင်ပါကြောင်း၊ အထူးသဖြင့် ပညာရှင်နှစ်ဦး၏ အနုပညာကို ဖော်ထုတ်ချင်ပါကြောင်း ပြောပြရသည်။ အမေအိုက တောင်ဝှေးကိုထောက်ရင်း နားထောင်နေသော်လည်း မျက်လုံးတွေက ဓာတ်ပုံတစ်ပုံကို စိုက်ကြည့်နေသည်။ ကျွန်တော်က စကားဆက်ရင် ကောင်းမလား၊ ဆက်မပြောဘဲ ရပ်ထားရင် ကောင်းမလား တွေးနေမိ၏။ အမေအိုက ကျွန်တော်ပြောတာကို သဘောပေါက်ဟန်ဖြင့် အတွင်းဘက်ကို ခေါ်လာခဲ့သည်။ ဖုန်အလိမ်းလိမ်း ထနေသည့် ဆက်တီ ကုလားထိုင်တွေပေါ်မှာ ထိုင်ဖို့ တောင်ဝှေးများဖြင့် ဝှေ့ပြသည်။ ဆက်တီလေး ငါးလုံးပေါ်မှာ အဝတ်ဟောင်းတွေ အပြည့်။

မဖယ်ရှားဘဲ ပစ်ထားတာ ဘယ်လောက်တောင် ကြာပြီလဲ။ အဝတ်ပုံထဲမှာ မြွေတစ်ကောင် ရှိနိုင်သည်။

"ထိုင် မောင်ဘယ်သူ"

"နေဝင်းမြင့်ပါ"

"ဘာဘုတ်အုပ်ကွဲ့"

"ရှုတော်မူသဘင်မဂ္ဂဇင်းပါ"

"မင်း ရှုတော်မူသီချင်း ကြားဖူးသလား၊ တို့ငယ်ငယ် အငြိမ့်များ ကကြတုန်းက မင်းသမီးမှန်ရင် ဆံထုံးကလေးတွေ တည်သီးကလေးတွေ လို ထုံးကြတာ၊ နန်ပေါက်ကကြရတော့ မပြေအောင်ပေါ့၊ ဆံထုံးကလေး ခပ်ယိုင်ယိုင်မှာ ပန်းတွေဆေနေအောင် ပန်ကြတယ်၊ ခေါင်းက ဖဲပွင့်ကလေး တွေ၊ ပန်းစက္ကူတွေကို ဖယောင်းများ စိမ်ထားရင် ပြန့်ပြီး ကော့နေတာ၊ တခဲ့ကြစမ်းဆိုသာများ"

အမေအိုက ပြောချင်ရာတွေ ပြောနေသော်လည်း စီကာစဉ်ကာ တော့ ရှိသား။ ဒါဆိုလျှင်တော့ မှတ်ဉာဏ်တွေ ကောင်းပုံရသေးသည်။ ကျွန်တော် ထိုင်နေသည့် ကုလားထိုင်မှာ လက်တန်းတစ်ဖက်မရှိ။ ကျန် တစ်ဖက်ကလည်း ခပ်လှုပ်လှုပ်။ မှန်ချီးတွေ တက်နေတာကပဲ စပါးလုံး တစ်ထောက်စာလောက် ရှိလိမ့်မည်။ အမေအိုစကားတွေ ပြောနေတုန်း အိမ်အတွင်းပိုင်းကို ကျွန်တော် ဇဝိုက်ကြည့်လိုက်သည်။ အတွင်းမှာ ပင့်ကူ မျှင်တွေက 'လေသိမ်းတိုင်းလှ ကိန္နရီကသည့်နှယ်' ရှိလေသည်။ ပင့်ကူမျှင် တွေက အိမ်ချင်းဆက်ကာ ဆက်ကာ ပုလဲစိုင် ပုလဲနှစ် ချစ်စရာလိပ်ပြာ တောင်။ လျှပ်စစ်မီးလည်း ရှိပုံမရ။ ရှေးက လသာမှန်အိမ်တစ်လုံးသာ တန်းတစ်တန်းက တွဲလောင်းကျနေသည်။ ဒါကလည်း ထွန်းညှိပုံတော့ မရှိ။ ပင့်ကူမျှင်တွေ နိုင်းချင်း။

"တော်ရုံမင်းသမီးမှ မဟုတ်တာကွယ်၊ ထမင်းခုနစ်မျိုး စားခဲ့တဲ့

မိန်းမပဲဟာ၊ ထောပတ်ထမင်း၊ ပုစွန်ဆီထမင်း၊ အုန်းထမင်း၊ စိတ်ရှိ ထမင်း၊ ရွှေထမင်း၊ ကောက်ညှင်းထမင်း၊ နို့ထမင်း… ထမင်းခုနစ်မျိုး မင်း စားဖူးသလား၊ နံ့သာမျိုးဆယ်ပါး လိမ်းခဲ့တဲ့ မိန်းမကွဲ့”

“ပြောပါဦး ခင်ဗျာ”

“အမြစ်နံ့သာ၊ အနှစ်နံ့သာ၊ အကာနံ့သာ၊ အခေါက်နံ့သာ အလွှာနံ့သာ၊ အရည်နံ့သာ၊ အရွက်နံ့သာ၊ အပွင့်နံ့သာ၊ အသီးနံ့သာ ပင်စည်နံ့သာတဲ့။ ဇာတိပ္ဖိုလ်များဟာ အသီးနံ့သာပေါ့။ သင်ကန်းပင်များ ဟာ ပင်စည်နံ့သာပေါ့။ သီးခေါက်များဟာ အလွှာနံ့သာပေါ့။ မာလာ ကျိုကျူများဟာ အပွင့်နံ့သာပေါ့၊ မင်း လိမ်းဖူးသလား”

“မလိမ်းဖူးပါ ခင်ဗျ”

“ငါက လိမ်းခဲ့တယ်။ ရှေးက ကိုယ်ပွတ်မှုန့်၊ ကသည်မှုန့်ခေါ်တယ် မျက်နှာချေက နောက်မှပေါ်တာ။ ရှေးက အငြိမ့်မင်းသမီးများ ထဘီနဲ့ ရှေ့ကွဲတုရင် အင်္ကျီတွေ ဝတ်ရတာ နရသူမင်းက သဘင်မိန်းမတွေ ရှု လုံခြုံခြုံ မဝတ်ရဘူးလို့ အမိန့်ထုတ်ရာက စတာကော သိသလား။ ထို ခေတ်က သီချင်းလုပ်ဆိုတာတောင် ရှိသေးတယ်။ ကိုယ်ထင်တာ ဗလာဖြ ရင် ဗမာမမတန် ယောက်ျားတွေ ကြိတ်မခံနိုင်ဘု၊ ညီတ်ခနဲ ဖြစ်ရအမှန် ယောက်ျားကြိုက် ကရတာကောဟဲ့… မင်း သဘောပေါက်ကဲ့လား”

အမေအိုက သူပါ အဝတ်ဟောင်းတွေပေါ် ထိုင်လိုက်ရာ ကျွန်တော် မမေးရခင်မှာပင် သူကချည်း မေးနေလေသည်။ ကျွန်တော် ကက်ဆက်ကို ခလုတ်မနှိပ်သေးဘဲ အချိန်အခါကို စောင့်နေရသည် ကျွန်တော် သိထားသလောက် မင်းသမီးကြီး ရတနာပုံ မမွေးထုံသည် မင်းသားကြီး မြို့တော် အောင်သန်းကျော်၏ ဆဋ္ဌမဇနီး ဖြစ်သည် မင်းသားကြီး မြို့တော်အောင်သန်းကျော်၏ အခြားသော ဇနီးမယားတွေ အကြောင်း ကျွန်တော် မသိ။ သို့သော် ဆဋ္ဌမဇနီးဖြစ်သူ မြို့တော်မမွေးထုံ

က မင်းသားကြီးနှင့် နောက်ဆုံး အတူနေခဲ့ရသူ ဖြစ်သည်။ သည်အိမ်ကြီးမှာပဲ မင်းသားကြီး ကွယ်လွန်ခဲ့သည်။ မင်းသားကြီး ကျော်ကြားစဉ်က အရုပ်သူရော ဇာတ်သူပါ တစ်ပြိုင်နက် ယူခဲ့သည့် မယားတွေမှာ သားသမီးများ ထွန်းကားခဲ့ကြသော်လည်း မင်းသမီးကြီး ဒေါ်မြွေးထုံမှာတော့ နှစ်ပေါင်းများစွာ ပေါင်းသင်းခဲ့သည့်တိုင် သားသမီး မရခဲ့။ အမွေကိစ္စ၊ အဝေအခြမ်းကိစ္စတွေ ဘယ်ပုံ ဘယ်နည်း ရှင်းခဲ့သည် မသိရသော်လည်း ဒေါ်မြွေးထုံကတော့ သည်အိမ်ကြီးကို ရလိုက်သည်။ ဒေါ်မြွေးထုံက ရှေးခေတ်အငြိမ့် ဒုတိယကာလလောက်ကို မီခဲ့သူ ဖြစ်သည်။ နောက်တော့ ဇာတ်ထဲရောက်သွားကာ မင်းသားကြီး အောင်သန်းကျော်ဇာတ်ထဲမှာ ပြဇာတ် ကလိုက်သေးသည်။ နောက်တော့ နှစ်ပါးက နှစ်ပါးထိုင်၊ နောက်ပိုင်း မင်းသမီးကြီး ဖြစ်ခဲ့ရသည်။ သဘင်ရှည်ဝသူဆိုတော့ သဘင်နယ်မှာ ထင်ရှားခဲ့ကြသူများလည်း ဖြစ်သည်။

ရှေးက ရန်ကုန်မြို့နေ ဆောင်းဆရာကြီး ဦးဖေဖြူဆိုသူက ဆောင်းအငြိမ့်ကလေး ထောင်သည်။ မင်းသမီး စိန်ကြော့နှင့် စိန်လုံတို့ ကခဲ့သည့် ခေတ်သစ် ပထမအငြိမ့် ဖြစ်သည်။ ကုန်းဘောင်ခေတ်နှောင်းပိုင်း နန်းတွင်းအငြိမ့် အပျိုတော်များခေတ်၊ နောက်ပိုင်းခေတ်ကာလပေါ် အငြိမ့်များ စချိန်မှာတော့ စိတ်ကူးသန်ရာ အဆန်းထွင်ခဲ့ကြသည်။ ဆောင်းအငြိမ့်၊ စန္ဒရားအငြိမ့်၊ တယောအငြိမ့်၊ ပတ္တလားအငြိမ့်၊ ဘာဂျာအငြိမ့်၊ မိကျောင်းအငြိမ့်တွေ ခေတ်စားချိန်ဖြစ်သည်။ ယောက်ျား၊ မိန်းမထိုင်ဆိုခေတ်ကို လွန်သည့်အခါ ခြောက်လုံးပတ်တွေ ပတ်လုံးပိုလာသည်။ ဘာဂျာ၊ ပလွေတိုးလာသည်။ စခွန့်၊ စည်တို၊ ကြေးမောင်းတွေ တိုးလာသည်။ နောက်တော့ ဘင်တွေ၊ မယ်ဒလင်တွေ၊ ဟွန်းတယောတွေ ပါလာပြန်သည်။ ထိုခေတ်မင်းသမီးများဖြစ်သည့် စိန်ဆင်၊ စိန်တင်၊ စိန်ချစ်၊ စိန်လှိုင်၊ စိန်မြိုင်၊ ဘိလပ်ပြန် စိန်တင်၊ သြဘာညွန့်၊ သြဘာသောင်း၊ ရွှေခြေကျင်း၊ မြ

ခြေကျင်းတို့ကို ဒေးရင်းက မမွေးထုံ မင်းသမီးဖြစ်ခဲ့ရသည်။ မင်းသမီးနာမည်ရှေ့က ပေါလင်၊ အာဝါဒေး၊ ပလိုတီယာ၊ လေဘာတီ၊ တက္ကသိုလ်၊ နေရှင်နယ်... စသည်ဖြင့် တပ်ကြသော်လည်း မမွေးထုံက မန္တလေးသူဆိုတော့ ရတနာပုံ မမွေးထုံဆိုသည့် အမည်ကို ယူခဲ့သည်။ သည်အချက်အလက်တွေက ကျွန်တော် သိထားသည့် အချက်အလက်တွေ ဖြစ်သည်။ ကျွန်တော် မေးခွန်းမေးဖို့ အားယူလိုက်တော့ မျက်လုံးစိမ်းများဖြင့် ကက်ဆက်ကို စိုက်ကြည့်နေလေသည်။

"ဒါက ဘာလဲ ဓာတ်ခွက်လား"

"ဟုတ်ပါတယ်၊ အမေ့ကို မေးပါရစေဦး၊ မင်းသားကြီးနဲ့ အိမ်ထောင်ကျတာကစပြီး ပြောစေချင်ပါတယ်"

"အိမ်ထောင်ကျတာ ဟုတ်လား၊ ဓာတ်မင်းသားနဲ့ ဓာတ်ထဲက မင်းသမီး ညားတာ ဘာဆန်းလို့လဲ။ ဗလဝါမုက္ခခေါ်တယ်၊ အားခွန်ဗလကြီးတဲ့ ဝဲကတော့ကြီးရဲ့ နှုတ်ခမ်းတွင်းဝမှာ ရောက်နေတဲ့ အမှိုက်သရိုက်လိုပေါ့။ ဝဲကတော့ကို ရှောင်ချင်သော်လည်း ရှောင်လို့ မလွတ်တာတွေ ရှိသား မဟုတ်လား။ အဲသည့်နေ့က ဓာတ်နားတဲ့နေ့... ညနေဘက်ကွဲ့"

ထိုနေ့က ညနေစောင်းစောင်းမှ မင်းသားကြီး ရောက်လာခဲ့သည်။ ဂျစ်ကားကို စက်မသတ်ဘဲ မမွေးထုံကို ဝင်ခေါ်သည်။ သီချင်းသစ်တွေ တိုက်ဖို့ရှိသည်။ လိုက်ခဲ့ပါဆိုတာလောက်သာ သိရသည်။ အတူလိုက်ရမယ့်သူက ဓာတ်ဆရာ၊ မိဘတွေကလည်း မယုံမကြည်မရှိ။ သည်လိုကိစ္စကလည်းမင်းသမီးတစ်လက်အဖို့ ဆန်းတာမျိုး မဟုတ်။ ထိုနေ့က ဂျစ်ကားပေါ် ဖွေ့ခနဲ တက်လိုက်ခြင်းသည် မင်းသားကြီး၏ ဆင္ခမမြောက် ရင်ခွင်ထဲ ရောက်သွားခြင်းသာ ဖြစ်ခဲ့ရသည်။ မင်းသမီးကြီးက ဝမ်းနည်းရိပ်မပြ။ မျှော်လင့်ထားသမျှ ခပ်စောစော ဖြစ်လာတာလောက်သာ သဘောထားပုံရသည်။

"ရှေးက ဆင်များကျော့ဖမ်းရင် ရွှေလွန်အမှုထမ်းတွေက စာမရှိရေ၊ သစ်နက်ရေ၊ ပြောင်ရေ၊ ဆတ်ရေ၊ ကျဲရေ၊ နွားရေ၊ ဝံရေဆိုတဲ့ သားရေ ခုနစ်မျိုးကို ကြိုးကျစ်ကြရတယ်၊ ရွှေလွန်သားရေခေါ်တာပဲ။ မိန်းမ တစ်ယောက်အတွက်တော့ ရွှေလွန်လောက်ခိုင်စရာ မလိုဘူး ထင်ပါကွယ်၊ တစ်သက်လုံးတော့ ပေါင်းရှာပါရဲ့"

ဒေါ်မွေးထုံ၏ စကားတွေထဲမှာ ကောက်ရသလောက် မင်းသားကြီးကလည်း စန်းကောင်းနေချိန်ဆိုတော့ 'ရှိန်ကြွကြွ သိန္တာ၊ ကြိမ်မပြခင်က၊ တိမ်စကို ဝင်မည့်နယ်၊ ရွှင်ချည်မြူးချည်၊ ထူးသည်ငါ့မြင်း၊ မြေမနင်း၊ လေညင်းသဏ္ဍာ၊ လည်ဆံကို မော့တည့်လို့၊ ခိုကော့ငှက်ပျံမည့်နယ်၊ ခွာသံဖြိုးမောက်၊ မိုးကိုပင် ပေါက်လောက်တဲ့...' ဟု ဆိုလောက်သည်။ မင်းသားကြီး၏ နှာသံ၊ ကြာသံ၊ ဗျာပါသံတွေကို ခံနိုင်ပုံမပေါ်။ ပြောရင်းက ငိုချင်းကလေး ချလိုက်သေးသည်။ 'မပြေးနိုင်ပါတယ်၊ ရွှေးဖြိုင်ဖြိုင်ယိုခါကျပါပေါ့၊ ကြိုရလေနဲ့ ဘဝသံသရာက၊ ကံသမ္ဘာကြမ္မာ မွဲသော်ကြောင့်၊ ရဂုံဓွေ စုံခြေထဲမှာမှ (အမယ်လေး) ဒူးတုပ်လျှက်လဲ...။' သည့်နောက်တော့ သည်အိမ်ကြီးကို မင်းသားကြီးကိုယ်တိုင် ဇာတ်နားချိန်တွေမှာ လက်သမားကောင်းကောင်းနှင့် အချိန်ယူကာ ဆောက်ခဲ့သည်ဆို၏။ အိမ်၏အထောက်တွေမှာ အရုပ်ထောက်၊ ပွတ်ထောက်၊ ပန်းထောက်တွေ ပါနိုင်သမျှ ပါအောင် ထည့်သည်။ အိမ်အောက်ပိုင်းမှာ အရုပ်ထောက်တွေထည့်ကာ အပေါ်ပိုင်းမှာ ပန်းထောက်ပွတ်ထောက်တွေ များများပါစေသည် ဆို၏။ ခုနစ်ရက်သားသမီးအတွက် သစ်ခုနစ်ပါး ထည့်သည်။ အမေအိုက သူ့ခြေထောက်အောက်က ခင်းပျဉ်ချပ်တွေကို တောင်ဝှေးဖြင့် တခေါက်ခေါက် ခေါက်ရင်းက ကျွန်တော့်ကို ပြသည်။

"ဟောသည် ခင်းပျဉ်နစ်ချပ်က စောင်းလျားနဲ့ ဆူးရစ်၊ ဒါက လံဘူနဲ့ လက်ပန်၊ ဟောဟိုနှစ်ချပ်က ပန်းသွန်နဲ့ ဖက်သန်း၊ သူ့ဟိုဘက်

က သနပ်နဲ့ သတွတ်၊ ကပ်လျက် ဖျဉ်နှစ်ချပ်က ထနောင်းနဲ့ ထအောင်း၊ သည့်နှစ်ပြားက အင်ကြင်းနဲ့ အကြော်၊ သည်ဟာက ခွဆံနဲ့ငုစပ်...၊ အဲသလို နေ့နံအလိုက် အခင်းနေရာပြုပြီး နေထိုင်ရင်း သဗ္ဗရောဂါ ဘေးမျိုး ကွာ၍ ချမ်းသာသက်ရှည်၊ စည်းစိမ်တည်တယ်လို့ ကျုပ်အိမ်သားက အင်မတန် ယုံကြည်တယ်၊ ဒါပေမဲ့ သစ်သားတွေ လူတွေရဲ့ ဖြစ်ခြင်းပျက်ခြင်းကို ဘယ့်နှယ်လုပ်ပြီး ဘေးဘျမ်းမရှိအောင် လုပ်နိုင်ပါ့မတုံး"

သည်အထိ ကျွန်တော် မေးချင်သည့် မေးခွန်းတွေဆီ မရောက်သေးပါ။ ဓာတ်မင်းသမီးကြီးက စကားတွေ ရှည်ရှည်ပြောလိုက်ရလို့ မောဟိုက်နေပုံရသည်။ ကျွန်တော်က အမေအိုပြောနေသည့် ခင်းဖျဉ် သစ်ဖျဉ်တွေဘက် စိတ်ရောက်သွားသည့်တိုင် ဘာကိုဆိုလိုနေမှန်းလည်း မသိ။ ကျွန်တော့်မျက်စိတည့်တည့်က တိုင်တစ်လုံးမှာ ရှေးဟောင်းဓာတ်ပုံကြီး တစ်ပုံ ချိတ်ထားသည်။ ဓာတ်မင်းသားကြီး မြို့တော် အောင်သန်းကျော်၏ ငယ်ရုပ်ဆိုသော်လည်း ကျွန်တော် မှတ်မိနေသည်။ ကိုယ်တစ်ပိုင်းပုံဖြစ်၍ အသက်မပါလှသောအပြုံးဖြင့် ကျွန်တော့်ကို စိန်းစိန်းကြီး ကြည့်နေသလို ခံစားရသည်။ ရှေးမင်းသမီးကြီးတစ်လက် ဘယ်လိုဘယ်ပုံ ရပ်တည်နေသလဲ၊ အခုကော ဘယ်သူက ဆေးပေးမီးယူ ရှိနေသလဲ။ ချက်ရေးပြုတ်ရေး စားရေးသောက်ရေးကကော၊ ကျွန်တော် ဒါတွေလည်း သိချင်သည်။ ပထမ မေးခွန်းကို မဆီမဆိုင်အဖြေဖြင့် ပြီးလိုက်ရသော်လည်း စိတ်တော့မပျက်မိ။ သည်လို မသေချာမှုတွေကို ကျွန်တော် ကြုံဖူးပေါင်းများပြီ။ ဒုတိယမေးခွန်းအတွက် ကျွန်တော် နည်းနည်းကလေး အားယူလိုက်သည်။

"သေခြင်းပေါင်း၊ ရှင်ခြင်းပေါင်းဆိုတဲ့စကား ရှိသားပဲလေ။ အခုမင်းသားကြီး အောင်သန်းကျော် တမလွန်မှာ မယားငါးယောက်နဲ့ ပေါင်းနေရောပေါ့။ ကျုပ်မတော့ သောက်ရှူးကြယ် အရောင်ကြီးရယ်က မပြယ့်

တပြယ် ပြယ့်တပြယ် ကျွန်မမယ်မှု အအိုကြီးရယ်က မကျယ့်တကျယ် ကျယ့်တကျယ်"

အမေအိုက စကားဆက်လိုက်သဖြင့် ကျွန်တော့်မေးခွန်း မမေးလိုက်ရ။ သူ့စကားသူ သဘောကျပုံဖြင့် ရယ်လိုက်တော့ သွားမရှိတော့သည့် ပါးစပ်ကို ကျွန်တော် ငေးကြည့်နေမိသည်။ အမေအိုက တောင်ဝှေးဖြင့် ခင်းပျဉ်တွေကို ခေါက်ပြန်သည်။ မျက်နှာက သည်တစ်ခါတော့ တည်သွားလိုက်တာ။ တဖြည်းဖြည်း မှောင်သည်ထက် မှောင်လာသည့် အိမ်အိုကြီးထဲမှာ ကဝေတစ်ယောက်နှင့် နေရသလို ခံစားနေရသည်။

"အမြင်နိမိတ် အတိတ်လက်ဆောင် အသံတဘောင်ဆိုတဲ့ ဇာတ်သား ဇာတ်သမများဟာ ရေရှိုးကမ်းရိုး လေ့ဆိပ် လှည်းဆိပ်၊ နေပွစ်ပိခါး၊ မိုးများနှင်းဆွတ် ပြေးဟယ်လွှားဟယ် ပူဟယ် ပန်တယ် ငိုရယ် ရယ်ဟယ် လုပ်ကိုင်စားကြရသူတွေပေါ့၊ သေပြန်တော့ ပဟာသ ငရဲမယ် အောက်ထိုးဆင်းခံရတာ ပိုသေးသကောကွဲ့၊ မင်းသားအောင်သန်းကျော် မသေခင် ဟောသည့်အိမ်ကြီးမယ် မင်းသားတစ်လက်နဲ့ မင်းသမီး ခြောက်လက် ကခဲ့ကြရတာကတော့ ပဟာသငရဲထက် ဆိုးတာပေါ့"

သည်တစ်ခါတော့ အမေအိုက ဆိုးဆိုးဆတ်ဆတ် ထလိုက်ကာ အိမ်ဝဘက်ကို လျှောက်ဟန်ပြုသည်။ ကျွန်တော်က ရုတ်တရက် လဲမကျအောင် ထတွဲလိုက်တော့ အမေအို၏ တစ်ကိုယ်လုံး ချစ်ချစ်တောက် ပူနေတာကို သတိထားလိုက်မိသည်။ မင်းသမီးကြီး ဖျားနေတာလား။ အမေအိုက အိမ်အပြင်ကို ထွက်ပြီးမှ အပေါ်ထပ်ကို တက်ရသော လှေကားကြီးဆီကို ရောက်နိုင်ကြောင်း အရိပ်အကဲပြရင်း တောင်ဝှေးကို ထောက်ကာ ထောက်ကာ တရွေ့ရွေ့ သွားနေသည်။ ကျွန်တော်ကပဲ လိုက်ရမှာလား၊ နေခဲ့ရမှာလား။

"လိုက်ခဲ့"

လှေကားဆန်တွေက တလှုပ်လှုပ်။ ဘယ်အထစ်မှာများ ပြုတ်ကျလေမလဲ။ လှေကားထစ် တစ်ဆယ့်ငါးထစ်လောက်ကို မိနစ်နှစ်ဆယ်လောက် အချိန်ပေးနေရခြင်းကလည်း စိတ်မရှည်ချင်စရာ ကောင်းလှသည်။ မင်းသမီးကြီးက ဂါထာလား၊ သီချင်းလား၊ မသိရသည့်အသံကိုပြုရင်း တတွတ်တွတ် ရွတ်နေလေ၏။ အပေါ်ဆုံးလှေကားထစ်ကို ရောက်သည့်အခါ နင်းကြမ်းပေါ် မတက်သေးဘဲ ကျွန်တော့်ရှေ့က ဝိတ်ရပ်ထားပြန်သည်။ အမောဖြေနေတာလည်း ဖြစ်နိုင်သည်။ စကားလုံးတွေ ရှာနေတာလည်း ဖြစ်နိုင်သည်။

"ငရဲကြီးရှစ်ထပ်မယ် ငရဲကြီးလေးပါး ငရဲငယ် ငါးပါးရှိတယ်။ ငရဲကြီးတစ်ထပ်မှာ လေးမျက်နှာ ရှိပြန်တော့ တစ်မျက်နှာမှာ ငရဲငယ် ငါးပါးနဲ့ မြှောက်ရင် ငရဲငယ် နှစ်ဆယ်ရှိတယ်၊ ငရဲငါးပါးဆိုတာက ဘင်ပုပ်ငရဲ၊ ပြာငှငရဲ၊ ထောက်ပံတောငရဲ၊ သံလျက်တောငရဲ၊ ကြိမ်ဆူးတောင်ငရဲကိုခေါ်တာ၊ မင်း ဗုဒ္ဓဘာသာလား"

"ဟုတ်ကဲ့"

"ဒါဆိုရင်တော့ မင်း သဘောပေါက်မှာပဲ၊ ခါရောဒကခေါ်တဲ့ ကြိမ်ဆူးတောငရဲဆိုတာ ဝေးဝေးမဟုတ်ဘူး၊ သည်အိမ်ကြီးခေါ်တာ၊ လာ အထဲဝင်"

မင်းသမီးကြီးက သူ့ကိုယ်လုံးကလေးကို ရို့ပေးသည်။ အတွင်းမှာ ပိန်းပိတ်နေသော်လည်း ပျဉ်ကြိုပျဉ်ကွဲတွေကြားက ကျနေအလင်းတန်းကလေးတွေကြောင့် မြင်သင့်သလောက် မြင်ရသည်။ ပန်းတွေ ခြောက်ကော့နေသည့် ဘုရားစင်နှင့် သစ်စေးတစ်ဝက် ရွှေတစ်ဝက် နတ်ရုပ်များတင်ထားသည့် နတ်စင်က ဖုန်အလိမ်းလိမ်း။ မင်းသမီးကြီးက အခန်းတစ်နေရာကို တောင်ဝှေးနှင့် လှမ်းပြသည်။ သစ်သားတန်းတစ်တန်းမှာ မသပ်မရပ်ချိတ်ထားသည့် မိန်းမခြောက်ယောက် ဓာတ်ပုံများ။ ကျွန်တော်

က တကျိုကျို မြည်နေသည့် ကြမ်းခင်းကိုဖြတ်ကာ အနားတိုးကြည့်လိုက်သည်။ မျက်နှာထားတွေက ခပ်တင်းတင်း။ ကျွန်တော့်ကို စိုက်ကြည့်နေကြသည်။

"မင်းသားကြီး ယူခဲ့တဲ့ မယားတွေ၊ ရောက်ရာပေါက်ရာ အရပ်မှာ ပုံတော်သလို ယူခဲ့တာတွေပေါ့။ စကားအရသာ မယားတွေ များလှတယ် ကြားဖူးတာ၊ တစ်ယောက်တစ်ယောက် မမြင်ဖူးခဲ့ကြဘူး။ သည်အိမ်ကြီးကို ဆောက်လည်းပြီးရော အားလုံးကို ခေါ်လိုက်တော့တာပါပဲ။ မိန်းမတွေက မွေးတဲ့ကလေးတွေရောဆိုတော့ အိမ်ကြီးတစ်ခုလုံး ပြောင်းဆန်နေတာပဲ"

ယူခဲ့သည့် မိန်းမတွေထဲမှာ ဇာတ်မင်းသမီးသုံးဦးနှင့် အရပ်သူသုံးဦးပါသည်။ ခေါ်မွေးထုံကလွဲလျှင် မယားများက မွေးကြသည့် သားသမီးကချည်း တစ်ကျိပ်ကျော်သည်ဟု ဆို၏။ ခါတိုင်း တရုန်းရုန်းရှိခဲ့ဟန်တူသည့် သည်အိမ်ကြီးမှာ ခုတော့ မင်းသမီးကြီးတစ်ယောက်တည်းပါလား။ အခြားတစ်ပါးသော လူရိပ်လူယောင်မရှိ။ လူနှင့်တူတာဆိုလို့ တံခါးရွက်တွေပေါ်က နတ်ရုပ်တွေသာ ရှိသည်။ ကျွန်တော်က သိချင်တာကို မရဲ့တရဲ မေးကြည့်လိုက်သည်။

"ဘယ်သူမှ မရှိတော့ဘူးလား"

"သေကုန်ပြီ။ ကလေးတွေတော့ ဆိုင်ရာဆိုင်ရာ ဆွေမျိုးတွေက ခေါ်သွားကြတယ်"

"မင်းသားကြီးကကော"

"သူလည်း တို့လက်ထဲမှာပဲ သေတာပါပဲ"

မင်းသားကြီး ကွယ်လွန်ပြီး မကြာခင်မှာပင် မယားတွေ အခိုင်လိုက် ကွယ်လွန်ကြသည်ဟု ကြားရချိန်မှာတော့ လေ့ကားနင်းကြမ်းထိပ်ကို ကျွန်တော် ပြန်ဆုတ်လာခဲ့သည်။ အားလုံး ကွယ်လွန်ပြီးသည့်နောက်

မှာ မင်းသမီးကြီး ခေါ်မွေးထုံကိုယ်တိုင် အိပ်မက်မက်သည်ဆို၏။ မင်းသား ကြီးနှင့်တကွ မယားအားလုံး ပဟာသရေမှာ ခံနေကြရသည်။ ကုသိုလ် ကောင်းမှု ပြုပါဆိုသည့် အိပ်မက်ဖြစ်သည်။ သည်အိပ်မက် ရပြီးသည့် အခါ အိမ်ဟောင်းဟောင်းကြီးကိုရော မြေကိုပါ ဒါတဗ္ဗဝတ္ထု၊ ဒါနဝတ္ထုအဖြစ် ရည်သန်ကာ လှူဒါန်းခဲ့ပြီဟု ဆိုသည်။ မသေမလွန်မီအထိ နေခွင့်ပြုပါ ရန် လျှောက်ထားကာ နေခြင်းဖြစ်ကြောင်း ပြောပြသည်။ မင်းသားကြီး နှင့် လက်ထပ်ပြီး သိပ်မကြာခင်မှာ နတ်ရုပ်ပန်းဆွဲများပါသည့် သည်အိမ် ကြီးကို ဆောက်သည်ဖြစ်ရာ မလိုအပ်ဘဲ ကြီးမားလေခြင်း၊ ခံ့ညားလေ ခြင်းဟုပင် ထင်ခဲ့မိသည်ဟု ဆိုသည်။ တစ်ရက်မှာတော့ မင်းသားကြီးက သည်အိမ်ကြီးနှင့် ပတ်သက်၍ သူ့စိတ်ကူးခဲ့ပုံကို ပြောပြသည်။ သည်အိမ် ကြီးမှာ အဝေးမှာ နေကြသည့် ဇနီးတွေကိုပါ ခေါ်ထားတော့မည်ဖြစ် ကြောင်းနှင့် သားများ သမီးများပါ ရောက်လာကြလိမ့်မည်ဖြစ်ကြောင်း။ သူက တနင်္ဂနွေသားဖြစ်၍ ကျန်ဇနီးခြောက်ယောက်မှာ တစ်ဦးတစ်နံ့ဖွား များဖြစ်၍ နေ့ခုနစ်နံ့စေ့အောင် ဆိုင်ရာ သစ်ပျဉ်များဖြင့် ကြမ်းခင်းထား ကြောင်းများ ဖြစ်သည်။

"မယားတွေထဲမှာ အဖျားအနားကျခဲ့ရလေခြင်းလို့ ကျုပ် စိတ် မချမ်းမသာ မဖြစ်ခဲ့ရပါဘူး၊ ဒါပေမဲ့ သည်အိမ်ကြီးကို မယားတွေအားလုံး ရောက်လာတဲ့အခါမှာတော့ ကျုပ်ကိုယ်ကျုပ် ယူကျုံးမရ ဖြစ်မိတယ်၊ အိမ်ကြီးဆောက်စဉ်က နေ့သစ်နံ့သစ်တွေ အပင်ပန်းခံရှာတာကိုလည်း ကျုပ်က သဘောမပေါက်ဘဲကိုး"

မင်းသားကြီးက တနင်္ဂနွေသားဆိုတော့ သူ့အတွက် ဓောင်းလျား သား၊ ဆူးရစ်သား ပျဉ်တွေ ထည့်ခင်းသည်။ ပထမမယား မခင်သန်း အတွက် ကလံဘူသားနှင့် လက်ပံသား၊ ဒုတိယမယား မစန်းအတွက် ပန်းသွန်းသားနှင့် ဖက်သန်းသား၊ တတိယမယား မဝင်းကြည်အတွက်က

သနပ်သားနှင့် သတွက်သား၊ စတုတ္ထမယား မမြခင်အတွက် ထနောင်းသားနှင့် ထအောင်းသား၊ ပဉ္စမမယား မသိန်းခင်အတွက်က အင်ကြင်းသားနှင့် အကြော်သား၊ နာမည်ရင်း တင်ညွန့်မေဆိုသော ဒေါ်မွေးတို့အတွက်က ရှူဆံသားနှင့် ငုစပ်သား။

လှေကားက ပြန်အဆင်းမှာလည်း နာရီဝက်လောက် ကြာသည်။ လှေကားတစ်ထစ်ဆင်းလိုက်တိုင်း အိမ်ကြီးက ခါယမ်းသွားတတ်သည်။ အပြင်မှာ မှောင်လုပြီ။ သည့်ထက်နေဖို့လည်း မကောင်းတော့ နှုတ်ဆက်ခဲ့ရသည်။ မင်းသမီးကြီး၏ မျက်လုံးစိမ်းတွေက ကျွန်တော့်ကို စိန်းစိန်းကြည့်နေခိုက်မှာပင် ကျွန်တော် ထွက်လာခဲ့သည်။ ခပ်ဝေးဝေးရောက်မှ ပြန်ကြည့်တော့ ကောင်းကင်ရောင်နောက်ခံမှာ အိမ်ကြီးက ပိုလို့ပင် စောင်းသွားခဲ့ပြီ။



## အိမ်ကလေး ၁၅

'နှင်းခတလင်း
ရွှေရောင်ဝင်းပ လှုပ်လှုပ်ရွရွ
လေကအဝေ့၊ စပါးလှေ့ကြ
ကွေ့ကာဝိုက်ကာ၊ ကောက်လှိုင်းပုံသား
ပြေးကာဆော့ကာ၊ လဝါဝါလေး
တိမ်ပြာမဟူရာ၊ စပါးအထွေး
ညွှဦးလေအေး၊ ကောက်နံ့မွှေးမွှေး...'

**(ဆရာဒဂုန်တာရာ၊ မုန်းမှ ကယ်လီဖိုးနီးယားသို့ ကဗျာ)**

သည်အချိန် သည်ရာသီဆိုလျှင် ကောက်သစ်တွေ ပေါ်လောက်ရောပေါ့။ ကျွန်တော် ဆယ်နှစ်သား လွန်ခဲ့သော နှစ်ပေါင်းလေးဆယ်ကျော်က ကောက်နံ့မွှေးမွှေးကိုပင် ရနေသည်ဟု ခံစားရသည်။ သည်လို ကောက်သစ်ဦး ရာသီရောက်တိုင်း မနက်စောစောကြီး ထကြကာ အဘိုးလေးနောက်ကို လိုက်ရတာ သတိရသည်။ အဘိုးလေးက မနက်ခင်း ဘုန်းကြီးကျောင်းက အရုဏ် ကုလားတက်သံဆုံးသည်နှင့် ငေါက်ခနဲ ထကာ လှည်း

ပြင်သည်။ ကျွန်တော်တို့ ညီအစ်ကိုတွေက ကျေးလို့ကောင်းကြတုန်း။ အဘိုးလေးက ခြေနင့်ကန်ကာ ကန်ကာ နှိုးတော့မှ ပုဆိုးခြုံလျက်က လှည်းပေါ် ငုတ်တုတ်ငိုက်ကြရသည်။ တစ်ညလုံး နင်းရိုက်ထားသည့် ကောက်လှိုင်းစည်းတွေကို ရွှာနင့်လှမ်းသော ခူကန်လယ်ကွင်းတွေဆီကို လှည်းနင့် သွားတိုက်ကြရသည်။ တလင်းကတော့ အိမ်ရှေ့မှာ ပြောင်ပြောင် သန့်အောင် 'ခေါက်' ပြီးသား။ ကျွန်တော်တို့ဒေသမှာ တလင်းပြင်တာကို တလင်းခေါက်သည်ဟု သုံးသည်။ မြေကို ညီနေအောင် ညှိ၊ ရေကလေး ဖျန်းလိုက်၊ သစ်သားရိုး တပ်ထားသည့် သံဒင်နင့် ဆောင့်လိုက်။ ထန်ပြီ ဆိုတော့မှ လှည်းကို နွားနှစ်ကောင်တပ်ကာ အထပ်ထပ်ကြိတ်ရသည်။ လှည်းဘီးက သံပတ်ခွေက အရာချင်းထပ်အောင် ကြိတ်ဖန်များတော့ တလင်းသားက အင်္ကတေနနှ ကျုံထားသလို မာတင်းတင်း ဖြစ်လာသည်။

အဘိုးလေးလယ်က မိသားစုလယ် ဖြစ်သည်။ အမေတို့လည်း အချိုးကျပိုင်တော့ နှစ်စဉ် စပါးခွဲတမ်းရသည်။ အဘိုးလေးက အဘိုး၏ ညီအငယ်ဆုံး ဖြစ်သည်။ အဘိုးအဘွားလက်ထက်က ကျလာသော ဝေစု ဝေပုံ စားရသည့်လယ်ဆိုတော့ အမေတို့က စပုံပယ်လယ် (စားပုံပယ်လယ်) လို့ သုံးတာမှတ်မိပါသည်။ အစဉ်အဆက် လုပ်ကိုင်စားသောက်ခဲ့ကြသည့် လယ်ဆိုတော့ စရိုးလယ် (စားရိုးလယ်) လို့လည်း ခေါ်သည်။ 'အလို ရောက်သား၊ နှတ်ကောက်သလေး၊ ဆင်ကောင်းဖွေး' သည့် လယ်မျိုး မဟုတ်။ ကောက်လျှင်လယ် ဖြစ်သည်။ ရေးက စပါးသုံးမျိုးတွင် ကောက် ကြီးစသော 'ခြေ' စပါး၊ မယော၊ ဂျုံ စသော 'ကုခြေ' စပါးနှင့် ပဲသီး ပဲနောက် စသော 'သမိခြေ' စပါးဟူ၍ ခွဲခြားသည်။ 'ခြေ' စပါးမျိုး ကိုမှ သာလိမည်သော ကောက်ကြီးစပါး၊ ဝီဟိမည်သော ကောက်လတ် စပါးနှင့် သဋ္ဌိကမည်သော ကောက်လျင် စပါးအဖြစ် ထပ်ခွဲသည်။ ရှေး ကတော့ ကောက်ကြီးကို မျိုးစေ့မြေကျ ရှစ်လ၊ ပျိုးကိုနုတ်၍ စိုက်သည်

က ခြောက်လ၊ ပေါင်း ဆယ့်လေးလရှိမှ ရိတ်ရ သိမ်းရသော စပါးမျိုးကို ကောက်ကြီးခေါ်ကြသည်။ မြီးတို၊ မြီးရှည်၊ မြီးတုံး၊ ငစိန်၊ ငကျောက်၊ ငကြွ၊ ကျည်း၊ ဖြတ်ကြီး၊ ဖြတ်ကလေး စသည့် စပါးတို့ကို ဆိုသည်။ မီးလောင်မြေတောင်ယာ၌ဖြစ်သော ကောက်ကြီး၊ လယ်၌ဖြစ်သော ကောက်ကြီး၊ နုတ်၍မစိုက်သော၊ မထွန်မယက်သော မြေ၌ အလိုလိုပေါက်သော ကောက်ကြီး၊ ပျိုးထောင်ပြီးနုတ်၍ စိုက်ရသော ကောက်ကြီး၊ ရိတ်ပြီး အပင်ငုတ်က ပေါက်သော ကောက်ကြီး စသည်ဖြင့် ထပ်ခွဲကြသည်ဖြစ်ရာ တည်ရာအလိုက် အရသာကွဲပြားသည်။ ဆန်နီကောက်ကြီးကတော့ 'မင်း စားကောက်ကြီး' ဖြစ်သည်။ ရတ္တသာလီလို့ ခေါ်ကြသော သလေးနီကောက်ကြီး ဖြစ်သည်။

ကောက်လတ်စပါးကတော့ နုတ်၍ စိုက်သည်မှာ လေးလ၊ ငါးလ အကြာ ဝဿနဥတု၊ သရဒဥတုများ၌ ရိတ်သိမ်းရသော စပါးကို ဆိုသည်။ ရှေးကတော့ ကြိုင်းသင်၊ ပုတ်သင်ချောင်း၊ ကောက်လျှင်ကြီး စသည်ဖြင့် ခေါ်ကြသည်။ ကောက်လျှင်စပါးကတော့ စိုက်သည်မှ နှစ်လ သုံးလအကြာ မိမ္မဥတု၊ ဟေမန္တဥတုများ၌ ရိတ်သိမ်းရသော ရေနွယ်၊ မက်လိပ် စသော စပါးမျိုးကို ခေါ်ခြင်းဖြစ်သည်။ ကောက်လျှင်ကိုပဲ ကျေးတောနေတို့ မက်ရေ စက်ရေ ရှိကြသည်။ ဆန်ကြမ်းတော့ အစားခံသည်။

"ကောက်လျှင်များမှပဲ ချိုသယ်၊ ဆိမ့်သယ်၊ ကြေလွယ်သယ် ထင်သာပဲ၊ ကျင်ကြီးများတော့ ကျစ်သပေါ့ကွာ၊ လေနဲ့သည်းခြေများတော့ နိုင် ချက်ပေါ့၊ သက်ငယ်ဆန်စားတော့ အသက်တိုသယ် ပြောကြသာလည်း ဟုတ်ထင်ပေါင်ကွာ၊ တို့အဖေများ ကိုးဆယ်ကျော် နေခဲ့ရသာပါ"

အဘိုးလေးတို့ လယ်သမားတွေ စုမိလျှင် သည်စကားတွေပဲ ကြားရသည်။ ကျွန်တော်တို့ခေတ်မှာတော့ စပါးမျိုးတွေ ဒီးတိုက်နေပြီ။ အိမ်ရှေ့တလင်းမှာ လှေ့ပြီးသား စပါးတို့ တောင်ကမူလို စုန့်ရှုန့်ပုံ့ပုံ့ ရှိပြီး

ခေါင်းပေါင်းကြီးပေါင်းထားသည့် ခွေးလေးက လေ့ပန်းကို ပင့်ကာပင့်ကာ တစောင်းလှေ့လှေ့ချသည့်အခါ အပြိန်အမှော် အဖျင်းအဖြုန်းတို့ ဝေဝေလှုလေသည်။ သုံးချောင်းထောက်မှာ ဆိုင်းထားသည့် ဆန်ခါကျဲကို ဖောက်ကျလာသည့် စပါးစေ့တွေက သန့်ပြီးသား။ အဘိုးလေးက လေကို ခေါ်သည်ဆိုကာ တရှိုရှို လေချွန်နေတတ်သည်။

စပါးစေ့ ၂၀၀ ကို တစ်လက်စွန်း၊ နှစ်လက်စွန်း တစ်လက်ဆုပ်၊ နှစ်လက်ဆုပ် တစ်လက်ပက်၊ နှစ်လက်ပက် တစ်လက်ခုပ်၊ နှစ်လက်ခုပ် တစ်စလယ်၊ နှစ်စလယ် တစ်ခွက်ဆိုတာလောက်ကို ရွတ်ပြနိုင်သည်ဆိုလျှင်ပင် အဘိုးလေးက ကောက်ညှင်းပေါင်း လက်တစ်ဆုပ်ကို ကျစ်ကျစ်ကြီးဆုပ်ရင်း နှမ်းဆီပန်းကန်ကလေးထဲ ဆတ်ခနဲနှစ်ကာ ပေးတတ်သည်။ နှမ်းဆီနံ့သင်းသင်း ကောက်ညှင်းပေါင်းက ကောင်းလှချည့်။ အဘိုးလေးက ကျွန်တော်တို့ မျက်နှာတွေကို တစ်ယောက်စီ လိုက်ကြည့်သည်။

"ကိုင်းဗျာ၊ နှစ်စလယ် တစ်ခွက်ပြီးတော့ ဆက်ဆိုကြလေကွာ။ ရတဲ့ကောင် နှစ်ဆုပ်ကွာ"

ကျွန်တော်တို့ကလည်း အချင်းချင်း ပြန်အကဲခတ်ရသည်။ ပြီးခဲ့သည့် သုံးလေးရက်က ပြောင်းပြောင်းပြေးရထားသည့် အခြင်အတွယ်။ အဘိုးလေးရော ခွေးလေးကပါ သင်ပေးထားသည် မဟုတ်လော။ နှစ်စလယ် တစ်ခွက်၊ နှစ်စလယ် တစ်ခွက်...။ ကျွန်တော့်ညီဝမ်းကွဲက သကျိုးပကျိုးဖြင့် ရယ်လိုက်ရင်းက လုရွတ်သည်။ 'နှစ်ခွက်တစ်ပြည်၊ နှစ်ပြည် တစ်စရွတ်၊ နှစ်စရွတ် တစ်စိတ်၊ နှစ်စိတ် တစ်ခွဲ...' သည်နေရာမှာ ရပ်သွားသည်။ နှစ်စိတ်တစ်ခွဲ... နှစ်စိတ်တစ်ခွဲ။

"နှစ်ခွဲတစ်တင်း၊ လေးတင်းတစ်တို..."

"တစ်တို ဟုတ်ပေါင်ပါဗျာ၊ တစ်တို့ပါ"

အဘိုးလေးက ထောက်ပေးတော့ နှမအထွေးက ရွတ်လက်စ ဆက်ရွတ်လေ၏။

"နှစ်ခွဲတစ်တင်း၊ လေးတင်းတစ်တို့၊ လေးတို့ တစ်ပုတ်၊ လေးပုတ် တစ်ကက်၊ လေးကက် တစ်ကျ၊ လေးကျ တစ်ကျီ"

"အလို မယ်စိမ်းသမီးက အာဂကြီးပါလားဟ၊ နို့ တစ်ကျီဆိုသာ ဘယ်နှတင်းပါလိမ့်ဗျာ"

"ထောင့်နှစ်ဆယ့်လေးတင်း"

သည်အရေအတွက်ကိုတော့ အားလုံးက ဝိုင်းအော်ကြခြင်း ဖြစ်၏။

"ကိုင်း… အဘိုးလေးလယ်က တစ်ကျီရပေါ့ဗျာ"

တကယ်တော့ အဘိုးလေး လယ်နှစ်ဧက လက်နှစ်လုံးလျှော့က တင်းထောင်ကျော် ထွက်စရာအကြောင်း မရှိလေ။ စပါးတွေ ခြွေစိုက်လေ့ ခိုက်၊ စပါးများများ ပိုက်မိစေခြင်းငှာ ကောက်ညှင်းပေါင်း ကျွေးကာ မင်္ဂလာယူခြင်း ဖြစ်သည်။ ဒွေးလေးကတော့ နေတော်တော်ကြီးမြင့်မှ နားလေသည်။ ခေါင်းက ဗန်းမော်တဘက်ကို ဖြုတ်ပြီး မျက်နှာက ချွေး ကိုသုတ်သည်။ လောဘဖြင့် ငေးခြင်းမဟုတ်။ စပါးကို 'ချင့်' ကြည့်ခြင်း ဖြစ်သည်။ ကောက်ဦး ဒါနပြုရဦးမည်။ မုန့်ဆန်းဦး၊ ကောက်ရိတ်ဦး၊ ထုံးဖွဲ့ဦး၊ ကောက်လှိုင်းဦး၊ တလင်းသွင်းဦး၊ ကောက်နယ်ဦး၊ စပါးခြင်ဦး၊ ကျီသွင်းပုတ်သွင်းဦး၊ ထမင်းဦး၊ ဒါနကိုးပါးမှာ တလင်းသွင်းဒါန ပြုခဲ့ပြီးပြီ။ ဒါနလေးပါး ကျန်သေးသည်။ မပျပါနှင့် လှူပါလိမ့်မည်။

"ကိုရင့်နှယ် ကလေးတွေ မုန့်ဆန်းကလေး 'လော' ကျွေးရော ပေါ့"

ကျွန်တော်တို့အားလုံး မုန့်ဆန်းသကြားပေါင်း ကြိုက်သည်။ အဘိုးလေး လယ်က ကောက်ညှင်းလည်း ထွက်သည်။ ကောက်ညှင်းသန့် သန့်ကိုရိတ်ကာ နင်းခြွေ ခြွေရသည်။ သည်ကောက်ညှင်း စပါးကိုမှ အိုးကင်းနှင့် လှော်ကာ အခွံကလေးနှပ်လောက်ပြီဆိုတော့မှ ထောင်းသည်။

ထောင်းပြီးသား 'ထောင်းစာ' ကိုမှ ရေမွှေးကလေးဖျန်းကာ သကြားနှင့် ဆုပ်ဆုပ်နယ်သည့်အခါ မုန့်ဆန်းမွှေးမွှေးအိအိကို ရပြီ။

တစ်ခါတလေတော့ အဘိုးလေး လယ်တွေရှိရာ ခူကန်ကွင်းကို ကျွန်တော်တို့အားလုံး လိုက်သွားတတ်ကြပါသည်။ ခူကန်ကွင်း၊ ဆပ်ဗကျင်း (ဆပ်ပြာကျင်း) ကွင်း၊ ညောင်မုတ်ဆိတ်ကွင်း၊ ထန်းနှစ်ပင်ကွင်း၊ ရေကြက်မကွင်း။ ကွင်းတွေမှာက နာမည်တွေ ရှိသည်။ ကွင်းချင်းဆက်နေတော့ အဝေးကကြည့်လျှင် လယ်တွေက အဝေးသစ်တောထဲကို တိုးဝင်သွားကြပုံမျိုး။ အညာဆိုသော်လည်း ရေရမြက်တင်ကာလတွေ။ မိုးက မောက်လွန်းလို့ ဖိတ်ကျသည့်ကာလတွေ။ မိုးကိုလင့်၍ ပျိုးရင့်ရတာမျိုး မရှိ။ ကောက်ပင်တွေက မိုးရွာသစ်ပင်တွေလို လန်းလန်းကြီး ရှင်နေတတ်ကြသည်။

တောင်ပြာညို့ညို့ တောစိုစို့ အခြေမရောက်သော်လည်း ခူကန်ကွင်းကို သွားရတာကပင် အချိန်ယူရသည်။ တစ်ခါတော့ အဘိုးလေးနှင့် ကျွန်တော် နှစ်ယောက်တည်း လှည်းနှင့်ထွက်ခဲ့ကြသည်။ အဘိုးလေးက ခေါင်းမှာ သူ့ထုံးစံအတိုင်း ခေါင်းပေါင်းကြီး ပေါင်းထားသည်။ ခေါင်းပေါင်းထဲမှာ ထိုးထည့်ထားသည့် ထန်းရွက်စ သုံးစကို မြင်နေရသည်။ သည်ထန်းရွက်စခြောက်မှာ တစ်မနက်လုံး စုံတီစုံမွှား မျက်လုံးများဖြင့် ခဲတံကို တံတွေးဆွတ်ကာ ရေးထားသည့် စာတွေပါတာ ကျွန်တော် သိပါသည်။ အဘိုးလေး အဆိုအရတော့ ပိုးပြေးဂါထာဟု ဆို၏။ စပါးတွေက တစ်တောလုံး၊ တစ်ခင်းလုံး စိမ်းနေသော်မှ ပိုးကျသော်ရှိ မကျသော်ရှိ ကြိုတင်ကာကွယ်သည့်သဘော ဖြစ်ပါလိမ့်မည်။ ထန်းရွက်သုံးရွက်မှာ တစ်လုံးချင်း ရေးနေသည့် ဂါထာကို သေးက လိုက်ဖက်သူ ကျွန်တော်ပင် အလွတ်ရနေပြီ။

"ဉုံ-မိုးကြီးမောက်၊ ဒေါင်းမယ်မြမောင်၊ အတောင်ကန့်ကြား၊

နင့်သား နင့်မြေး၊ ခေါ်ရှုပြေး၊ သေရမည်ဆက်ဆက်၊ မျက်စိနဲ့ကျက်ကျက် ဆိုတာ ဘာကိုပြောတာလဲ အဘိုးလေး"

"တို့လယ်ထဲ ပိုးမကျအောင် လုပ်ရသာကွဲ၊ ဂါထာက စွမ်း တော့ ပိုးမကျတော့ဘူးပေါ့ဟ"

"ဟုတ်ပါ့မလား အဘိုးလေးရ"

"မင်းအဖေ အဖေတွေ လက်ထက်ကတည်းက စွမ်းလာသာဟ မယ်သိန်းသားရ"

အဘိုးလေးက ဂါထာရေးထားသည့် ထန်းရွက်တွေကို ထောင့်သုံး ထောင့်မှာ လိုက်ချသည်။ ပါးစပ်ကလည်း တတွတ်တွတ်။ ကျွန်တော် ကတော့ အဘိုးလေးကိုပဲ ငေးနေမိပါသည်။ အဘိုးလေးက သဘောမနော ကောင်းသည်။ သည်လယ်ကို သူတို့လင်မယား အားစိုက်ခွန်စိုက် လုပ် နေကြသော်လည်း ဘယ်သူကမှ ပျိုးတစ်စည်းရွှေ့ကြတာ မရှိ။ ကောက် လှိုင်းတစ်လှိုင်း ကူသယ်ပေးတာမရှိ။ စပါးလှိုင်းတွေကို နွားတစ်ကောင် နှင့် နယ်တော့လည်း ကောက်ဆွတစ်ချက် ကိုင်ကြသူမရှိ။ သို့သော် အဘိုးလေးကသော်လည်းကောင်း၊ ဒွေးလေးကသော်လည်းကောင်း ငြူစူ ကြသည်မရှိ။ ကပ်ဖိုးကပ်ဖဲ့မရှိ။ စကားနာခြေဲတမ်းထိုးကြသည် မရှိ။ ရသမျှ မျှမျှတတ ရှိကြသူတွေ ဖြစ်သည်။ အိမ်ဝိုင်းတိုက်ကြီးထဲမှာ အားလုံး နေထိုင်ကြတာဆိုတော့ အဘိုးလေးလယ်က ထွက်သမျှ မမြင် ချင်လို့မရ။ အဘိုးလေးနှင့် ဒွေးလေး မိသားစုအတွက်တော့ ဟင်းခွက် ကိုယ်စီ ကမ်းကြတာတော့ ရှိသည်။

"သုံးထောင့်ထဲလား၊ သည်ထောင့်ကျတော့ ဘာဖြစ်လို့ မချတာ လဲ"

"ထောင့်လေးထောင့်စလုံး ချတော့ မင်းအမေ့လင် ပိုးတွေက ဘယ်က သွားထွက်မှာတုံး"

အဘိုးလေးက သူ့ပိုးပြေးဂါထာကို အင်မတန် ယုံကြည်သူ ဖြစ်သည်။ အိမ်က ခိုင်းနွားမှန်သမျှမှာ ခလောက်တွေ ဆွဲထားကာ ခလောက်တိုင်းမှာလည်း သဘော်ဆေးကို တုတ်နှင့်တို့ကာ အင်းကွက်တွေ ရေးထားတတ်သည်။ အကွက်လေးကွက်ပါသည့် အင်းကွက်ထဲမှ အင်းဆံအက္ခရာလေးလုံး ရေးထားသည်။ 'ထို၊ ထံ၊ ဥုံ၊ အ' ကျွဲနာ နွားနာ ပျောက်အင်းဟု ဆိုလေသည်။

အဘိုးအဘွားတို့လက်ထက်က ရှိခဲ့သော အိမ်ကြီးမှာလည်း မြေဖြူနှင့် ရေးထားသည့် 'သံ သုံးချက်စည်းချက်ဂါထာ' ဆိုတာကို ထင်းထင်းကြီး ရေးထားသည်လည်း ရှိ၏။ 'ဥုံ သံတိုင် သံတိုင်၊ ဗုဒ္ဓသံတိုင်၊ ဓမ္မသံတိုင်၊ သံဃသံတိုင်၊ သုံးသံတိုင်စပ်ကြား ဟောထား၊ ဓမ္မဓန္ဓာသံရှေးကာ၏။ သံဆွဲအာဏာ မဆန်သာ၊ ဆုတ်ဆိုင်းပြောင်းပြန်၊ ပက်လက်လန်၊ လန်ဆရာလန်၊ ပြန်ဆရာပြန်...။' အိပ်ရာတွေ ကြမ်းတွေ၊ ကုလားထိုင်ပရိ ဘောဂတွေမှာ ကြမ်းပိုးလွှတ်ဂါထာ ၃၇ အုပ်ရှတ်ကာ တစ်အိမ်လုံးလက်နှင့် သုံးချက်စီ လိုက်ပုတ်သည်လည်း ရှိသည်။ ကြမ်းပိုးပြေးလေသလား မပြေးလေသလား ကျွန်တော် မမှတ်မိတော့။

အဘိုးတို့အိမ်က အညာမှာဆောက်သည့်အိမ်ဆိုသော်လည်း မြှင့်အိမ် ဖြစ်သည်။ အိမ်ကြီးက နှစ်ထပ်ဆိုသော်လည်း အပေါ်ထပ်မှာ လူမနေပါ။ လယ်ကယာကထွက်သည့် ဆန်နှင့်ပဲမျိုးစုံ၊ နှမ်းနှင့် နှမ်းဆီ စွေ့အိုးပေ့ ထားရုံသာ။ တစ်ခါတစ်ခါ ကြွက်တွေ ငှက်တွေ ကိုက်ဖောက်ထားလို့ တက်ရှင်းတာမျိုးတော့ ရှိသည်။ ကျွန်တော်က ကြွက်ပြေးဂါထာ ရှိရင် ကောင်းမှာနော်။ အဘိုးလေးဆိုတော့ ကျွန်တော့်ကို မျက်လုံးပြူးကြီးနှင့် စိန်းစိန်းကြည့်တတ်သည်။

"ဟာ... ကောင်လေး၊ ဇော်ဂနိ ဇော်ဂနက် နုတ်ရဲမိစ္ဆာ၊ တောသူသားရဲနှင်တဲ့ ဂါထာတောင် ရှိသဟာကွာ၊ မင်း ကြွက်စုတ်လောက်တော့ အာဂပေါ့၊ မလုပ်ချင်လို့ပါကွာ"

ကျွန်တော်တို့အဘိုးအိမ်မှာ ဖျက်ဆံကျယ်ကျယ် လှေကားကြီး တပ်ထားတော့ ကျွန်တော်တို့ ဆော့စရာနေရာဖြစ်သည်။ ဒွေးလေးကတော့ မနက်စောစော ဆွမ်းတော်တင်၊ ရေချမ်းတော်၊ ပန်းတော်ကပ်ဖို့ အပေါ်ထပ် တက်သည်ကလွဲလျှင် အပေါ်ထပ်ကို အရောက်အပေါက် မရှိကြသလောက် ရှားသည်။ ကောက်ဦးပေါ်ချိန်ဆိုလျှင်တော့ အပေါ်ထပ်ကို ရှင်းလင်းကာ ရဟန်းသံဃာတော်များကို ဆွမ်းကပ်သည်။ မိတ်ဆွေ သင်္ဂဟတွေကို ထမင်းဦး ဒါနပြုကာ ကျွေးမွေးသည်။ အဘိုးအိမ်ကြီးပတ်လည်မှာ အဘိုး၏ သားမြေးများဖြစ်သော အမေတို့မောင်နှမတွေ ကိုယ့်အိမ်ကလေးနှင့် ကိုယ်နေကြသည်ဖြစ်ရာ သည်အချိန်မှာတော့ အိမ်ကြီးပေါ်မှာ စုကြသည့် အချိန်ဖြစ်သည်။ မွန်အိမ်ဆိုသော်လည်း အပေါ်ထပ်ကြမ်းနှင့် တစ်ပြေးတည်း ဖောက်ထားသည့် ပြတင်းများလည်း ရှိလေရာ တစ်နှစ်မှ တစ်ခါသာ ဖွင့်ရသော ပြတင်းများသာ ဖြစ်သည်။ ကျွန်းပေါ် ကြွက်လျှောက်တန်းတွေက ကြွက်တွေအတွက် တံတားဆောက်ထားသည်နှင့် တူ၏။ မြားတန်း၊ ချင်ပိတ်၊ ပန်းဆွဲ မြင်းနား၊ ဒေါက်ရပ်တွေကတော့ မြန်မာဟန်ဖြစ်သည်။

"အိမ်မကြီးနဲ့ မီးနေဆောင်ကို တပ်ထားတဲ့ တံခါးရွက်ကြီးက ယောက်ျားများဖွင့်တော့ အသံတစ်မျိုး၊ မိန်းမများ ဖွင့်တော့ အသံတစ်မျိုး၊ ဖိုသံ မသံ ကွဲအောင်လုပ်ထားသာ"

အိမ်မကြီးအဝင် အပေါ်တန်းမှာတော့ 'လှထောင် လှတိုက်ဆရာ ဆရာမြို့၊ ဆင်ဖြူကျွန်းရပ်...' ဟု ထွင်းထားသည့်အပြင် သည်အိမ်ကြီးကို ဆောက်သည့် ခုနှစ်နှင့် ရက်စွဲပါ ပါသည်။ ခုနှစ်ကိုတော့ ကျွန်တော် မမှတ်မိတော့။ အဘိုးအိမ်ကြီးပေါ်က ငုံ့ကြည့်လျှင် အိမ်ကြီးကို ဝန်းရံလျက် ရှိနေကြသော အိမ်ကလေးတွေက 'တိုက်ဆင်' ကို ရံထားကြသော ဆင်ခြေကာ ဆင်ခြေဖုံး ရဲမက်တော် ကိုးယောက်လို ငုတ်စိကလေးတွေ၊ အဘိုး

တို့ မရှိကြတော့သော်လည်း အိမ်ကြီးကို မဖျက်ကြ။ လူလည်း မနေကြ။ အမွေဆိုင်ကြသော်လည်း အမွေအဖြစ် ခွဲစိတ်ခြင်း မရှိကြဘဲ 'အနှစ်' အဖြစ်သာ သဘောထားခဲ့ကြသည်။ အဘိုးလေးနှင့် ဒွေးလေးကလည်း အိမ်အောက်က အခန်းတစ်ခန်းမှာသာ နေကြသည်ဖြစ်ရာ အဘိုးလေး သားသမီးတွေက ဒါန်းစင်ပေါ်မှာလိုလို၊ တန်းလျားရှည်တွေပေါ်မှာလိုလို၊ ကွပ်ပျစ်ပေါ်မှာ လိုလိုနှင့် ကြီးပြင်းခဲ့ကြသူတွေ ဖြစ်သည်။

"ကောက်ဦးပေါ်စ၊ ကောက်နံ့မွှေးမွှေး" ရလိုက်တိုင်း အဘိုး၏ အိမ်ကြီးကို ကျွန်တော် လွမ်းရသည်ချည်း၊ အခုတော့လည်း စိမ်းချင်သော်လည်း မလန်းတော့ပြီ၊ ထားချင်သော်လည်း မလဲတော့ပြီ၊ နှစ်တွေကပဲ ကြာလှပေါ့။

'ကမ်းစပ်ပေါ်မှ၊ အိမ်စုမျှသာ
ရေးကတိုင်ပင်၊ ကျွန်းပင်အုန်းပင်
စောင်းလျားပင်အို၊ ကမ်းပြိုစပ်အား
ငါမွေးရာအိမ်၊ တလိုင်းအိမ်လျှောင်
မြေရှင်နှင့်တူ၊ မရှိမူတော့...
ခြုံထူမြက်တော၊ တိမ်ကောနေသော
မြေရာအမှတ်မျှသာ...။'

**(ဆရာဒဂုန်တာရာ၊ မိမိရွာကို ပြတ်သန်းခြင်း)**

ရွာမပြန်ဖြစ်သော နှစ်ပေါင်းလေးဆယ်အတွင်း ပထမ ဆယ်နှစ် တုန်းက အပြန် စိပ်ခဲ့သေးသော်လည်း နောက်ဆယ်နှစ် တစ်ကန့်စီမှာ တော့ အပြန် ကျဲခဲ့ရပြီ။ လက်ငင်းဆယ်နှစ်မှာတော့ မရောက်တော့ကပဲ ကိုးနှစ်ရှိလေသည်။ နှစ်ပေါင်းကိုးနှစ် ဆယ်နှစ်သည် မနေ့တစ်နေ့ကလို ကုန်ဆုံးသွားသော်လည်း အကြောင်းပြုပြင် စီရင်အပ်သော တရားတည်း ဟူသော ရုပ်တရား၊ နာမ်တရားတို့ ပြောင်းလဲမှုကတော့ ကြီးမားလှသည်။

သင်္ခါရလေးပါး၌ ပယောဂ ဘိသင်္ခါရဆိုသော ကိုယ်ကိုလည်းကောင်း၊ စိတ်ကိုလည်းကောင်း အားထုတ်စေသည့် ဝီရိယလေးပါးသည်ပင် ခန်းခြောက်နေလေသည်။ လောဘ၊ ဒေါသ၊ မောဟ၊ အလောဘ၊ အဒေါသ၊ အမောဟ ဟူသော ဟိတ်ခြောက်ပါးတို့သည် မိမိနှင့် အတူတကွဖြစ်သော ခန္ဓာငါးပါး ရုပ်နာမ်တရားတို့ကို စည်ပင်ပြန့်ပွားခြင်း၏ အကြောင်းရင်းခံ အဖြစ်အားဖြင့် ကျေးဇူးပြုခြင်းတို့ ထင်ရှားလှချည့်။

သည်တစ်ခေါက် ကျွန်တော် ရွာကိုပြန်ရောက်တော့ အဘိုးလေးတို့ အွေးလေးတို့ မရှိကြတော့တာ ကျွန်တော် သိသည်ထားဦး၊ အဘိုးလေး မိသားစု၊ ကျွန်တော့်မိခင်ဘက်မှ မိသားစု၊ မိကြီးဖကြီးတို့က ဆင်းသော ဆွေမျိုးဉာတိ မိသားစုတို့ပါ သည်ပိုင်းတိုက်ကြီးထဲမှာ မရှိကြတော့တာ များသည်။ အဘိုးနှင့် အဘိုးလေးတို့၏ နှမအငယ်ဆုံး မယ်အုန်းညိုက ဆွေအုပ် မျိုးအုပ် အရွယ်ရောက်နေသော်ငြား ဥစ္စာမရှိတော့ စကားမအောင် ဖြစ်နေရပုံ ပေါ်သည်။

"မင်းမလာတော့တဲ့ ဆယ်နှစ်အတွင်း မရှိကြတော့သာပါပဲကွာ၊ ငါတောင် အစ်ကိုတို့ အာရုံတွေကို လွှန်း (လွှမ်း) လို့ နေနေသာသာရယ်၊ ကိုရေပေါ်တို့ကော ရွာခိုင်မယ်၊ ခြံစိုက်ကြလို့ အဘိုးကြီး အမယ်ကြီး ကြီးမှ ခွဲနေရသလိုတော့ ဖြစ်သာပေါ့ကွာ၊ မင်းအစ်ကို အစ်မများကလည်း ကိုယ့်ကိစ္စတွေနဲ့ ကိုယ် ထွက်ကုန်ကြပြီ။ ဟိုတုန်းခေတ်ကလို မင်းအဘိုး လေးလုပ်စာ တစ်မျိုးလုံး ထိုင်စားလို့ မရတော့ဘူးကိုး။ စိတ်ထားတွေကလည်း မကောင်းကြတော့ ရှေးကလို 'ခေါင်းဥတော့ တာက အုပ်၊ တာဥတော့ ခေါင်းကအုပ်' မဟုတ်ကြတော့ဘူး"

ရိုးသာစွာ ဘဝဝမ်းကို ကျောင်းခဲ့ကြသော အဘိုးအဘွားတို့၏ ရုပ်ပတ်ဝန်းကျင်၊ စိတ်ပင်ဝန်းကျင်၌ တွေးခေါ်မြော်မြင်ကြပုံ ရိုးစင်းကြသော်ငြား သူတို့ လူ့အဖွဲ့အစည်းကလေးအတွင်းမှာ အချင်းချင်း၌ကောင်း

မှု မပြုရန် တားမြစ်ခြင်း၊ ကောင်းမှု၌ တည်စေခြင်း၊ မကြားနာဖူးသည်ကို ကြားနာစေခြင်း၊ နတ်ရွာ နိဗ္ဗာန်လမ်းကို ပြသညွှန်ပြခြင်း စသော မဟာမိတ် လက္ခဏာလေးပါးဖြင့် နေနိုင်ခဲ့ကြသူတွေ ဖြစ်သည်။

အဘိုး၏အိမ်ကြီး မရှိတော့ပါ။ သည်နေရာမှာ ပဲစဉ်းငုံတောကြီးသာ ရှိနေသည်။ ကြီးတော် မယ်အုန်းညိုက အိမ်ဟောင်းအဖြစ် ရောင်းစသုံးနှစ်ပဲ ရှိသေးသည်ဟု ဆိုသည်။ ရသမျှ အနောက်ရိပ်သာခေါ် မဂ္ဂင်ရိပ်သာကျောင်းကို တစ်ပြားမကျန် လှူလိုက်သည်။ အိမ်ဟောင်းဝယ်သူတွေဆီက ပျဉ်တစ်ချပ်သာ တောင်းထားလိုက်ကြောင်း ပြောပြသည်။ ခါတိုင်းတိုက်ဆင်ကို ဆင်ခြေကာ ဆင်ခြေဖုံးလို ဝန်းရံထားသည့် အိမ်ကလေးတွေလည်း မရှိတော့ ဝိုင်းဟောင်းဆောင်းကြီးလို ဖြစ်နေသည်။ လယ်တွေကကောဆိုတော့ လယ်တွေကလည်း မိုးမရွာ၊ ရေမရောက်၊ မိုးကျလို့ လုပ်နိုင်သူကို ငှားပြီး ရသမျှသာ ယူတော့သည်ဟု ဆိုသည်။ အဘိုးလေးသာရှိလျှင် မိုးကျစရာ အကြောင်းမမြင်။

ဗြဟ္မဏဝါဒ၌ သိရိနတ်သမီးသည့် အိမ်ကောင်းအိမ်မွန်မှာ၊ ပန်းမန်မှာ၊ အလံဦးကင်းမှာ၊ ထီးဖျားမှာ၊ ကျောက်မျက်ရတနာမှာ၊ လယ်သီးနှံတွေမှာ၊ ရတနာ ဆင် မြင်း ကျွဲ နွားတို့မှာ ကိန်းတတ်၊ မွေ့လျော်တတ်သည်ဟု ဆိုသည်။ ထိုနေရာများ၌ ကိန်းအောင်းသဖြင့်လည်း ထိုနေရာတို့၌ ကျက်သရေ မင်္ဂလာသည် ရှိ၏ဟု အယူရှိသည်။ အခုတော့ ကျက်သရေတို့ ကိန်းရာတည်ရာ သည်အရာတွေ မရှိတော့။ ကြီးတော် မယ်အုန်းညိုက ဗလာစာအုပ်ကလေးတစ်အုပ် ထုတ်ပြသည်။ အဘိုးလေး၏ ဂါထာမန္တန်များကို အဘိုးလေးကိုယ်တိုင် မှတ်တမ်းတင်ထားသည့် စာအုပ်ကလေး ဖြစ်သည်။ ကြီးတော်က အိမ်ဟောင်းဝယ်သူတွေဆီက တောင်းယူထားလိုက်သည်ဆိုသော ပျဉ်တစ်ချပ်ကိုလည်း ပြလိုက်သေးသည်။ 'လှူထောင်လှူတိုက်ဆရာ ဆရာမြို့၊ ဆင်ဖြူကျွန်းရပ်'

ကျွန်တော်က အိမ်ရာနေရာကလေးတွေကို လိုက်ကြည့်သည်။ အဘိုး၏ အိမ်ကြီးရှိခဲ့ရာ နေရာကို လိုက်ကြည့်သည်။ အဘိုးလေးတို့ နေထိုင်ခဲ့ရာ အခန်းကလေးနေရာကို စိတ်ဖြင့် မှန်းကြည့်သည်။ အလွမ်းဆုံးကတော့ သည်အိမ်ဝိုင်းဆီက သင်းပျံ့လာတတ်သော ကောက်သစ်နံ့ မွှေးမွှေးကို ဖြစ်သည်။



# အိမ်ကလေး ၁၆

## (၁)

သည်တစ်ခေါက် ကြီးတော်သိုင်းကို တွေ့လိုက်ရတော့ ကျွန်တော် စိတ်မကောင်း ဖြစ်ရသည်။ ကြီးတော်သိုင်း အတော့်ကို ပိန်ကျသွားခဲ့သည်။ မြင်နေကျ ဖြားဖိုင့်ဖိုင့် ခန္ဓာကိုယ်က လေးငါးခြောက်လအတွင်း ရွှေဆော်နှင့် ထိုးချလိုက်သလို ပါးလျားသွားခဲ့သည်။ အသားအရေကလည်း အကျုံးလှော်ထားသည့် နှမ်းတွေလို ခြောက်မည်းမည်း။ နဂိုကလည်း ဖြူဖြူစင်စင်တော့ မဟုတ်။ ချင်းတွင်း အညာသူကြီးဆိုတော့ တောရည် တောသွေးကလေးဖြင့် ခပ်ညိုညိုထဲက ဖြစ်၏။ မန်ကျည်းစေ့ရောင်။ သည်ထဲကမှ ကျန်ကောင်းကျန်ရာ အကြည်ဓာတ်တွေကို နုတ်ယူလိုက်သလို ညစ်မည်းသွားခြင်း ဖြစ်သည်။ ဇရာရေစီးကြောင်းတွေက မြောင်းလက်တက်တွေလို မျက်နှာတစ်ပြင်လုံး ဖြာထွက်နေကြသည်။ အုန်းဆီကလေး တစ်စွက် နှစ်စွက်သော်မှ မလူးနိုင်ရှာရှာသလား။ ဆံစတွေက လေလာတိုင်း လွင့်ကြသော ဖွဲမှုန်တွေလို မှုန်မှုန်လှုပ်လှုပ်။ ငယ်စဉ်က ရခဲ့သော ကျောက်ရောဂါကြောင့် ကျောက်ပေါက်တွေ တင်းကျမ်း။

"ကျုပ်တို့ ငယ်ငယ်က ကျောက်ရောဂါဆိုသာ သေရာပါ ရောဂါပေါ့တော်၊ ကတိမ်းကပါးဖြစ်လိုက်ရင် ရွာလုံးကို ကျွတ်တော့သာ၊ ကျုပ်တောင် ကံကြီးလွန်းလို့ လွတ်သယ် ပြောပါရော၊ အမေက ဆေးဝါးနားလည်တော့ ကျုပ်တို့ကို ကျောက်မျက်စဉ်းခတ်ပေးသယ်၊ ဆင်သမနွယ်မြစ်ကယ်၊ နွယ်ချိုသတ္တုရည်ကယ်၊ ထောပတ်ကယ်၊ တောထဲတောင်ထဲပေါက်တဲ့ တောနရွဲမြစ်ကယ် အမျှစုပြီး မျက်စဉ်းခတ်တော့ မျက်စိများတော့ ကျောက်လွတ်ပါရဲ့၊ ကျောက်ကြီးနာတွေကတော့ သေရာပါကရောပဲ"

မျက်နှာပေါ်က ကျောက်ဖေးတွေအကြောင်း စကားရောက်သည့်အခါ ငယ်ငယ်က ရခဲ့သည့် ရောဂါကို မမေ့မလျော့ ပြောနေတတ်သည်။ အနုအထိလည်း ရေရယ်မိုးရယ် ချိုးသည်မရှိ။ သမီးတွေက "နေပွင့်သားပဲ အမေရဲ့၊ အခိုးကလေးပွင့်အောင် ရေနှစ်မှုတ် သုံးမှုတ်လောက် ချိုးဦးမှပေါ့" လို့ ပြောတတ်ကြသော်လည်း ကြီးတော်သိုင်း မလှုပ်လေ။ သီတင်းကျွတ် လပြည့်နေ့ကတည်းက မချိုးလိုက်သည့်ရေ တပေါင်းလပြည့်ကျမှတစ်ခါချိုးသည် ဆိုလေ၏။ အချိန်အခါ မရောက်သေးဘဲ ရေချိုးခိုင်းလျှင် သမီးတွေကို ပက်ခနဲ ပြန်တွယ်တတ်သည်။

"ငါ့များ သေတွင်းပို့ချင်လို့အေ၊ ရေ... ရေနဲ့ ဘာများ မှတ်လို့တုံး။ ပုစွန်တွင်းမြင်းနှင် မဟုတ်တမ်းတရမ်းတော်" တစ်ခါတလေတော့ ကြီးတော်သိုင်း ပြောတတ်သည့် ချင်းတွင်းအညာလေကို မှတ်မှတ်သားသားရှိရသည်။ တောသူတောင်သားဆိုတော့ တောစကား တောင်စကား ကြားရတတ်သည်။ ဘဝထဲကလာသော စကားရိပ်တွေ ပါလာတတ်သည်။ သူတို့ငယ်စဉ်က ကြည့်ခဲ့ရသည့် ဇာတ်ပွဲ ရုပ်သေးပွဲများ၊ ဆေးမြီးတိုများ၊ ပုံတိုပတ်စများ၊ စကကိုးစကကား (စကားကိုးစကားကား) များ ကြားရတတ်သည်။ အကြော်ဆိုင်ကလေးတည်ကာ ဘဝ ဝမ်းကျောင်းရသော်လည်း

သည်းကြီးခေါင်ခိုက် ဖျားသည်နာသည်လို့တော့ မကြားရ။ ညှော်များလို့၊ ငန်းမန်းကလေးကြွလို့၊ ဇက်ကြောထိုးလို့ ဆိုသည့် အဂန္တုရောဂါတွေကို အမည်တပ်ကာ တစ်ခါတလေတော့ ကျွန်တော်တို့အိမ်ကို ဆေးလာတောင်းတတ်တာတော့ ရှိသည်။ ကျွန်တော်တို့ကလည်း မှန်းကာဆကာ ဆေးပေးရသည်။

"အင်္ဂလိပ်ဆေးက တစ်ပွဲတိုးတော့ ကောင်းသယ်ဆရာရဲ့၊ ကျုပ်က မအားလွန်းလို့ပါတော်၊ နို့မို့ ကိုယ့်ရောဂါကိုယ် သိလိုက်သာမှ ခွက်ထဲ ကျင်ငယ်ခံပြီး ဆီတစ်ပေါက် ထည့်ကြည့်သာနဲ့ ဘာဖြစ်နေသယ် သိသားဟာကို။ စကားရှိသားဟာကော ဆရာရဲ့၊ သတိဟူသည် လွန်ကြီးစ၊ ဒုက္ခဟူသည် တွင်းတွင်းချတဲ့။ သိသာသိသော်လည်း ထမလုပ်နိုင်တော့ ကျွဲနွား သင်းပျက် အကွပ်ခက်၊ သက်ငယ်ဟောင်းလျက် အဖျက်ခက် ဆိုသာလို ကိုယ့်ခန္ဓာကိုယ် ငုတ်တုတ်ထိုင်ကြည့်နေရသာပဲ"

ကိုယ့်ရောဂါကိုယ် သိလိုက်တာမှ ဆိုသဖြင့် ကျွန်တော် ငိုင်သွားရသည်။ ရောဂါဘယ်ပုံရှာပါလိမ့်။ ကြီးတော်သိုင်း၏ ရောဂါအကြောင်းကို တစ်ခါတော့ မှတ်မှတ်ရရ မေးကြည့်ဖူးသည်။ ခွက်ထဲ ကျင်ငယ်နှင့်ကော ဆီတစ်ပေါက် ထည့်ကြည့်သည်ဆို၏။ ဆီပြန့်သွားတော့ ဝါတောရှောက်သည်။ ဆီပွက်ကလေးထတော့ သည်းခြေပျက်သည်။ ဆီပေါ်တစေး ကျင်ငယ်ထဲမှာ ခဲသွားလျှင် သလိပ်ပျက်တာ သေချာပြီ။ လေ သင်း သည်းခြေ သုံးပါးစလုံးပျက်တော့ ဆီက ကျင်ငယ်ရေထဲ နှစ်လေသည်ဟု ၏။ တစ်ပါးပါး မျက်မှန်းသိတော့ လေဆေး၊ သလိပ်ဆေး၊ သည်းခြေဆေး ဝယ်စားလေသည်။

"ဆရာနှယ် ပလ္လပရွက်တွင်းက ထွက်ဆိုသာလိုပဲ၊ လူ့ခန္ဓာကိုယ်ကြီး ကိုယ်နှိုက်က ပိုးအိမ်ကြီးဟာကော။ ကျုပ်မလည်း အိမ်အိုကြီး ဖြစ်နေမှတော့ တစ်အိမ်လုံးဖျက်မှ ထင်းတစ်မွှေ့ မရချင်တော့ဘူးဟာ နေချင်

လာပါပြီ။ မြေးကလေးတွေက ရှိသေးသမဟုတ်လား၊ သီလကောင်းလို့ အသက်ရှည်ပေမယ့် ကိုယ့်အရိုး ကိုယ်ကောက်နိုင်မှ ကောင်းသာရယ်"

ကျွန်တော့်ကိုတော့ ဆရာလို့ခေါ်တတ်ကာ ကျွန်တော့်ဇနီးကိုလည်း ဆရာမဟု ခေါ်တတ်သည်။ အသက်အရွယ်ရပြီဆိုသော်လည်း တောင်ဖေး ကူတာတော့ မရှိ။ ဖျတ်ဖျတ်လတ်လတ်တော့ ရှိသည်။ ကျွန်တော်တို့ အိမ်ကို အမြဲလာနိုင်တာတော့ မဟုတ်။ အကြောင်းရှိမှ ကူးလာသူ ဖြစ်သည်။ တစ်ခါတလေ ကျွန်တော်တို့အိမ်က အုန်းပင်တွေ အုန်းဖတ်တွေ များနေလျှင် သူကိုယ်တိုင် ဓားတစ်ချောင်းဖြင့် ရောက်လာကာ ထိုးထိုး ချွာတတ်သည်။ အုန်းဖတ်ခြောက်က အကြော်ဆိုင်အတွက် မီးကောင်းရ သည့် ထင်းဟု ဆိုသည်။ ကျွန်တော်က မြေးကြီးတွေ ခိုင်းရောပေါ့ဆို တော့ 'ပင့်ရတာ အထနှေးလွန်းလို့' ဟု ညည်းတတ်သည်။

ကြီးတော်သိုင်း အကြော်ဆိုင်က ကျွန်တော်တို့ လမ်းတိုကလေးထဲ ဝင်ရာ လမ်းလေးခွထောင့်မှာ ရှိသည်။ ဘယ်လမ်းက ထွက်လာလာ ကြီးတော်သိုင်း အကြော်ဆိုင်ကို ဦးတိုက်နိုင်သည်။ အကြော်တွေ ကြော် ထားပြီး မကုန်သည့်နေ့တွေမှာတော့ ကြီးတော်သိုင်း သည်နေရာမှာ မှုန်း တိမ်းအောင် ထိုင်နေရတော့သည်။ မနက်ခင်း ထမင်းကြမ်းစားလေ့ရှိသည့် ကျွန်တော့်အိမ်အတွက် ကြီးတော်သိုင်းအကြော် ပူပူနွေးနွေးက အကူအဖက် ဖြစ်ရသည်။ ကြော်တတ်လို့ ကြော်တာပဲလား၊ အတွေ့အကြုံကပဲ သင်ပြ လေသလား၊ ကြီးတော်သိုင်းအကြော်တွေက အချိုးအချိပ်တော့ ကျလေ သည်။ မနက်ခင်း အကြော်ဆိုင်ဆိုတော့ အမိုးရယ်၊ အကာရယ်မရှိ။ ပုံမှန် ရက်တွေဆိုလျှင် ဆွမ်းခံပြန်ချိန်လောက်မှာ ကုန်တတ်မြဲဆိုတော့ ဆိုင် ကလေး ထိုးစရာ မလိုပါ။ ထိုင်စားချင်သူတွေအတွက်တော့ ထမင်းစား စားပွဲကလေးတစ်လုံးနှင့် သစ်သားဖင်ထိုင်ခုံကလေး လေးငါးလုံး ချထား လိုက်ရုံ။ အချဉ်ရည်ကလည်း ကိုယ်ပိုင်ဖော်မြူလာ၊ မနက်တိုင်း လှည်း

ကျင်းထားတော့ ဆိုင်ကလေးက သန့်ပြန့်သည်။ ကြီးတော်သိုင်းက အကြော်ဆိုင်နှင့် မနီးမဝေး တစ်ရပ်ကွက်ကျော်မှာ အိမ်ငှားနေသည် ကြားဖူးသော်လည်း ဘယ်လိုအိမ်ကို ဘယ်လိုငှားနေတာလဲ ကျွန်တော် မသိ။ ကလေးနှစ်ယောက် မိခင် သမီးနှင့် အတူနေသည်ဟုသာ ဆို၏။ သည်အကြော်ဆိုင်နားမှာ သမီးအကြီးဆုံး မိသားစုငှားနေသည့် အိမ်ရှိတော့ အကြော်ဆိုင်ပစ္စည်းတွေ သိမ်းသည့်အခါ သည်အိမ်မှာပဲ နီးနီးနားနား ထားခဲ့သည်။ သမီးအကြီးဆုံးကမွေးသည့် မြေးတွေ ကျောင်းပိတ်ချိန်နှင့် ဆုံလျှင်တော့ ဘွားအေကြီးကို အကြော်ကူရောင်းတာမျိုး ရှိသည်။ အကြော်တွေ မကုန်သည့်နေ့မျိုးဆိုလျှင်တော့ အနားက လမ်းဘေးမယ်ဇလီပင်ရိပ်မှာ ကြီးတော်သိုင်း ရှိနေတတ်၏။

"ကနေ့ စောစောမကုန်ပါလား ကြီးတော်၊ ကြော်တာ များသွားလို့လား"

"ဘယ့်နှယ်ဖြစ်သယ် မပြောတတ်ပေါင် ဆရာရေ၊ ခါတိုင်းလောက်ကြော်သာပါပဲ၊ မနက်ကတော့ ဆွမ်းခံကြွကြတဲ့ ကိုရင်တွေ၊ ဦးဇင်းတွေတော့ လောင်းလိုက်ရသာ၊ အဲသာ အမြတ်ကျန်သာပါပဲ။ ဆယ့်နှစ်လ စုန်းပေါင်းခ၊ ဆယ့်နှစ်လ နတ်ပေါင်းခတဲ့၊ ကနေ့တော့ စုန်းရက်ကျ ထင်ပါရဲ့"

တစ်ခါတော့ 'ကျုပ်တို့ဘဝက ဂံကောင်းမှ ဖယောင်း (ဖားလောင်း) ဖား ဖြစ်ရသာ' လို့ ပြောဖူးသည်။

ကျွန်တော်တို့နှင့် ကြီးတော်သိုင်းက သည်ရပ်ကွက်ရောက်မှ သိရခြင်း ဖြစ်သည်။ ကျွန်တော်တို့ မိသားစုသည်လည်း သည်ရပ်ကွက်ကို ပြောင်းလာတာ မကြာသေးပါ။ အရှေ့ခုနစ်အိမ် အနောက်ခုနစ်အိမ် စုံအောင် မသိမခင်ရသေး။ အကြော်ဝယ်စားရင်း ဟိုမေးသည်မေး မေးရင်းက ပထမဆုံး ခင်မင်ခဲ့ရသူ ဖြစ်သည်။ ကျွန်တော်က ကြီးတော်လို့ ခေါ်

သော်လည်း ကျွန်တော့်ဇနီးက အမေကြီးလို့ ခေါ်သည်။ ကျွန်တော်တို့ အိမ်ကကြီးတော်သိုင်း၏ သမီးကြီးဖြစ်သူ မနတ်မတို့နှင့် နီးသည်။ မနတ်မ ၏ သမီးငယ်နှစ်ယောက်က ကျောင်းပိတ်ရက်ဆိုလျှင် ကျွန်တော်တို့အိမ်က စာအုပ်တွေ ရှင်းပေးတာမျိုး၊ ဂျာနယ်တွေ၊ သတင်းစာတွေ တွဲပေးတာမျိုး ကူညီနေကျဆိုတော့ သည်မိသားစုနှင့် ရင်းနှီးနေကြပြီ။ ကြီးတော်သိုင်းက အိမ်ထောင်ပျက် သမီးလတ် ကလေးနှစ်ယောက်အမေနှင့် တစ်ရပ်ကွက် ကျော်မှာ နေသည်ဆိုသော်လည်း မနတ်မတို့အိမ်မှာ လဲလဲလျောင်းလျောင်း နေတာများသည်၊ မြေးကလေး နှစ်ကောင်က တန်းလန်း တန်းလန်း။ ကျွန်တော်က 'မြေးတွေကို ထိန်းရတုန်းလား' ဆိုတော့ 'တစ်ချိုးတိုး ပုဆိုး စုတ်၊ ဘွားအေဆိုး မြေးငုတ်တုတ်ကိုး ဆရာရဲ့' လို့ ပြောတတ်သည်။ အကူး အလူးကလေးများလာတော့ သည်မိသားစု တစ်ခုကြီး၏ ဘဝအကြမ်းကို သိလာရသည်။

"ကျုပ် အိမ်သားက ရေစကြိုဘက်မယ် ထန်းလျက်ပွဲရုံတွေ ရှိတော့ အဲသည်မှာ အလုပ်လုပ်သယ်၊ သမီးကချည်း ကိုးယောက်မွေးသာ သုံးယောက်က ပုံကရော၊ ခြောက်ယောက်ကျန်သာကို ထဘီ ရင်ခေါင်း စည်းပြီး လုပ်ကျွေးခဲ့ရသာ၊ ဒါတောင် ကျုပ် ကလေးတွေ ပဲလှန်းစေ့နဲ့ လူဖြစ်ရသာ ဆရာရေ"

သားသမီးတွေ အရွယ်ရောက်ကြတော့ ပဲခင်းတွေ၊ ဆေးခင်းတွေ မှာ နိုင်းနိုင်ပြီ။ အရွယ်ချင်း မတိမ်းမယိမ်းဆိုတော့ ဝါးတစ်ရုံလုံး ရသေ တောင်ဖေးတွေချည်း။ သို့သော် နဂိုက မလှသည့်အိုးဆိုတော့ ခံသမျှ ယို ကျရသည့်အဖြစ်။ ရွာမှာ လုပ်ကိုင်စားကြတော့လည်း ရွာရိပ်မှာ တစ်ဝမ်း တစ်ခါးတော့ လုပ်သမျှ စားဖို့တော့ ရသည်။ သို့သော် သားသမီးတွေက မြို့ကို ကူးချင်သည့် ခေတ်ရောဂါတွေ ရှိလာကြသည်။ အကြီးဆုံးသမီး မနတ်မ အပျိုဖော် ဝင်ကတည်းက အိမ်သား ဆုံးပါးရှာတော့ ကြီးတော်

သိုင်းကပဲ ကြက်သားအုပ်မကြီးလို ကောက်ရသမျှအစာ သားသမီးတွေ အတွက်ချည်း ဖြစ်ရလေသည်။ အိုးတော်လုပ် ဖုတ်ရင်းက မကျက်တော့ လေ့ဦးစို စိုပေါ့။ လေ့ဦးခြောက် ခြောက်ပေါ့။ သည်လိုနှင့် သားသမီးတွေ မြို့ပြောင်းတော့ မုန့်လေပွေ ကြွေတာနှင့် ကုန်ရပြီ။ သားသမီးတွေ မြို့ ရောက်ကြလို့ လေးငါးနှစ်လောက်အထိ ရွာမှာပဲ သမီးတစ်ခုလပ်မနှင့် နေခဲ့သေးသည်။ နောက်တော့လည်း ရွာက အိမ်ကလေး ရောင်းချကာ သားသမီးတွေနောက် လိုက်လာခဲ့ရသည်။

"လိုက်သာရသယ်၊ ကျုပ်က ကိုယ့်ဝမ်းကိုယ်ကျောင်းဖို့ စိတ်ကူး ပြီးသား။ သားသမီးတွေက လင်ရယ် မယားရယ် ယူကြပြီဆိုတော့ သမက်နဲ့ ချွေးမတွေက ယောက္ခမ ကြည်ဖြူသယ်ဆိုသာ အလကားပြောသာ၊ နဂါးဘုံ၊ ဂဠုန် မနေနိုင်ဘူးရယ်။ သည်တော့ အကြော်ကလေး ထွက်ရောင်း သယ်။ တစ်ခုလပ်မ အိမ်ခေါ်ထားလိုက်သယ်။ ထောက်စာပင့်စာ ပေး တော့လည်း ယူပါသယ်"

ကြီးတော်သိုင်း၏ ဘဝဒဿန ဖြစ်သည်။ မှားသော်ရှိ မှန်သော် ရှိ သူ့အတွေး သူ့အမြင်ဆိုတော့ ကျွန်တော်လည်း မဖြောင့်သာ။ တလော က ကြီးတော်သိုင်း အကြော်ဆိုင်ကလေး မမြင်တော့။ အရင်းပဲ ပြုတ်လေ သလား။ နေထိုင်များ မကောင်းရှာသလား။ အိမ်မှာ အဝတ်လာဖွပ်သည့် မနတ်မကို မေးတော့ သူ့မောင်ရှိရာ ရေစကြို အနောက်ရွာတွေဘက် ခဏ ပြန်သည်ဆို၏။

(၂)

ကြီးတော်သိုင်းနှင့်နေသည့် တစ်ခုလပ် ကလေးနှစ်ယောက်မအေ က အရွယ်ကောင်းသေးသည်။ ရွာမှာကတည်းက အိမ်ထောင်ကွဲကာ ရွာမှာပဲ အိမ်ထောင်ပျက်ခဲ့သည်။ ရွာမှာ ပဲမျိုးစုံ လာကောက်သည့် ပဲပွဲ

စား၏ တပည့်ဆိုတော့ စပါးကြီး မဟုတ်သော်မှ လင်းမြွေလောက်တော့ အရာရောက်သူ ဖြစ်သည်။ ရွာမှာပဲ မိသားဖသားပီပီ ယူကြရာက သမီးကလေးနှစ်ယောက် မွေးပြီးမှ ရွာက ပျောက်သွားခြင်း ဖြစ်သည်။ ရွှေမော်တွေဘက် ရောက်သွားသလိုလို၊ ကျောက်တူးလိုက်သလိုလို။

"အိမ်က ကောင်မက ငရဲအိုး တုတ်နဲ့ထိုးမိသာ ဆရာရဲ့၊ လင်က ပေါ်မလာလိုက်သာ စုပ်စုပ်သာ ကန်းရော။ ယူကြမယ်ဆိုတုန်းက ကျုပ်ကတားသယ်။ တယောလူလေ ပလွေကျွဲကျောင်း ကောင်းပုံမပေါ်ပါဘူး သမီးရယ်ဆိုသာတောင် သည်လင်မှ မရရင် မနေပါဘူးဆိုလို့ ပေးစားရသာ။ ဘုရားများ စူးရပါစေ့၊ ဆင်စွယ်မမှန်လို့ ပိုးစားခံရသယ် အောက်မေ့မိသယ်။ ဖြစ်လာတော့လည်း စာဉ ဉတော့ ဒေါင်းအုပ်၊ ဒေါင်းဉ ဉတော့ စာအုပ်၊ မအေဆိုတော့ မပစ်သာဘူးပေါ့လေ"

အခုတော့ ကြီးတော်သိုင်း သွားလေရာ လိုက်နေရသည်။ အစ်မအစ်ကို မောင်ဖွားတွေက နှမ အစ်မရယ်လို့ စောင့်ရှောက်ချင်ကြသော်ငြား ကလေးနှစ်ယောက် တစ်တန်းလန်းဆိုတော့ မထားချင်ကြတာလည်း ရှိသည်။ သည်တော့ ကြီးတော်သိုင်း မြို့မှာနေနေ၊ ရွာပဲပြန်ပြန် အတူခေါ်ရ၊ အတူနေရတော့သည်။ သည်ကြားထဲ ကျားစီးဖားစီး လုပ်ကိုင်စားမဟဲ့ဆိုသည့် စိတ်မရှိလေတော့ မအေအိုကြီး လက်လှုပ်မှ ထမင်းတစ်ဆုပ် ... ရတာမျိုး။ မြို့ရောက်သားသမီးတွေက မအေအိုကို ငဲ့ကြသော်လည်း မအေ့နောက်က အထုပ်ကိုတော့ မရွက်ချင်ကြတော့။ အဝေးက ပေးနိုင်သလောက် ကမ်းတာမျိုးပဲ ရှိသည်။

ကြီးတော်သိုင်း၏ သမီးကြီးဖြစ်သူ မနတ်မက ကျွန်တော်တို့ ရပ်ကွက်ထဲမှာ ခေါ်သူရှိ၊ ရှိသလို အဝတ်လိုက်လျှော်သူ ဖြစ်သည်။ လပေးစနစ်ဖြင့် မနက်တိုင်း သွားလျှော်သည့်အိမ်ရှိသလို ခေါ်ကောက် လိုက်လျှော်ရတာလည်း ရှိသည်။ လင်က ပန်းရံဆရာ။ မြို့ထဲ ဆိုက်တွေမှာ

နေရတာ များသည်။ မနတ်မက လင့်ပိုက်ဆံကို စုစောကာ သူ ရသမျှနှင့် လောက်အောင်စားသည်။ လင့်ပိုက်ဆံ တစ်ခါရှင်းတော့မှ အိမ်ငှားခ ချေသည်။ အိမ်ငှားခက တစ်လတစ်ခါရှင်းဆိုတော့ မပေးနိုင်သေးသည့်လ မှတ်ထားလိုက်ရုံ။ သမီးအငယ်မနှစ်ယောက်ကို ဘုန်းကြီးကျောင်းပညာရေး (ဘကကျောင်း) မှာ ကျောင်းထားသည်။ အလတ်ကောင်က ခုနစ်တန်းကျတော့ အလုပ်လုပ်ချင်သည်ဆိုသဖြင့် ကျောင်းထုတ်ထားရသည်။ အကြီးကောင်က စိတ်ပါသည့်အခါ ဖအေနှင့်လိုက်။ မနတ်မက အလုပ်ရှိသမျှ ကျုံးရုံးလုပ်တတ်သူ ဖြစ်သည်။ သူ လုပ်နိုင်မှ မီးဖိုချောင်းက အခိုးထွက်ရသည်။ မြို့ကိုရောက်တာ ကြာပြီဆိုတော့ မြို့ဂိုက်ကလေး ထုတ်ချင်တာ၊ မြို့လေကလေးနှင့် ပြောချင်တာတော့ ရှိ၏။ အဝတ်လျှော်အိမ်တွေက ပေးသည့် မြို့အင်္ကျီ လျှာဖတ်လတ်ကို ကြိုက်လှပြီ။

"ဆရာမရေ… အစ်မမောင် ကိုသာကျော် မနေ့က ပန်းရုံခ သုံးလစာ ပေါင်းထုတ်လာသာ ရှောအင့် ရှောအင့်နဲ့ ဆပ်ရသာ ကုန်ကရော။ ကျွန်မ လုပ်နိုင်လွန်းလို့ရယ်။ နို့မို့များတော့…"

မနတ်မ သမီးအငယ်နှစ်ယောက်ကို ဥပုသ်ကျောင်းပိတ်ရက်တွေမှာ တောက်တိုမည်ရ ခိုင်းရသည်။ တစ်ပတ်စာ ကျောင်းမုန့်ဖိုးပေးရသည်။ ဟင်းလို ထမင်းလို ကျန်ကောင်းကျန်ရာတွေ ပေးရတာလည်း ရှိသည်။ မနတ်မက တစ်ခါတလေတော့ သူတို့ ငယ်ဘဝတွေကို မီးပူတိုက်ရင်း ပြောပြတတ်သည်။ သူမက အကြီးဆုံး၊ သူမကို မွေးတော့ ရွာမှာ စီးပွားရေးကလေး သောင်သာလို့ နတ်မလေခြင်းဆိုသည့် အတိတ်ဖြင့် နတ်မ ဟု မှည့်သည်။ သူ့အောက်မောင်က ရွာမှာ စိန်ကြာညိုလာကသည့်နှစ်က မွေးလို့ ကြာညို။ ကြာညို့အောက်က ချင်းတွင်းမော်တော်ပေါ်အ ဗိုက်နာသည့် မောင်က အောင်ဇေယျ၊ မော်တော်နာမည်က အောင်ဇေယျ ဆို၏။ အောင်ဇေယျအောက်မှာတော့ တစ်ခုလပ်မ၊ တစ်ခုလပ်နာမည်အ

မွေးခိုက်ဖွားခိုက် အိမ်ခေါင်ပေါ်က ကျီးသာလို့ မကျီးသာ။ မကျီးသာအောက် နှစ် ယောက်က ဖော်ဝမ်းနှင့် ဖော်တူး။ ဖော်ဝမ်းနှင့် ဖော်တူးတို့၏ သမိုင်း တော့ မသိရ။ ချင်းတွင်းကမ်းကရွာမှာ နေကြရင်းက ပထမဆုံး စွန့်ထွက်လာ သူမှာ ကြာညိုဖြစ်သည်။ မန္တလေးဘက် ရောင်းထွက်သည့် ကုန်ကားနှင့် လိုက်လာရင်း ရွာကိုပြန်မကပ်တော့သူ ဖြစ်သည်။ တုံးမှီတိုင်ကပ်နေရင်း က မန္တလေးကို ကုပ်မိပြီ။ သူ ကုပ်မိတော့ ညီတွေကို တစ်နှစ်တစ်ယောက် လှမ်းခေါ်ရင်း အိမ်ကလေး တစ်လုံးငှားကာ မြို့စွန်မှာ နေခဲ့ကြသည်။ ဆိုက်ကားနင်းသူနင်း၊ ကုန်ထမ်းသူထမ်း၊ သကြားစက်လုပ်သူလုပ်။ ဓာတ် ထဲ ကြိုးဆွဲသူပင် ပါသေးသည်။ အခုတော့ ကိုယ် အကြောင်းပါရာ အိမ်ထောင်ကို အမှီပြု၍ မန္တလေးတစ်မြို့တည်းမှာပဲ တစ်ယောက်တစ် နေရာ။ သည်ကမှ ယောက်ဖဖြစ်သူ ကိုသာကျော်ကို ခေါ်ယူကာ မြို့ 'သွေး' သွင်းပေးကြသည်။

"ကျွန်မတို့ မန္တလေးရောက်တော့ ဆရာမနယ်၊ မြို့စွန်က အမှိုက် ကျင်းထဲ စင်ကလေးထိုးနေကြသာပဲ၊ နောက်တော့ လူမနေနိုင်တဲ့ မြေ ကွက်တွေထဲ ခွင့်တောင်းပြီး လိုက်လိုက်နေရသာကပဲ နှစ်တော်တော်ကြာ သယ်။ ကိုသာကျော် ပန်းရံလုပ်၊ ကျွန်မက ဝက်တွေ အဖက်မွေး၊ အငယ်မ နှစ်ကောင်က သည်ရောက်မှ မွေးသာ"

မနတ်မတို့ မန္တလေးရောက်လာပြီး လေးငါးနှစ်လောက်ရောက် တော့ အမေအိုကြီးကို လှမ်းခေါ်ဖို့ မောင်နှမတစ်တွေ တိုင်ပင်ကြသည်။ မအေအိုကြီးတော်သိုင်းခမျှာ သည်အရွယ်ရောက်မှ ချက်ချင်းကြီး ကောက် ကာငင်ကာ မြို့ကို လိုက်ဖို့မလွယ်။ ရွာမှာ အိမ်ကလေး ဝိုင်းကလေး ရှိ သေးသည်။ ဆွေရယ်မျိုးရယ် ရှိသေးသည်။ ကိုးကွယ်ရာ ကျောင်းရယ်၊ ကန်ရယ် ရှိသေးသည်။ တောသူတောင်သားပီပီ ရှေးဘိုးဘွားတို့ ခေါင်းချ ရာ အရပ်က ခွာဖို့ခက်သည်။ သည်ကြားထဲ လင်ကံမကောင်းရှာသူ

သမီးနှင့် တစ်နှယ်ငင် မြေးကလေးနှစ်ယောက်က ရှိသေးသည်။ သားသမီးစကား သုံးခွက်တစ်ခွက်ကင်ဆိုတော့ ခေါ်တိုင်းမလိုက်ဝံ့တာလည်း ပါလေသည်။

"မြို့သာ ခေါ်ကြသာ၊ ဘယ်သမီး ဘယ်သားအိမ်မှာတော့ နေပါ အမေရယ်ဆိုသာ မပါတော့ ကျုပ်က စဉ်းစားသယ်။ တစ်နေကုန် ကတော်တဲ့ ကြက်မ၊ ဥတော့ တစ်လုံးတည်းဆိုသာလို ခေါ်ကြပေသီလို့ ကျုပ်ကလည်း သမီးမြေးတွေနဲ့ ပက်ကျိလို အမျှင်တန်းကိုး၊ စဉ်းစားရသယ်။ ဒါပေသိ ကျုပ် လိုက်လာရသာပါပဲ ဆရာရယ်။ ပြောရစေတော့ ကျုပ်ကလည်း မိသားစုနဲ့ မခွဲနိုင်သာလည်း ပါသယ်"

တစ်ခါက ကြီးတော်သိုင်း ကျွန်တော်တို့မိသားစုကို ပြောပြသည့် ခံစားမှု ဖြစ်သည်။ တောသူတောင်သားပီပီ စိတ်ထဲရှိသလို ပြောလိုက်ခြင်း ဖြစ်သော်လည်း မိသားစုတန်ဖိုးကို တပ်မက်သော လူ့ဇီဇကို ဖော်ပြနေခြင်းသာ ဖြစ်သည်။ လူ့ယဉ်ကျေးမှု သမိုင်းသည်ပင် မိသားစုဆိုသည့် စုဖွဲ့မှု ပွားစည်းခြင်းတွေကို လက်ဆင့်ကမ်းခဲ့ခြင်း ဖြစ်သည်။ သည်နေရာ၌ ခွဲမှုသည် ချစ်ခြင်းအားဖြင့် တည်သော သမုဒယစုခဲမှု ဖြစ်သည်။ လူသား၏ ပကတိစိတ်သည် မိမိဘဝ တည်မြဲရေးသက်သက်သသော မဟုတ်။ မိမိဘဝ တည်မြဲရှင်သန်ရေး သက်သက်ချည်းမဟုတ်။ အစုအသင်းစိတ်လည်း ရှိကြရသည်။ ဝံပုလွေတွေလို မျောက်တွေလို လူသည်လည်း အစုအသင်းအားဖြင့် နေခဲ့ကြရသည်။ နေခဲ့ကြသလို နေရဦးမည့်သဘောလည်း ရှိနေသည်။ လူသည် တစ်ဦးချင်း လုံခြုံမှုထက် အများစု၏ လုံခြုံမှုကို စုပေါင်း သဘောတာဝန်ယူကြရင်း တစ်ဦးချင်း လုံခြုံမှုကို တည်ဆောက်နေကြရသူတွေ ဖြစ်သည်။ မေတ္တာအားဖြင့် နွေးထွေးရသော အသိုက်တရှိုက်မက်မက် ရှိကြရစမြဲ။ မိသားစုဘဝသည် အေးစက်သော ကြင်နာမှုများမပါသည့် နွေးထွေးသော စည်းနှောင်မှု ဖြစ်သည်။ အသက်အရွယ်

ကြီးရင့်လာလေ တစ်စုံတစ်ရာသော မျှော်လင့်ချက်ဖြင့် မျှော်မောရသော အနောင်အဖွဲ့က ရုန်းဖို့ခက်လေ။ မိသားစု အနောင်အဖွဲ့က ရုန်းပြေးနေကြသည့် သားသမီးများဆီ တစ်ခါက ချစ်ခြင်းမေတ္တာမျိုး ရလိုရငြား ကျေးကျွန်တစ်ယောက်လို အပြေးလိုက်နေရသည့် မိဘတို့၏ အဓောတကောရှိမှုကား ရင်နာစရာကောင်းလှသည်။ လင်သားမရှိတော့သည့်နောက် အမေ့အိမ်အိုကလေးက ဒရောသောပါး ထွက်ခွာသွားကြသော သားသမီးတွေနောက်ကို လိုက်ချင်နေသည့် ကြီးတော်သိုင်းကို ကျွန်တော်နားလည်နိုင်ပါသည်။ ညွတ်က မတိုးလာတော့ ငုက်ကပဲ တိုးရတော့သည်။ သားဝန် သမီးဝန်ကို 'ရွယ်ကြီးတွင်းဆုံး' အထိ ပင့်မထားချင်းသေးသည်ကော။ အငေးက သားသမီးတွေကို ဘီလူးကြည်ဖြူ နတ်လူချစ်ခင်၊ အိပ်လျှင်ချမ်းသာ၊ နိုးခါသုခ၊ ဆောင်မနတ်များ၊ ထည်ကြားစိတ်စက်၊ အိပ်မက်ကောင်းစွာ၊ မျက်နှာကြည်လင် ရှိကြစေချင်သေးသည်။ ကြီးတော်သိုင်းကတော့ မိသားစုနှင့် မခွဲနိုင်လို့ မြို့လိုက်လာရသည်ဟု ဆိုသည်။ သားသမီးတွေကတော့ သူတို့မိသားစုနှင့် သူတို့ ကောင်းတူဆိုးမျှ ရှိနေကြပြီ။ သားသမီးတို့၏ မိသားစုစာရင်းမှာ သည်မအေအိုကြီး ပါနိုင်စရာ ရှိသေးအံ့မထင်။ အငေးက မိခင်အတွက် နေရာကလေးတစ်နေရာ ဖယ်ပေးနိုင်ဖို့ကော သေချာရဲ့လား။ မိသားစုဝင်တစ်ဦးချင်းစီ၏ ပကာတိစိတ်နှင့်ပေါင်းစည်းထားသော အဆောက်အအုံသစ်မှာ အမေ့အတွက် မြင့်မြတ်သော ခန်းဆောင်ဆိုတာကော ရှိနိုင်သေးရဲ့လား။ စိတ်အားဖြင့် နှလုံးသားအားဖြင့် မိခင်ဆိုသည့် ဦးထိပ်ထားမှုကလွဲလျှင် အမေ့ယာတောဆီ သူတို့မလိုက်နိုင်တော့။ ကျွန်တော်ကတော့ ဆရာမောင်လင်းကြည်၏ 'တော' ကဗျာထဲက "မိုးမကျလို့၊ မျိုးမချရလေတော့၊ ထိုးပြစရာ အပင်မရှိတဲ့အမေ့ယာ..." ဆိုသည့် ကဗျာပိုဒ်ကိုပဲ သတိရနေခဲ့သည်။

သည်တစ်ခေါက် ကြီးတော်သိုင်း ပြန်လာတော့ အသားတွေ ခြောက်မည်းလာခဲ့သည်။ ဆံစတွေက လေတိုက်တိုင်း လွင့်သည့် ဖွဲမှုန့်လို လွင့်လွှပ်မျှင်မျှင်။ ပြားဖိုင့်ဖိုင့် ခန္ဓာကိုယ်သည်ပင် ရှေ့ဘော်နှင့် ထိုးရှုလိုက်သလို ပါးလျားနဲ့ပေါ့။ ကြီးတော်သိုင်းနှင့်အတူ မြေးကလေးတစ်ယောက်ပါလာခဲ့၏။ ခရိုးပန်းလို ဖူးလာသည့်မြေးကို တမွေ့မွေ့၊ ကြီးတော်သိုင်း မြို့ကို စွန့်ခွာခဲ့ခြင်းသည်ပင် နှစ်ဝက်ကျိုးတော့မည်။ သူ့ရွာ သူပြန်တာတော့ မဟုတ်။ မောင်ဖားများရှိရာ ရေစကြို့အနောက်ဘက် ရွာတစ်ရွာကို ဒိုးတို့ပေါင်ဖက် လုပ်ကိုင်စားသောက်တော့မည်ဆိုကာ ပြန်သွားခြင်း ဖြစ်သည်။ သူ သွားတော့ သမီး အိမ်ထောင်ပျက်နှင့် မြေးကလေးနှစ်ယောက်လည်း ပါရသည်။ မြို့ရောက်လို့ သားသမီးတွေဆီ တစ်အိမ်တစ်လှည့် လိုက်နေသေးသော်လည်း တစ်ရက်ကနှစ်ရက် မကျော်နိုင်။ မနက်မတို့အိမ်မှာ နိုက် ကျွန်တော်တို့အိမ်ဘက် ကူးလာခဲ့သည်။

“ကြီးတော် ပိန်သွားလိုက်တာ၊ အခု မောင်ဖားလိုက်နေတာ အဆင်ပြေရဲ့လား”

“သားသမီးများ လွမ်းလွန်းလို့ ပြန်ခဲ့သာဆရာရေ့။ မောင်ဖားများကတော့ တစ်လှည့် နေကြည့်ကြပေါ့ဆိုလို့ သွားနေသာဗျ ကိုယ့်ရွာကိုယ့်ရပ် မဟုတ်တော့ မရဲတရဲ ပွဲထဝင်ရသလိုပေါ့၊ ရွာပြန်မလှချက်တော့ စပါးတွေတော့ သိမ်းခဲ့ပါပြီ။ ပုတ်ထဲ ကျီထဲ သွင်းဖို့လောက် ကျန်သေးပါ။ အခုလည်း သားသမီးများနဲ့ နေချေဦးမယ်။ ကန်တော့ငွေကလေးများလည်း ယူချေဦးမယ်ဆိုပြီး လာခဲ့သာ။ ခမျာများလည်း သောင်သာပုံ မရကြပါဘူး။ ပြောကြပါသယ်။ အမေရယ်… ရက်ကလေးစောင့်ရင်း နေသေးသာပေါ့တဲ့။ ကောက်နှောင်းတော့ ဆင်စာပေါ့လေ”

သမီး အိမ်ထောင်ပျက်ကောဆိုတော့ ရွာမှာ ကျန်ခဲ့သည်ဆို၏။ ဆွေမျိုးသားချင်းဆိုသေသိ ယာခင်း ပဲခင်း ဒီးတိုက်အောင် ...

ကြီးတော်သိုင်းက အများစာ ဒိုင်ခံချက်ပြုတ်။ ခံတောင်းထဲ ထည့်ရှုတ်ကာ ယာတော ထမင်းပို့၊ ယာထဲ ကိုင်းထဲ လုပ်နိုင်တာ ဝိုင်းလုပ်။ မိုးကြိုး စုပ်စုပ်ချုပ်မှ အိမ်ရောက်ရသည်။ ကျွန်တော်တို့မိသားစုက ကြီးတော်သိုင်း ပြန်ခါနီးရင် စရိတ်ထောက်လိုက်ပါရစေဆိုတော့ မနက်ဖြန်မနက်ဘဲ ပြန်တော့မည် ဆိုလေ၏။

"မြို့ရောက်တုန်းရောက်ခိုက် သားသမီးတွေနဲ့ ဝအောင်နေဦးမှပေါ့ ကြီးတော်ရဲ့။ ဘယ့်နယ် ပြန်တော့မယ်ရယ်လို့..."

"တစ်အိမ်တစ်ရက် သားတွေမြေးတွေနဲ့ နေခဲ့ရပါပြီ။ အလွမ်းလည်း ပြေပါရဲ့၊ ပလုတ်ပလောင်းလည်း ရှိပါရဲ့"

ကျွန်တော်က ခရီးစရိတ်မှဖြစ်စေတော့သဘောဖြင့် ငွေကလေး နှစ်ထောင် လက်ရောက် ကန်တော့တော့ ဝမ်းသာရှာသည်။ သားသမီးတွေအကြောင်းမေးချင်သော်လည်း မမေးကောင်းတော့ မမေးဖြစ်။ မြေးကလေး လက်ဆွဲကာ ထွက်သွားသည်အထိ ဆုတွေ တတွတ်တွတ်တောင်းသွားခဲ့သေးသည်။

(၃)

သည်တစ်ခါ မိသားစုအမြုံထဲက ရန်းထသွားသူမှာ ကြီးတော်သိုင်းဖြစ်သည်။ လမ်းထွက်တိုင်း ကြီးတော်သိုင်း၏ အကြော်ဖို မီးကျင်းယောင်းကို မြင်နေရသည်။ တစ်ခါက သည်မီးကျင်းကလေးဘေးမှာ အရွက်မကြွေချင်သော သစ်ပင်တစ်ပင် ရှိခဲ့ဖူးသည်၊ အအုပ်အသင်းထဲက သင်းမကွဲချင်သည့် ဝပုလွေအိုကြီး ရှိခဲ့ဖူးသည်။ သည်တစ်ခါတော့ သေခြင်းတရားက လက်တို့ရုံဖြင့် ကြီးတော်သိုင်း အသာအယာ လိုက်ပါသွားခဲ့ပုံ ပေါ်သည်။ သမီးကြီး မနတ်မက အဝေးမှာ မအေဆုံးသည့်သတင်းကို လာပြောရင်း ရှိုက်ကြီးငင်ကြီး ငိုလေသည်။

“တခြား ဝမ်းမနည်းပါဘူး ဆရာရယ်၊ အမေက ကျွန်မတို့ မောင်နှမ တွေကိုယုံပြီး ရွာက အိမ်ကလေးရောင်းပြီး လိုက်လာရှာသာ။ အမေတို့ တစ်သက်လုံးနေခဲ့တဲ့ အိမ်ကလေးမှာ သိက္ခာရှိရှိနေတဲ့ကြားက ကျွန်မတို့ကို ငဲ့ပြီး ရောင်းလိုက်ရသာကို ပြောမဆုံးရှာဘူး။ သေတော့ တခြားရွာက မောင့်အိမ်မှာ… ဖြစ်ရပုံများ”

ကြီးတော်သိုင်း ဆုံးပါးခြင်းသည် သလိပ်၊ သည်းခြေ၊ လေ၊ သန္နိပါတ်၊ မပြတ်ယှဉ်မှု၊ ဥတုအာဟာရ၊ ပယောဂနှင့် ကမ္မတရား ဤ ရှစ်ပါးကြောင့်တော့ ဟုတ်ဟန်မတူ။ ရင်ကွဲနာကျခြင်းလည်း ဖြစ်နိုင်သည်။ အိမ်ကွဲနာကျခြင်းလည်း ဖြစ်နိုင်သည်။

